# ဒေါက်တာလှဘေ

## မြန်မာဗုဒ္ဓဘာသာတစ်ယောက်၏ဘဝ
## ပုခက်တွင်းမှသည်
## ဂူတွင်းအထိ

ဒေါက်တာတင်လှိုင်
မြန်မာပြန်



THE MYANMAR BUDDHIST : HIS LIFE FROM
THE CRADLE TO THE GRAVE
DR.HLA PE

ဒို့တာဝန်အရေးသုံးပါး

| | |
|---|---|
| ပြည်ထောင်စုမပြိုကွဲရေး | ဒို့အရေး |
| တိုင်းရင်းသားစည်းလုံးညီညွတ်မှုမပြိုကွဲရေး | ဒို့အရေး |
| အချုပ်အခြာအာဏာတည်တံ့ခိုင်မြဲရေး | ဒို့အရေး |

တပ်မတော်ဖြိုခွဲသူ ဒို့ရန်သူ။

တပ်မတော်ဖြိုခွဲမည့်အကြံ ဒို့လက်မခံ။

ဘယ်သူခွဲခွဲ ဒို့မကွဲ အမြဲစည်းလုံးမည်။

"နိုင်ငံတော်ဖွဲ့စည်းပုံအခြေခံဥပဒေပေါ်ပေါက်ရေးသည်

ပြည်ထောင်စုသား အားလုံး၏ ပဓာနကျသော တာဝန်ဖြစ်သည်"

ပြည်သူ့သဘောထား

* ပြည်ပအားကိုး ပုဆိန်ရိုး အဆိုးမြင်ဝါဒီများအား ဆန့်ကျင်ကြ။
* နိုင်ငံတော် တည်ငြိမ်အေးချမ်းရေးနှင့် နိုင်ငံတော်တိုးတက်ရေးကို နှောင့်ယှက်ဖျက်ဆီးသူများအား ဆန့်ကျင်ကြ။
* နိုင်ငံတော်၏ ပြည်တွင်းရေးကို ဝင်ရောက်စွက်ဖက် နှောင့်ယှက်သော ပြည်ပနိုင်ငံများအား ဆန့်ကျင်ကြ။
* ပြည်တွင်းပြည်ပအဖျက်သမားများအား ဘုံရန်သူအဖြစ် သတ်မှတ် ချေမှုန်းကြ။

နိုင်ငံရေး ဦးတည်ချက် (၄)ရပ်

* နိုင်ငံတော်တည်ငြိမ်ရေး၊ ရပ်ရွာအေးချမ်းသာယာရေးနှင့် တရားဥပဒေ စိုးမိုးရေး
* အမျိုးသား ပြန်လည်စည်းလုံးညီညွတ်ရေး
* ခိုင်မာသည့် ဖွဲ့စည်းပုံအခြေခံဥပဒေသစ် ဖြစ်ပေါ်လာရေး
* ဖြစ်ပေါ်လာသည့် ဖွဲ့စည်းပုံအခြေခံဥပဒေသစ်နှင့်အညီ ခေတ်မီဖွံ့ဖြိုးတိုးတက်သော နိုင်ငံတော်သစ်တစ်ရပ် တည်ဆောက်ရေး

စီးပွားရေး ဦးတည်ချက် (၄) ရပ်

* စိုက်ပျိုးရေးကို အခြေခံ၍ အခြားစီးပွားရေး ကဏ္ဍများကိုလည်း ဘက်စုံဖွံ့ဖြိုး တိုးတက်အောင် တည်ဆောက်ရေး
* ဈေးကွက်စီးပွားရေးစနစ် ပီပြင်စွာ ဖြစ်ပေါ်လာရေး
* ပြည်တွင်းပြည်ပမှ အတတ်ပညာနှင့်အရင်းအနှီးများ ဖိတ်ခေါ်၍ စီးပွားရေး ဖွံ့ဖြိုး တိုးတက်အောင်တည်ဆောက်ရေး
* နိုင်ငံတော် စီးပွားရေးတစ်ရပ်လုံးကို ဖန်တီးနိုင်မှု စွမ်းအားသည် နိုင်ငံတော်နှင့် တိုင်းရင်းသားပြည်သူတို့၏ လက်ဝယ်တွင်ရှိရေး၊

လူမှုရေး ဦးတည်ချက် (၄)ရပ်

* တစ်မျိုးသားလုံး၏ စိတ်ဓာတ်နှင့် အကျင့်စာရိတ္တ မြင့်မားရေး
* အမျိုးဂုဏ်၊ ဇာတိဂုဏ် မြင့်မားရေးနှင့် ယဉ်ကျေးမှုအမွေအနှစ်များ၊ အမျိုးသားရေး လက္ခဏာများ မပျောက်ပျက်အောင် ထိန်းသိမ်းစောင့်ရှောက်ရေး
* မျိုးချစ်စိတ်ဓာတ် ရှင်သန်ထက်မြက်ရေး
* တစ်မျိုးသားလုံး ကျန်းမာကြံ့ခိုင်ရေးနှင့် ပညာရည်မြင့်မားရေး

## Our Three Main National Causes

| | |
|---|---|
| Non-disintegration of the Union | Our cause |
| Non-disintegration of national solidarity | Our cause |
| Consolidation of national sovereignty | Our cause |

## People's Desire

* Oppose those relying on external elements, acting as stooges, holding negative views
* Oppose those trying to jeopardize stability of the State and progress of the nation
* Oppose foreign nations interfering in internal affairs of the State
* Crush all internal and external destructive elements as the common enemy

## Four political objectives

* Stability of the State, community peace and tranquility, prevalence of law and order
* National reconsolidation
* Emergence of a new enduring State Constitution
* Building of a new modern developed nation in accord with the new State Constitution

## Four economic objectives

* Development of agriculture as the base and all-round development of other sectors of the economy as well
* Proper evolution of the market-oriented economic system
* Development of the economy inviting participation in terms of technical know-how and investments from sources inside the country and abroad
* The initiative to shape the national economy must be kept in the hands of the State and the national peoples

## Four social objectives

* Uplift of the morale and morality of the entire nation
* Uplift of national prestige and integrity and preservation and safeguarding of cultural heritage and national character
* Uplift of dynamism of patriotic spirit
* Uplift of health, fitness and education standards of the entire nation

# Dr Hla Pe

## The Myanmar Buddhist : His Life from the Cradle to the Grave

translated by

**Dr Tin Hlaing**

# ဒေါက်တာလှဘေ

## မြန်မာဗုဒ္ဓဘာသာ တစ်ယောက်၏ဘဝ ပုခက်အတွင်းမှသည် ဂူတွင်းအထိ

**ဒေါက်တာတင်လှိုင် မြန်မာပြန်**

ဒေါင်းစာပေ

၁၁၃၊ ၃၃လမ်း(အလယ်)၊ ကျောက်တံတား၊ ရန်ကုန်မြို့။ ဖုန်း-၃၇၃၂၁၀

e-mail: daung73@baganmail.net.mm

# ဒေါက်တာလှဘေရှေး၊ ဒေါက်တာတင်လှိုင် မြန်မာပြန်

## မြန်မာဗုဒ္ဓဘာသာတစ်ယောက်၏ဘ၀ ပုခက်အတွင်းမှသည် ဂူတွင်းအထိ


အင်္ဂလိပ်+မြန်မာနှစ်ဘာသာတွဲပုံနှိပ်ခြင်း

ပထမအကြိမ် - စက်တင်ဘာ၊ ၂၀၀၄

စောင်ရေ - ၅၀၀

တန်ဖိုး - ၁၂၀၀ ကျပ်



ဖြန့်ချိရေး

ဒေါင်းစာပေ

၁၁၃၊ ၃၃လမ်း(အလယ်လမ်း)၊ ကျောက်တံတား၊ ရန်ကုန်မြို့။ ဖုန်း- ၃၇၃၂၁၀

e-mail: daung73@bagonmail.net.mm



ထုတ်ဝေသူ-ဦးကျော်ဟင်း (၀၉၁၀)၊ ယုံကြည်ချက်စာပေ၊ ၁၁၁၊ ၃၃လမ်း၊ ကျောက်တံတား မြို့နယ်၊ ရန်ကုန်မြို့။ အတွင်းနှင့်အဖုံး ပုံနှိပ်သူ-ဦးတင်မောင်ဝင်း (၀၅၉၄၆)၊ သင်းလဲ့ဝင်း ပုံနှိပ်တိုက်၊ အမှတ် ၁၊ ဗိုလ်ရာညွန့်လမ်း၊ ဒဂုံမြို့နယ်၊ ရန်ကုန်မြို့။ စာမူ ခွင့်ပြုချက်အမှတ် ၇၂၄/၂၀၀၃(၁၀)။ မျက်နှာဖုံး ခွင့်ပြုချက် အမှတ်၂၉၉/၂၀၀၄(၆)။

အဖုံးဒီဇိုင်း-နောင်နောင်စိုးသိမ်း

## Foreword
## (to The Myanmar Buddhist: His Life from the Cradle to the Grave)

The first time I met Saya Hla Pe was in 1964 at SOAS on the introduction of Dr. Kyin Swee during my attendance at the Colombo Plan Conference in London. There at his office and over lunch at a nearby Chinese restaurant, we had a lively discussion where I was impressed by Saya's wide knowledge as well as by his kindly sense of humour. My second meeting with Saya was twenty years later in Paris when he came to give eight lectures at the College de France over a period of four weeks. I was then working at Unesco in Paris and was unable to attend any of his lectures which were given during the week but at some weekends my wife and I were able to meet Saya and Daw Than Mya socially at the residence of Professors Lucien and Denise Bernot at Anthony just outside Paris over tea or dinner. I also remember taking the friendly couple out for a drive to the Loire Valley for a leisurely chat in the car and over a liesurely French lunch. During these conversations my London impression of Saya's wide and deep knowledge was further strenghtened. But I must say it reached its climax when I was allowed to read his Paris lectures in original for the purpose of writing a foreword to a bilingual book that U Soe Thein (Maung Wuntha) was preparing for publication with a Myanmar translation by Dr. Tin Hlaing.

Saya's book entitled "The Myanmar Buddhist: His Life from the Cradle to the Grave" (a worthy counterpart to Shway Yoe's "The Burman: His Life and Notions) is divided into two sections, Nurture (geographical, political, cultural, economic, social and family settings) and Nature (birth, schooling, manhood and the relationships involved, old age and death). These are often illustrated by some of his own experiences and observation, cleverly weaving the general and autobiographical, thereby sustaining the interest and attention of the most learned and sophisticated audience that the College de France is. In other words, Saya has successfully presented the image of the Myanmar Buddhists, of whom he is an exemplary one, to the world.

**Retired Ambassador U Thet Tun**

# စကားပလ္လင်

ကျွန်တော် ဆရာလုဘေကို ပထမဦးစွာ တွေ့ဖူးသည်မှာ ၁၉၆၄ - ခုနှစ် လန်ဒန်၌ ကျင်းပသော ကိုလံဘို အစည်းအဝေးတက်နေခိုက် ဒေါက်တာကျင်ဆွိက ဆရာရှိရာ (SOAS) သို့ ခေါ်သွားစဉ်က ဖြစ်ပါသည်။ ဆရာ၏ ရုံးခန်း၌လည်းကောင်း၊ အနီးအနားရှိ တရုတ်စားသောက်ဆိုင်၌လည်းကောင်း အားပါးတရ စကားပြောဆွေးနွေးကြပါသည်။ ထိုစဉ်ကပင် ဆရာ၏ ကျယ်ပြန့်လှသော အသိပညာ၊ ကြင်နာသော ဟာသစိတ်ဓာတ်ကို ကြည်ညိုခဲ့ပါသည်။ ဆရာ့အား ဒုတိယအကြိမ်တွေ့သည်မှာ နောက်အနှစ် ၂၀ အကြာ ၁၉၈၄ - ခုနှစ်တွင် ဆရာ ပါရီရှိ (College de France) ခေါ် ပြင်သစ်ပါရဂူ ပါမောက္ခတို့ စုဝေးရာသို့ တနင်္ဂနွေလေးပတ်ကာလအတွင်း ရှစ်ကြိမ်တိတိ ဟောပြောရန် လာရောက်စဉ်က ဖြစ်ပါသည်။ ထိုစဉ်က ကျွန်တော်ပါရီရှိ ယူနက်စကို၌ ရုံးတက်နေရသောကြောင့် ဆရာ၏ ဟောပြောရာသို့ မသွား ရောက်နိုင်ခဲ့ပါ။ သို့သော် စနေ၊ တနင်္ဂနွေအားလပ်ချိန်တို့၌ ပါရီမြို့ပြင် (Antony) ရှိ ပြင်သစ်ပါမောက္ခ ဇနီးမောင်နှံ (Lucien and Fenise Bernot) တို့၏ နေအိမ်၌ ကျင်းပသော လက်ဖက်ရည်၊ ညစာ တည်ခင်းပွဲတို့၌ ဆရာနှင့် ဇနီး ဒေါ်သန်းမြတို့အား ကျွန်တော့်ဇနီးနှင့်အတူ သွားရောက်တွေ့ဆုံ ဂါရဝပြုခဲ့ကြပါသည်။ ခင်မင်တတ်သော ဆရာဇနီးမောင်နှံအား (Loire Valley) သို့ တစ်နေ့ခေါ်ဆောင်သွားခဲ့ဖူးပါသည်။ ကားထဲ၌လည်းကောင်း၊ ပြင်သစ်နေ့လယ်စာ စားရင်းသော်လည်းကောင်း၊ စိမ်ပြေနပြေ စကားပြောဆိုခွင့် ရရှိခဲ့ပါသည်။ လန်ဒန်၌ တွေ့စဉ်ကလို ဆရာ၏ ကျယ်ပြန့်နက်ရှိုင်းသော ပညာပါရမီကို ကြည်ညိုစိတ် ပိုမိုပွားများ ခဲ့ပါသည်။ သို့သော် ယင်းကဲ့သို့သော ကြည်ညိုစိတ် အထွတ်အထိပ် ရောက်သည်မှာ ဦးစိုးသိမ်း (မောင်ဝံသ) က ဆရာ၏ အင်္ဂလိပ်ဘာသာ ပါရီ ဟောပြောချက်ကို ဒေါက်တာတင်လှိုင်၏ မြန်မာဘာသာ ပြန်ဆိုမှုနှင့် တွဲဖက်၍ထုတ်ဝေမည့် အင်္ဂလိပ်-မြန်မာ နှစ်ဘာသာစာအုပ်တွင် စကားပလ္လင် ရေးခိုင်းသောကြောင့် ဆရာ၏ ပါရီဟောပြောချက်မူရင်းကို ဖတ်ခွင့်ရသည့်အခါ ဖြစ်၏။

ဆရာ၏စာအုပ်မှာ 'ဗုဒ္ဓဘာသာမြန်မာတစ်ဦး၏ ပုခက်တွင်းမှသည် သင်္ချိုင်းတိုင်သို့ ဘဝခရီး' ဟု အမည်တပ်ထားရာ ရွှေရိုး၏ 'မြန်မာတစ်ဦး၏ ဘဝနှင့်ခံယူချက်များ' နှင့် နှိုင်းယှဉ်နိုင်၏။ ဆရာသည် စာအုပ်ကို (Nurture) ပြုစုပေးရာများ၊ (ပထဝီ၊ နိုင်ငံရေး၊ ယဉ်ကျေးမှု၊ စီးပွားရေး၊ လူမှုရေးနှင့် မိသားစုနောက်ခံ) နှင့် (Nature) ဓမ္မတာ (မွေးဖွားခြင်း၊ ပညာသင်ကြားခြင်း၊ လူကြီးဘဝနှင့် သံယောဇဉ်များ၊ ဇရာ၊ မရဏ) ဟု နှစ်ပိုင်း ခွဲခြား ရေးသားထားပြီး ကိုယ်တိုင်တွေ့ကြုံခံစားချက်၊ မှတ်သားချက်တို့ဖြင့် တန်ဆာဆင်ထား၏။ ယေဘုယျနှင့် ကိုယ်တွေ့ကို လုပကျင် လည်စွာ 'သမ' ထားသဖြင့် နားထောင်သူ ပရိသတ် ပြင်သစ်နိုင်ငံ ထိပ်သီးပညာ ရှင်တို့ စိတ်ပါဝင်စားကြ၏။ ဆရာသည် သူကိုယ်တိုင် နမူနာ တစ်ဦးတစ်ယောက် ဖြစ်သည့် 'ဗုဒ္ဓဘာသာမြန်မာ' ၏ ဘဝပုံစံကို ကမ္ဘာ့မြင်ကွင်းသို့ အောင်မြင်စွာ ပို့နိုင်ခဲ့ပေပြီ။

အငြိမ်းစား သံအမတ်ကြီး ဦးသက်ထွန်း

# Biography of
# Professor Hla Pe, MA, Dip Ed,Ph D

1. Born in 1913 in Kha-ye village in Mawlamyaing district, Prof. Hla Pe had his early education in the village monastery, and then in Government High School, Mawlamyaing. He passed tenth standard examination with distinctions in five subjects. Awarded a scholarship for university education, he studied in Yangon University and got BA (Honours) First Class degree in Myanmar language in 1936 and MA (Myanmar) in 1938. He was then selected for a state scholarship for further studies in London.

2. In 1939 he obtained a Diploma in Education from the Institute of Education, London University. Subsequently, he continued his studies in the same university at the School of Oriental Studies (later renamed School of Oriental and African Studies, SOAS) and in 1944 he obtained the PhD degree specializing in Myanmar language.

3. He was a news-commentator, translator and broadcaster with BBC from 1942 to 1946, assistant editor of Myanmar-English Dictionary from 1946 to 1948 and later he became associate editor.

4. Prof Pe taught Myanmar language and culture in SOAS, first as lecturer from 1948, associate professor in 1955 and professor in 1966. In these positions, he taught both undergraduates and graduates, and was an examiner for GCE examinations and Civil Service selection examinations. In addition, he occasionally lectured in European universities.

5. Upon his retirement in 1980, he returned to Myanmar and settled down in Mawlamyaing with wife Daw Than Mya.

6. Prof Hla Pe has, in addition to teaching, published over 60 learned papers and numerous books in English and Myanmar.

7. During retirement in Mawlamyaing, Prof Hla Pe has been invited to lecture in foreign universities. His experiences in these activities are reported in the magazine Ah-Twe Ah-Myin (Thoughts and Views), and most recently in the book 'A Diary of Travels in China', written in Myanmar.

## ပါမောက္ခ ဒေါက်တာလှသော (MA, Dip Ed, Ph D)
## အငြိမ်းစား မြန်မာစာ ပါမောက္ခ (လန်ဒန်တက္ကသိုလ်)
## အတ္ထုပ္ပတ္တိအကျဉ်း

၁။ ၁၉၁၃ ခုဖွား၊ မော်လမြိုင်ခရိုင် ခရဲရွာဇာတိ ဖြစ်၍ ပါမောက္ခလှသောသည် ရွာဘုန်းကြီးကျောင်းတွင် စတင် ပညာသင်ကြားခဲ့သည်။ မော်လမြိုင် အစိုးရ အထက်တန်း ကျောင်းတွင် ဆက်လက် သင်ကြားပြီး ၁၉၃၁ ခုတွင် ၁၀ တန်း စာမေးပွဲကို ဂုဏ်ထူးငါးဘာသာဖြင့် အောင်သည်။ တက္ကသိုလ်ပညာ သင်ဆုပါ ရရှိပြီး ရန်ကုန်တက္ကသိုလ်တက်ခဲ့ရာ ၁၉၃၆ ခုတွင် မြန်မာစာ အထူးပြုပြီး ဝိဇ္ဇာ (ဂုဏ်ထူးတန်း) ဘွဲ့ကို ပထမဆင့်မှ အောင်မြင်သည်။ ၁၉၃၈ ခုတွင် မဟာဝိဇ္ဇာ (မြန်မာစာ)ဘွဲ့ရသည်။ လန်ဒန်တွင် ဆက်လက် ပညာသင်ကြားရန် ပညာတော်သင်အဖြစ် အရွေးခံရသည်။

၂။ ၁၉၃၉ ခုတွင် လန်ဒန်တက္ကသိုလ် ပညာရေးသိပ္ပံကျောင်းမှ ပညာရေး ဒီပလိုမာ ဘွဲ့ ရရှိသည်။ ဆက်လက်ပြီး ထိုတက္ကသိုလ် လက်အောက်ခံ အရှေ့တိုင်း ပညာလေ့လာရေး သိပ္ပံကျောင်း (နောင်တွင် အရှေ့တိုင်းနှင့် အာဖရိက ပညာရပ်လေ့လာရေးသိပ္ပံကျောင်း SOAS) တွင် ပညာသင်ကြားရာ ၁၉၄၄ ခုတွင် PhD ဘွဲ့ကို မြန်မာစာပေ အထူးပြုပြီး ရရှိသည်။

၃။ ဒေါက်တာလှသောသည် ၁၉၄၂-၄၆ အတွင်း ဘီဘီစီ အသံလွှင့်ဌာန၏ သတင်းဝေဖန်သူ၊ ဘာသာပြန်ဆရာနှင့် အသံလွှင့်ကြေညာသူအဖြစ် လုပ်ကိုင် ခဲ့သည်။ ၁၉၄၆-၄၈ တွင် မြန်မာ-အင်္ဂလိပ်အဘိဓာန် ပြုစုရေး လက်ထောက် အယ်ဒီတာအဖြစ် လုပ်ကိုင်ခဲ့ရာ နောင်အခါ တွဲဖက် အယ်ဒီတာ ဖြစ်လာ၏။

၄။ ပါမောက္ခသောသည် SOAS တွင် ၁၉၄၈ မှ စတင်ပြီး ကထိကအဖြစ် မြန်မာ စာပေနှင့် ယဉ်ကျေးမှု သင်ကြား ပို့ချသည်။ ၁၉၅၅ ခုတွင် တွဲဘက် ပါမောက္ခ နှင့် ၁၉၆၆ ခုတွင် ပါမောက္ခအဆင့် ရရှိသည်။ ဤရာထူးများတွင် ဆရာကြီး သည် ဘွဲ့ကြိုနှင့် ဘွဲ့လွန် ကျောင်းသားများကို သင်ကြား ပို့ချခဲ့ပြီး ထိုစဉ် အတွင်း GCE စာမေးပွဲနှင့် (ဗြိတိန်) ဝန်ထမ်းရွေးချယ်ရေး စာမေးပွဲများတွင် စာစစ်ပုဂ္ဂိုလ်အဖြစ် ဆောင်ရွက်ခဲ့သည်။ ထို့ပြင် ဥရောပတက္ကသိုလ်များသို့ သွားရောက်ပြီး အခါအားလျော်စွာ ဟောပြော ပို့ချခဲ့သည်။

၅။ ၁၉၈၀ ပြည့်တွင် ဆရာကြီးသည် အငြိမ်းစားယူပြီး မြန်မာပြည်သို့ ပြန်လာ သည်။ ဇနီး ဒေါ်သန်းမြနှင့် မော်လမြိုင်တွင် အခြေချနေထိုင်သည်။

၆။ ပါမောက္ခဘေသည် သင်ကြားရေး လုပ်ငန်းအပြင် ပညာရပ် စာတမ်း-စာအုပ် ပေါင်း ၆၀ ကျော်ကို အင်္ဂလိပ်/မြန်မာဘာသာဖြင့် ရေးသား ထုတ်ဝေထား သည်။

၇။ မော်လမြိုင်တွင် အငြိမ်းစားဘဝ နေထိုင်စဉ် ပြည်ပ တက္ကသိုလ်ကြီးများက ဖိတ်မန္တက ပြုသဖြင့် ပညာရပ်ဆိုင်ရာ ဟောပြောရသည်။ ဆရာကြီးက ၎င်း ဟောပြောပွဲ ပြည်ပခရီး အတွေ့အကြုံများကို အတွေးအမြင် မဂ္ဂဇင်းတွင် ဆောင်းပါးများ ရေးသားခဲ့ပြီး မကြာသေးမီက တရုတ်ပြည်သွား နေ့စဉ်မှတ် စာတမ်းကို ရေးသား ထုတ်ဝေခဲ့သည်။

----------

# Biography of
# Dr Tin Hlaing, MSc, PhD (London)

Born in 1941 in Thakutpinle village, Ayadaw Township, Monywa District, Tin Hlaing was educated first in the village monastery, then in Royal Diocesan High School, Mandalay. He went to Mandalay University and graduated in 1963 with a BSc (Honours) in physics. In 1972, while working on the staff of Yangon University, he was selected for a Colombo Plan Scholarship under British Council grant. He studied in London University and obtained MSc (with distinction award) in 1973, and Ph D in 1976. He specialised in Nuclear and Elementary Particle Physics.

Tin Hlaing's academic career stretched over thirty years, teaching in the universities of Magway, Yangon, Mawlamyaing and Mandalay. In 1995, he joined Myanmar Scientific and Technological Research Department to head its Atomic Energy Section and Physics and Engineering Section as Director. In 1997, he became the founding Director-General of Atomic Energy Department.

Tin Hlaing was Head of Myanmar Delegation to the IAEA General Conference in 1999 and was five times delegation member. In 1997-98 he was elected Chairman of RCA, the Regional Cooperative Agreement for Training, Research and Development in Nuclear Science and Technology which includes 17 member states in Asia-Pacific Region. For six years he was Myanmar representative in RCA and was active in many of its scientific and technological programmes.

Dr Tin Hlaing also held a part-time professorship in Yangon Technological University for five years.

Since his retirement in 2001, he has become an Executive Fellow of Myanmar Academy of Technology. He is also a Member of New York Academy of Sciences.

Dr Tin Hlaing has written several scientific papers and articles, including two text books and two popular books (Chaos, a scientific exposition and Flying Dragon, a scientific biography). He writes using the pen-name Phoe Hlaing.

Dr Tin Hlaing is married to botanist-lecturer (retired) Daw Mya Mya Swe and they have two sons and one daughter.

# မြန်မာဘာသာပြန်ဆိုသူ
# ဒေါက်တာတင်လှိုင် MSc, Ph D (London) ၏ အတ္ထုပ္ပတ္တိ

၁၉၄၁ ခုဖွား မုံရွာခရိုင် အရာတော်မြို့နယ် သခွတ်ပင်လည်ရွာ ဇာတိဖြစ်သည်။ ရွာမြောက်ကျောင်းခေါ် ဆရာတော် ဦးခန္တီ၏ ရွှေသိမ်တော်တိုက်တွင် ပညာ စတင်သင်ကြားသည်။ ၁၉၅၁ မှ ၅၈ ထိ မန္တလေး ဗိုင်အိုစီဇင်သံတဲ အထက်တန်းကျောင်းတော်တွင် ပညာသင်သည်။ မန္တလေး တက္ကသိုလ်တွင် ဆက်လက် ပညာသင်ပြီး ရူပဗေဒဘာသာဖြင့် သိပ္ပံ (ဂုဏ်ထူးတန်း) ဘွဲ့ကို ၁၉၆၃ တွင် ရရှိသည်။ ၁၉၇၂ တွင် ဗြိတိသျှကောင်စီ (ကိုလံဘိုစီမံကိန်း) စကောလားရှစ်ရပြီး လန်ဒန် တက္ကသိုလ်၌ ဘွဲ့လွန် သင်ကြားသည်။ M.Sc ဘွဲ့ ဂုဏ်ထူးနှင့် အောင်ပြီး ၁၉၇၆ တွင် Ph D ဘွဲ့ရသည်။ နယူကလီယာ ရူပဗေဒ အထူးပြုသည်။

မကွေး၊ ရန်ကုန်၊ မော်လမြိုင်နှင့် မန္တလေး တက္ကသိုလ်များတွင် ဆရာအဖြစ် နှစ် ၃၀ ကျော် သင်ကြားခဲ့သည်။ ၁၉၉၅ တွင် မြန်မာ့သိပ္ပံနှင့် နည်းပညာ သုတေသန ဦးစီးဌာနသို့ ရွှေ့ပြောင်းပြီး ညွှန်ကြားရေးမှူး တာဝန် ထမ်းသည်။ ၁၉၉၇ တွင် အဏုမြူစွမ်းအင် ဦးစီးဌာနကို ဦးစီး တည်ထောင်ခဲ့ပြီး ပထမဆုံး ညွှန်ကြားရေးမှူးချုပ် ဖြစ်သည်။

ဒေါက်တာတင်လှိုင်သည် ၁၉၉၉ တွင် အပြည်ပြည်ဆိုင်ရာ အဏုမြူစွမ်း အင် အေဂျင်စီ (IAEA) ညီလာခံ၌ မြန်မာကိုယ်စားလှယ်အဖွဲ့ ခေါင်းဆောင်အဖြစ် တက်ရောက်ခဲ့သည်။ ထိုညီလာခံ ၅ ကြိမ်တွင် မြန်မာ ကိုယ်စားလှယ် အဖွဲ့ဝင်အဖြစ် တက်ခဲ့သည်။ ၁၉၉၇-၉၈ တွင် RCA ခေါ် အာရှ-ပစိဖိတ်ဒေသ ၁၇ နိုင်ငံ ဝင်ပါသော နယူကလီယာ နည်းပညာ ပူးပေါင်း ဆောင်ရွက်ရေး အဖွဲ့က ဒေါက်တာတင်လှိုင်ကို ဥက္ကဋ္ဌအဖြစ် တင်မြှောက်ခဲ့သည်။ ထိုအဖွဲ့၏ ကော်မတီများတွင် ပါဝင်ခဲ့သည်။

ဒေါက်တာတင်လှိုင်သည် ရန်ကုန် နည်းပညာ တက္ကသိုလ်တွင် အချိန်ပိုင်း ပါမောက္ခအဖြစ် ငါးနှစ် သင်ကြားခဲ့သည်။ ၂၀၀၁ ခု အငြိမ်းစား ယူပြီးနောက် မြန်မာနိုင်ငံ နည်းပညာ ပညာရှင်အဖွဲ့၏ အလုပ်အမှုဆောင်အဖြစ် တာဝန် ထမ်းဆောင်ဆဲ ဖြစ်သည်။ နယူးယောက် သိပ္ပံအကယ်ဒမီ အဖွဲ့ဝင်လည်း ဖြစ်သည်။

သုတေသန စာတမ်းများ ဆောင်းပါးပေါင်းစုံနှင့် တက္ကသိုလ်သုံး စာအုပ် နှစ်အုပ် (အင်္ဂလိပ်ဘာသာနှင့်) ရေးသားသည်။ စာအုပ် နှစ်အုပ် (သိပ္ပံပညာပေးခေးအော့(စ) နှင့် ပိုးချည်မျှင်မိုးနဂါးပညာရှင် အတ္ထုပ္ပတ္တိ) ရေးသားသည်။ ဘိုးလှိုင်ကလောင်အမည်နှင့် ဆက်လက်ပြီး စာပေ ရေးသားနေသည်။

ဇနီး ဒေါ်မြမြဆွေ (အငြိမ်းစား ရုက္ခဗေဒ ကထိက) နှင့် သားသမီး ၃ ယောက် ရှိသည်။

----------

## CONTENTS

# မာတိကာ

# TRANSLATOR'S FOREWORD

## Prof Hla Pe and I

I first met Professor Hla Pe in London in September 1972, when I arrived there for further studies. I had brought books for him from Ludu U Hla and Daw Ahmar and also a letter of introduction from Botany Professor Dr Than Htun. Our meeting lasted only about half-an-hour. I vaguely remember his office in a building in Fitzory Square.

Since then I have the good fortune to know him intimately and to listen to his most informative conversations on various subjects.

## London University

Around 1973, I believe, Prof Hla Pe's School of Oriental and African Studies London (SOAS) moved to its present site near the University Senate House in Malet Street. And, I was accommodated in International Hall nearby. In fact, it was Prof Pe who introduced me to Mr John Bracken, Deputy Warden of International Hall. Thus, either after my visits to the University Library in Senate House or when I happened to pass near SOAS, I would go in to see him, mostly without an appointment. Sometimes, there would be a few of us, Myanmar chaps, going to visit him. Prof Hla Pe and I have, between us, a common institution, the University of London. He was in SOAS and I in Bedford College in Regent's Park. But there was also a divide between us; to use C.P. Snow's term, we belonged to 'two cultures'. He was a professor of Myanmar language, literature and culture, and I a student studying physics. He worked in the *'culture of culture'* and I was deep in the *'culture of science'*.

I should remark here that London University is an immense body with its colleges and schools spread over the city. The structure seems very loose; the colleges are many and quite independent. Students in one college have not much chance of meeting or knowing professors in other colleges.

## Prof Pe, Prof Rice-Evans and the Great Golden Rock

I remember one special occasion. Britain-Burma (Myanmar) Society used to invite us to their meetings. In one event, they had a presentation of Myanmar life, arts and culture and the society encouraged us to bring our guests. So, I invited my supervisor Dr Peter Rice-Evans (now Emeritus Professor of Experimental Physics) to come with me to the meeting. To my delight, he was very much interested in the presentation. I have forgotten its subject as well as who the speaker was. But I remember

the party that followed. I introduced Dr Rice-Evans to Prof Pe. After all, they were teaching in the same university! Dr Rice-Evans grabbed the chance to ask some questions relating to Myanmar.

Dr Rice-Evans asked Prof Pe, 'Tin* has at his desk a Myanmar calendar with the picture of a Big Golden Rock, breath-takingly balanced. Is that real? I wonder if you could tell me something about it'. I was delighted when Prof Pe told him, elaborately in fact, about the story of *'The Rock at Kyaik-Htee-Yoe,* the head of the hermit etc and the pilgrimage to it; the pleasant, winding, rising way up to the Rock.' For days and months, I had failed to tell him the story. I felt it was shame on me, for I hadn't bothered to remember the story nor tried to learn it anew, so I could tell friends who visited me at my desk and sat infront of the Golden Rock.

**Karma at Work**

Again, our karmas have seen to it that we met again in Mawlamyaing when Prof Pe returned to settle down there after his retirement in 1980. I was on the staff of Mawlamyaing College** as Head of Physics Department. I lived on campus and Prof Pe's home was not far away. This time my wife and children were introduced to Sayagyi and (Ma Ma) Daw Than Mya. Their place is in Taungwaing Road, on our way into town. Occasionally we stopped there, especially when we saw Sayagyi at work (?) in his garden. Also, I would make a point of inviting them to centain ceremonial occassions in the college.

**About This Book**

One day in 1983 or 1984 Sayagyi Dr Hla Pe asked me if I could find him a typist who could type English correctly. He told me, he was invited by College de France in Paris to deliver a course of lectures. He had prepared a manuscript for the course and he wanted it typed. Those were pre-PC days. Typists, there were in Mawlamyaing, but I do not know any one who could competently type a learned document in English.

Confident that I could do it better and perhaps bring any inadvertant mistakes to the scholar's attention, I volunteered to type it myself. There was not much time available and I was slow. I started working on an Olympia machine going at my own pace. Then it was found I would not be finishing it in time. So, I sought the assistance of U Thein Lwin, college

---

* Tin (Hlaing)

** now Mawlamyaing University

librarian (at present Professor of Library and Information Science at Yangon University). He agreed to help and we took turns at the typewriter. Finally, we finished the manuscript; but, alas, not without mistakes. There were plenty of mistypes and mistakes and omissions which the author took care to correct with a pen.

We did not have Xerox copiers then. We made two carbon copies together with the ribbon-original. Prof Hla Pe took the original to Yangon, where, I believe he made a few photo copies. U Thein Lwin reserved one copy for college library; I kept one for myself.

Sayagyi went to Paris and gave the lectures for which the manuscript formed the basis.

In 1986, I was transferred to Mandalay University, and again in 1995 I moved to Yangon. But I did not leave behind Sayagyi's manuscript. It has been with me ever since.

I retired from government service in 2001. Not having anything worthwhile doing, I attempted writing articles for magazines, using a pen-name. When friends asked me, 'What are you up to these days?', I would answer 'Writing, bits and pieces'. In the mean time, I have come to know Saya Maung Wun Tha, author and publisher whose Daung Sar Pay has been producing Sayagyi Dr Hla Pe's books in Myanmar. One day, Saya Wun Tha told me January 8, 2003 was Prof Pe's ninetieth birthday and he and a few friends were going to Mawlamyaing for the occasion. He asked me if I could come too. I was sorry, I couldn't join them.

**Something for Sayagyi's Ninetieth Year**

But I felt I wanted to do something for Sayagyi's ninetieth anniversary. After some thought, I remembered the manuscript that has been with me. It has not been published, and only three Myanmar people or perhaps a few more know of its existence. Its contents are invaluable. I decided it should be translated, and I should do it myself to produce a bilingual book. I discussed the idea with Saya Wun Tha. He readily accepted my proposal and agreed to publish it bilingually.

**My Hope**

I have come across Myanmar friends, both at home and aboard, confronted with the task of explaining to foreigners, especially Westerners, the subtle and intricate aspects of Myanmar culture and traditions. I witnessed many times, someone muddling through in his attempts, and often resorting to outright bluff. I do not leave myself as an exception.

I have admitted my weakness with regard to Kyaik-Htee-Yoe. We really need to learn more.

Professor Hla Pe has done a superb job in his presentation in Paris in 1984. This is reproduced in this book. His mastery of facts and command of English language are evident. It is really difficult to find words to dercribe a Myanmar **ဘိုးတော်** or **ဆေးဆရာ** or **ဖူးစာရေးနတ်**, or **ခဲဘိုး**; yet he has done it with wonderful precision and lucidity.

My coupling of the translation to the English version is to give the average Myanmar reader a better understanding of the facts. He could scan through the Myanmar section and glance for the English equivalent of expression; or he could begin reading in English and look through the Myanmar text to verify his understanding.

Thus, it is my hope, indeed a great hope, that this book will help Myanmar readers to develop the power of expressing in English the true aspects of Myanmar life and culture. 'Cetana is Karma', says the Buddha. May this 'cetana' of mine develop into my good karma in future.

**Request**

I have tried very hard to make the best translation I could. Translating a learned work like this one, dealing with religious, cultural and sociological aspects is a daunting task. It is a real challenge especially for a scientist that I am.

But there is the intense desire to honour Sayagyi Dr Hla Pe in his ninetieth year. It has motivated me.

In a work of this nature, as translator, I am bound to make mistakes in various ways. Any appearence of conveying a wrong intepretation is the fault of the translator, and not of Prof. Pe's. Readers finding any mistakes are requested to make their own corrections.

Also, it should be mentioned, Prof Hla Pe did not revise the text. Proof reading and editing of the final English version has also been done by me. As such, I should be held responsible for any errors in both the English and Myanmar components of this book.

**Acknowledgements** : I thank Prof U Thein Lwin who helped me in typing the original manuscript. I must also thank my wife Daw Mya Mya Swe and daughter Yaung Zin Hlaing for their interest and for their interjections concerning some Myanmar usages. And finally, I thank Saya Maung Wun Tha for his involvement.

# ဘာသာပြန်သူ၏ ရှေးဦးစကား

## ပါမောက္ခလှုဘောနှင့် ကျွန်တော်

၁၉၇၂ ခုနှစ် စက်တင်ဘာလတွင် ပါမောက္ခလှုဘော* ကို ကျွန်တော် ပထမ အကြိမ် တွေ့ပါသည်။ ကျွန်တော် ဘွဲ့လွန်ပညာ သင်ရန် လန်ဒန်သို့ ရောက်လာပြီး တွေ့ခြင်းဖြစ်၏။ ကျွန်တော်နှင့်အတူ လူထုဦးလှ-ဒေါ်အမာတို့ ဆရာ့အတွက် ပေးလိုက်သော စာအုပ်များ ပါလာပါသည်။ ရုက္ခဗေဒပါမောက္ခ ဒေါက်တာ သန်းထွန်း ရေးပေးလိုက်သော မိတ်ဆက်စာလည်း ပါလာ၏။ ကျွန်တော်တို့ နာရီဝက်ခန့်သာ တွေ့ဆုံ စကားပြောခဲ့ပါသည်။ တွေ့ဆုံသည့် နေရာမှာ ဖစ်ရွိုင်စကွဲယား လေးထောင့် ကွက်လမ်းရှိ အဆောက်အဦမှ ဆရာ၏ ရုံးခန်းဖြစ်ကြောင်း ကျွန်တော် ရေးရေး မှတ်မိပါသည်။

ထိုအချိန်မှစပြီး ကျွန်တော်သည် ကံကောင်းထောက်မသဖြင့် ဆရာအား အကြိမ်များစွာ တွေ့ရသည်။ ဆရာ၏ ဗဟုသုတဖြစ်ဖွယ် အကြောင်းအရာမျိုးစုံ ပြောစကား နာကြားရသည်။

## လန်ဒန်တက္ကသိုလ်

၁၉၇၃ ခု ခန့်တွင် ပါမောက္ခလှုဘော၏ အရှေ့တိုင်းနှင့် အာဖရိက ပညာရပ်ကောလိပ်** လန်ဒန်တက္ကသိုလ် (အတို SOAS) သည် ယခုလက်ရှိ နေရာ ဖြစ်သော မယ်လေးလမ်းရှိ တက္ကသိုလ်ဆိနိတ်ဆောင်အနီး ပြောင်းရွှေ့ခဲ့ပါသည်။ ကျွန်တော်က ထိုအနီးရှိ အင်တာနက်ရှင်နယ်ဟော*** ခေါ် နိုင်ငံစုံ ကျောင်းသား ဆောင်တွင် နေထိုင်လျက်ရှိ၏။ ပါမောက္ခဘောကပင် ကျွန်တော့်ကို နိုင်ငံစုံ ကျောင်းသားဆောင်၏ ဒုတိယအဆောင်မှူး ဂျွန်ဘရက်ကင်နှင့် မိတ်ဆက် ပေးပါ၏။ သို့ဖြင့် ကျွန်တော် ဆိနိတ်ဆောင်ရှိ တက္ကသိုလ်စာကြည့်တိုက်မှ အပြန် ဖြစ်စေ SOAS အနီး ဖြတ်သန်းသွားသည့်အခါ ဖြစ်စေ ဆရာ့ထံ ဝင်တွေ့တတ်၏။

---

* ပါမောက္ခသည် ဘွဲ့တစ်ခုဖြစ်၏။ ဒေါက်တာဘွဲ့ထက် မြင့်၏။ ထို့ကြောင့် ပါမောက္ခပါလျှင် ဒေါက်တာ မလိုပါ။ အလုပ်သဘောပါသောအခါ ပါမောက္ခသုံးမည်။ ရင်းနှီးသူက ဒေါက်တာသုံးမည်။ သိပ်ရင်းနှီးသူက ပထမနာမည်/ငယ်နာမည်ခေါ်မည်။

** တက္ကသိုလ်အဆင့်တွင် School သည် အထူးပြု သင်ကြားရန် ပညာရပ်နယ် သတ်မှတ်ထားသော ကောလိပ်ဖြစ်၏။ ဘာသာစုံ သင်ကြားသော ကောလိပ်ကိုမူ College ခေါ်၏။

*** ကျောင်းသားနေ အဆောက်ကို အင်္ဂလိပ်က Hall ဟု သုံးပါသည်။ Residential Hall ဖြစ်သည်။ Hostel ဟု မသုံးပါ။

အချိန်းအချက်မလုပ်ဘဲ ဝင်တွေ့ခြင်း ဖြစ်၏။ တစ်ခါတစ်ရံ မြန်မာကျောင်းသား အချို့ အစုဖြင့် သွား၏။ ပါမောက္ခလှဘေနှင့် ကျွန်တော်တို့ကြားတွင် နှစ်ဦးဆိုင် အဖွဲ့အစည်းကြီး ဖြစ်သော လန်ဒန်တက္ကသိုလ် ရှိနေ၏။ ဆရာက SOAS တွင် ကျွန်တော်က ရီဂျင့်ပန်းခြံတွင်းရှိ ဘက်ဖို့ကောလိပ်တွင် ဖြစ်၏။ သို့သော် ဆရာနှင့် ကျွန်တော်ကြား ခြားနေသော စည်းတစ်ခုက ရှိပြန်သေး၏။ စီပီစနိုး သုံးနှုန်းသော 'ယဉ်ကျေးမှုနှစ်မျိုး' ရှိရာ ကျွန်တော်တို့သည် တစ်ဦး ယဉ်ကျေးမှုတစ်မျိုးစီ ဖြစ်နေကြ၏။ ဆရာက မြန်မာဘာသာစာပေနှင့် ယဉ်ကျေးမှုရေးရာပါမောက္ခ၊ ကျွန်တော်က ရူပဗေဒသင်ယူနေသော ကျောင်းသား။ ဆရာက 'ယဉ်ကျေးမှုနယ်မှ ယဉ်ကျေးမှုသမား' ဖြစ်၏။ ကျွန်တော်ကမူ 'သိပ္ပံယဉ်ကျေးမှုနယ်သား' ဖြစ်နေ၏။

လန်ဒန်တက္ကသိုလ်သည် အလွန်ကြီးမားသော အဖွဲ့အစည်းကြီး ဖြစ်၏။ ကောလိပ်ပေါင်းများစွာသည် မြို့တော်တစ်ခွင် အနှံ့ ပြန့်နေသည်၊ ဖွဲ့စည်းပုံက လျော့ရဲရဲ ဖြစ်၏။ ကောလိပ်ပေါင်း များစွာရှိရာ အားလုံး အတော်ပင် လွတ်လပ်စွာ စီမံအုပ်ချုပ်ခွင့် ရှိကြ၏။ ကောလိပ်တစ်ခုမှ ကျောင်းသားသည် အခြားကောလိပ် တစ်ခုမှ ပါမောက္ခများကို တွေ့ဆုံသိကျွမ်းရန် အခွင့်အလမ်း သိပ်မရှိချေ။

## ပါမောက္ခဘေ၊ ပါမောက္ခရိုက်(စ)အီဗန်နှင့် ရွှေအဆင်း ကျောက်တုံးကြီး

ကျွန်တော် ပွဲတစ်ပွဲကို သတိရပါသည်။ ဗြိတိန်-မြန်မာအသင်းသည် ကျွန်တော်တို့အား အသင်းအစည်းအဝေးများသို့ ဖိတ်ကြားလေ့ရှိ၏။ ပွဲတစ်ပွဲတွင် မြန်မာ့ဘာဝ ယဉ်ကျေးမှုနှင့် အနုပညာတင်ဆက်ပွဲ ပါဝင်လေသည်၊ ထိုပွဲသို့ ကျွန်တော်တို့ကို ဖိတ်ခေါ်ရုံမက ဧည့်သည်ပါ ခေါ်ဆောင်လာနိုင်ကြောင်း ခွင့်ပေး၏။ ထို့ကြောင့် ကျွန်တော်၏ ပညာရပ် ကြီးကြပ်သူ ဒေါက်တာပီတာ ရိုက်(စ)အီဗန် (ယခု လန်ဒန်တက္ကသိုလ် ဂုဏ်ထူးဆောင်ရူပဗေဒပါမောက္ခ) အား ကျွန်တော်နှင့် ဗြိတိန်-မြန်မာပွဲလိုက်ခဲ့ရန် ဖိတ်ခေါ်ခဲ့၏။ ဆရာ ပီတာရိုက်(စ်) အီဗန်သည် တင်ပြသော မြန်မာပွဲကို အလွန်စိတ်ဝင်စားလေရာ ကျွန်တော်က ဝမ်းမြောက်ဝမ်းသာ ဖြစ်ရ၏။ မြန်မာ့ဘာဝ ယဉ်ကျေးမှုနှင့် အနုပညာကို မည်သူက တင်ဆက်သည်၊ ဘာအကြောင်းအရာဖြစ်သည် မမှတ်မိတော့ပါ။ သို့သော် ထိုပွဲ၏ နောက်ဆက်တွဲ ပါတီကို ကျွန်တော် သတိရပါသည်၊ ကျွန်တော်က ဒေါက်တာ ပီတာရိုက်(စ်) အီဗန်ကို ပါမောက္ခဘေနှင့် မိတ်ဆက်ပေးပါသည်၊ တကယ်တော့ သူတို့သည် တက္ကသိုလ်တစ်ခုတည်းမှ ဆရာများ ဖြစ်ကြ၏။ ဒေါက်တာရိုက်(စ)အီဗန်က အခွင့် ကောင်းရသည်နှင့် မြန်မာနှင့်ဆိုင်သော မေးခွန်းအချို့ မေးလေသည်၊

ဒေါက်တာရိုက်(စ)အီဗန်က ပါမောက္ခဘေအား ပြောပါသည်။ 'တင်*(လှိုင်) ရဲ့ စားပွဲမှာချိတ်ထားတဲ့ မြန်မာပြက္ခဒိန် ရှိတယ်။ အဲဒီပေါ်က 'ရွှေရောင် ကျောက်တုံးကြီး' လိမ့်မကျဘဲ ငြိမ်နေပုံက ရင်တမမပဲ၊ အဲဒါကြီး တကယ်ရှိသလား၊ အဲဒီအကြောင်းများ ပြောနိုင်ရင် ပြောပြစေချင်လိုက်တာ"။ ပါမောက္ခဘေက သူ့ကို အသေးစိတ် ရှင်းပြသည်ကို ကြားရသဖြင့် ကျွန်တော် ကြည်နူးရပါသည်။ 'ကျိုက်ထီးရိုး ကျောက်တုံးကြီး၊ ရသေ့ကြီးဦးခေါင်း၊ ဘုရားဖူးခရီး၊ တောင်အတက် လှပသာယာသော ကွေ့ကောက် အတက်ခရီး' အကြောင်း ပြောပြသည်။ ကျွန်တော်ကမူ ရက်တွေ လတွေ ချိပြီး ကျိုက်ထီးရိုးအကြောင်း ပြောမပြဖြစ်။ ပြောမပြတတ်သည်မှာ ကျွန်တော်အတွက် ရှယ်ဖွယ်ဟု ခံစားရပါ၏။ ကျွန်တော်ကလည်း အမှတ်မထားခဲ့မိ။ ကျွန်တော့် စားပွဲသို့ ရောက်လာပြီး ဘုရားပုံရှေ့မှာ ထိုင်ရသော မိတ်ဆွေများကို ရှင်းလင်းပြောပြရန်လည်း လေ့လာမထားမိချေ။

## ကံက ဖန်လေသည်

တဖန် ကျွန်တော်တို့ ကံက ဖန်လာပြန်သည် ထင်ပါ၏။ ပါမောက္ခဘေသည် အငြိမ်းစားယူပြီး မော်လမြိုင်တွင် နေထိုင်ရန် ၁၉၈၀ ပြည့်တွင် ပြန်လာသဖြင့် ဆရာနှင့် ကျွန်တော် ပြန်လည်ဆုံစည်းရ၏။ ထိုစဉ်က ကျွန်တော်သည် မော်လမြိုင် ကောလိပ်တွင် ဆရာဖြစ်၏။ ရူပဗေဒဌာနမှူး တာဝန်ထမ်းနေသည်။ ကျွန်တော်က ကောလိပ်ဝင်းတွင်း နေထိုင်ရာ ဆရာ၏ အိမ်နှင့် သိပ်မလှမ်းပါ။ ဤအချိတွင် ကျွန်တော့် ဇနီး သားသမီးများကို ဆရာကြီးနှင့် (မမ) ဒေါ်သန်းမြတို့အား ပြသ မိတ်ဆက်ရသည်။ ဆရာတို့ အိမ်က တောင်ဝိုင်းလမ်းတွင် ဖြစ်၍ ကျွန်တော်တို့ မြို့ထဲသွားရာ လမ်းပေါ်တွင် ရှိ၏။ တစ်ခါတစ်ရံ ဆရာ့အိမ် ဝင်ကြသည်။ အထူး သဖြင့် သွားရင်းလာရင်း ဆရာ ပန်းခြံတွင်းတွင် အပန်းဖြေနေသည် တွေ့မြင်က ဝင်တွေ့တတ်၏။ ကောလိပ်တွင် အခမ်းအနား တချို့သို့လည်း ဆရာတို့ ဇနီးမောင်နှံ ကြွရောက်ရန် ကျွန်တော်က စီစဉ် ဖိတ်ကြားလေ့ရှိ၏။

## ဤစာအုပ်အကြောင်း

၁၉၈၃ သို့မဟုတ် ၁၉၈၄ တွင် ဆရာကြီးဒေါက်တာလှဘေက အင်္ဂလိပ် လက်နှိပ်စက် ကောင်းကောင်း ရိုက်တတ်သူ ရှာပေးပါဟု ကျွန်တော်ကို ပြော၏။ ဆရာက ပါရီမြို့ရှိ ပြင်သစ်ကောလိပ်ကျောင်းမှ ဟောပြောသင်တန်းတစ်ခု လာပြီး

* အင်္ဂလိပ်က ရင်းနှီးသူကို ပထမ အမည်တစ်လုံးသာ ခေါ်ပါသည်။ တင် (လှိုင်) ကို ရင်းနှီးသူ အပေါင်းက တင် ဟု ခေါ်သည်။

ဟောပြောပေးရန် ဖိတ်ကြားလာကြောင်း ပြောပြပါသည်။ ထိုအတွက် ဆရာသည် ဟောပြောမည့် အကြောင်းအရာကို စာမူ ရေးထားသည်။ လက်နှိပ်စက် ရိုက်ရန် လိုသည်။ ထိုခေတ်အခါက ပီစီ-ကွန်ပျူတာ မရှိသေးပါ။ မော်လမြိုင်တွင် လက်နှိပ်စက် ရိုက်သူတွေ ရှိပါ၏။ သို့သော် ပညာရပ် စာတမ်းတစ်စောင်တစ်ဖွဲ့ကို အင်္ဂလိပ်လို အမှားကင်းကင်း ရိုက်နိုင်သူ ရှားလှ၏။ (ရှိသည်ကို ကျွန်တော် မသိ)။

ကျွန်တော် ရိုက်ပေးလျှင် ပိုကောင်းမည်ဟု ယုံကြည်သည့်အတိုင်း ကိုယ်တိုင် လက်နှိပ်စက် ရိုက်ပေးပါမည်ဟု ဆရာ့ကို ပြောလိုက်၏။ ကျွန်တော် ရိုက်လျှင် ပိုကောင်းမည်။ ဆရာက အမှတ်တမဲ့ မှားခဲ့လျှင်တောင် ကျွန်တော်က ပြောပြ ပြုပြင် ပေးနိုင်မည်ဟု ထင်နေသည်။ အချိန်သိပ်မရပါ။ ကျွန်တော့် ရိုက်နှုန်းက နှေးကွေးလှ သည်။ အိုလံပီယာလက်နှိပ်စက်နှင့် ကိုယ်စွမ်းသလောက် စတင် ရိုက်ပါသည်။ မကြာမီပင် ကျွန်တော် သွားသည့်နှုန်းနှင့် အချိန်မီ မပြီးနိုင်ကြောင်း တွေ့လာရ တော့၏။ ထို့ကြောင့် ကောလိပ်စာကြည့်တိုက်မှူး ဦးသိန်းလွင် (ယခု ရန်ကုန် တက္ကသိုလ်တွင် စာကြည့်တိုက်နှင့် သုတပညာပါမောက္ခ) ကို အကူအညီ တောင်းပါ သည်။ သူက ဝင်ရောက် ကူညီလာသဖြင့် ကျွန်တော်တို့ စက်မနား လူသာနားပြီး တစ်လှည့်စီ လုပ်ကြသည်။ နောက်ဆုံး စာမူ ပြီးသွား၏။ သို့သော် အမှားမကင်းပါ။ ရိုက်မှားထားမှားတွေ အများကြီး၊ ကျန်ရစ်သည်ကလည်း ရှိ၏။ စာရေးသူ (ဆရာကြီး) ကိုယ်တိုင်လက်နှင့် ဂရုတစိုက် ဖြည့်ရ ပြင်ရလေသည်။

ထိုအချိန်က မိတ္တူကူးစက် မရှိသေးပါ။ ကာဘွန်ကော်ပီ နှစ်ခု ယူလိုက်သည်။ မူရင်း (ပထမ) ကော်ပီကို ပါမောက္ခလှဘေက ယူပြီး ရန်ကုန်တွင် နောက်ထပ် မိတ္တူစောင်ရေ နည်းနည်း ပွားသည်ဟု ထင်ပါ၏။ ဦးသိန်းလွင် ယူသော မိတ္တူကို စာအုပ်ချုပ်ပြီး မော်လမြိုင်ကောလိပ်စာကြည့်တိုက်တွင် ထားပေးပါသည်။ ကျန်မိတ္တူ ကို ကျွန်တော် ယူထားလိုက်ပါသည်။

ဆရာကြီး ပါရီသွားပြီး ဟောပြောပါသည်။ ယူသွားသော စာမူကို အခြေခံ ထား ဟောပြောခြင်း ဖြစ်၏။

၁၉၈၆ ခုတွင် ကျွန်တော် မန္တလေးတက္ကသိုလ် ပြောင်းရွှေ့ တာဝန်ထမ်းရပါ သည်။ ၁၉၉၅ ခုတွင် ရန်ကုန်သို့ ထပ်မံ ပြောင်းရပြန်၏။ သို့သော် ဆရာကြီး၏ စာမူကို ပစ်မထားခဲ့ပါ။ ပြောင်းလေရာ သယ်ခဲ့သဖြင့် ကျွန်တော်နှင့်အတူ အမြဲ ရှိနေပါသည်။

၂၀၀၁ ခုတွင် ကျွန်တော် အငြိမ်းစားယူပါသည်။ တူတူတန်တန် အလုပ် လုပ်စရာ မရှိသဖြင့် ကျွန်တော် မဂ္ဂဇင်းစာစောင် အချို့တွင် ကလောင်နာမည်ခံပြီး

တိုတိုထွာထွာ ရေးပါသည်။ မိတ်ဆွေများက 'ခင်ဗျား အခုတလော ဘာတွေများ လုပ်နေတုန်း' ဟု မေးလာလျှင် ကျွန်တော်က 'စာရေးနေတယ်၊ ဟိုဟာ ဒီဟာ တိုတို ထွာထွာ' ဟု ပြန်ဖြေရသည်။ ဤအတောအတွင်း ကျွန်တော် စာရေးဆရာ မောင်ဝံသနှင့် သိကျွမ်းခင်မင်လာသည်။ သူ၏ ဒေါင်းစာပေက ပါမောက္ခ ဒေါက်တာ လှဘေ၏ မြန်မာဘာသာနှင့် စာအုပ်များကို ထုတ်ဝေနေသည်။ တစ်နေ့တွင် ဆရာ ဝံသက ပြောပါ၏။ ၂၀၀၃ ခု ဇန်နဝါရီ (၈) ရက်နေ့သည် ဆရာကြီး ဒေါက်တာ လှဘေ၏ နှစ် ၉၀ ပြည့် မွေးနေ့ ဖြစ်သည်။ သူနှင့် မိတ်ဆွေအချို့ ထိုပွဲအတွက် မော်လမြိုင် သွားကြမည်။ ကျွန်တော် လိုက်နိုင်က လိုက်ခဲ့ပါဟု ခေါ်ပါသည်။ ကျွန်တော် မလိုက်နိုင်ခဲ့ပါ။ ဝမ်းနည်းပါ၏။

## ဆရာကြီး၏ နှစ် ၉၀ ပြည့် အတွက် တစ်ခုခုလုပ်ချင်

ကျွန်တော်က ဆရာကြီး၏ နှစ်ကိုးဆယ်ပြည့် အထိမ်းအမှတ် တစ်ခုခုလုပ်ရန် ဆန္ဒရှိပါသည်။ စဉ်းစားလိုက်သောအခါ ကျွန်တော့်ထံတွင် ရှိနေသော ဆရာ၏ စာမူကို သတိရလာသည်။ ဤစာမူကို မထုတ်ဝေရသေး။ မြန်မာသုံးယောက်သာ ဤစာမူအကြောင်း သိသည်။ သိထားသူ အနည်းအငယ် ပိုနိုင်သည်။ စာမူပါ အကြောင်းအရာများက တန်ဖိုး ဖြတ်မရနိုင်ချေ။ ဤစာမူကို ဘာသာပြန်သင့်သည်၊ ကျွန်တော်ကိုယ်တိုင် ပြန်ဆိုပြီး အင်္ဂလိပ်-မြန်မာ နှစ်ဘာသာနှင့် စာအုပ် ထုတ် သင့်သည်။ ဤအတွေးကို ကျွန်တော် ဆရာဝံသနှင့် တိုင်ပင်ကြည့်သည်။ သူက ချက်ချင်း လက်ခံ သဘောတူ၏။ စာအုပ်ကို နှစ်ဘာသာနှင့် ထုတ်ဝေပါမည်။

## မျှော်လင့်ချက်

မြန်မာယဉ်ကျေးမှုနှင့် ရိုးရာအစဉ်အလာများအကြောင်း နိုင်ငံခြားသားများ အထူးသဖြင့် အနောက်တိုင်းသားများအား ရှင်းပြရန် ကိစ္စကြုံရသော မြန်မာ မိတ်ဆွေများစွာကို ပြည်တွင်းရော ပြည်ပတွင်ပါ ကျွန်တော် တွေ့ခဲ့ရပါသည်။ ဤအလုပ်က သိမ်မွေ့ရှုပ် ထွေးပါသည်။ မရှင်းမလင်းနှင့် ဝါးတားတား ပြောလိုက် သောသူ၊ တစ်ခါတစ်ရံတွင် ပြောင်ကြီး ညာဝါးချလိုက်သူတွေပင် တွေ့ရပါသည်။ ဤထဲမှာ ကျွန်တော့်ကိုယ် ကျွန်တော် 'ငါ မပါ' ဟု ခြွင်းချက်မထားပါ။ 'ကျိုက်ထီးရိုး' နှင့် ပတ်သက်ပြီး ကျွန်တော်၏ အားနည်းချက်ကို အထက်တွင် ဝန်ခံပြီးပါပြီ။ ကျွန်တော်တို့ သင်ယူ မှတ်သားစရာ များစွာ လိုနေပါသည်။

ပါမောက္ခလှဘေ၏ ပါရီတွင် ၁၉၈၄ ခုက တင်ပြ ဟောပြောချက်သည် အလွန်

အဆင့်မြင့်ပါသည်။ ထိုပောပြောချက်ကို ဤစာအုပ်တွင် ရိုက်နှိပ်ထားပါသည်။ ဆရာကြီး၏ အချက်အလက် ပြည့်စုံခိုင်မာခြင်း၊ အင်္ဂလိပ်ဘာသာစကား ကျွမ်းကျင်ခြင်းသည် ဤ စာအုပ်၌ ထင်ရှားပေါ်လွင်ပါသည်။ 'ဘိုးတော်' 'ဆေးဆရာ' 'ဖူးစာရေး နတ်' စသော မြန်မာအသုံးအနှုန်းကို အင်္ဂလိပ်ဝေါဟာရ ရှာရန် အမှန်ပင် ခက်ခဲ ပါ၏။ (ပြောလိုက်လျှင်တော့ ဟုတ်ပေသားပဲဟု ထင်မည်၊ ကိုယ့်ဘာသာဆိုက မစဉ်းစားမိပါ။) ဆရာကြီးကတော့ ဤခက်ခဲသော အလုပ်ကို မှန်ကန်တိကျပြီး ပြတ်သားရှင်းလင်းစွာ ပြောဟော (ရေးသား) ခဲ့ပါပြီ။

ဆရာကြီး၏ အင်္ဂလိပ်နှင့် ရေးသားချက်ကို မြန်မာပြန်နှင့် ကျွန်တော်က ယှဉ်တွဲ ဖော်ပြထားသည်မှာ သာမန် မြန်မာစာဖတ်သူကို ပိုမို နားလည် သဘော ပေါက်စေလို၍ ဖြစ်ပါသည်။ မြန်မာပိုင်းကို ကြည့်ပြီး မြန်မာ အသုံးအနှုန်းအတွက် အင်္ဂလိပ်ဝေါဟာရကို အင်္ဂလိပ်ပိုင်းတွင် ရှာကြည့်နိုင်သည်။ သို့မဟုတ် အင်္ဂလိပ်လို စတင် ဖတ်ရှုပြီး မိမိ နားလည်ထားသည်များ ဟုတ်မဟုတ်ကို မြန်မာပြန်နှင့် တိုက်ဆိုင် ကြည့်နိုင်ပါသည်။

ထို့ကြောင့် မြန်မာ့ဘာဝနှင့် ယဉ်ကျေးမှုအကြောင်းကို မြန်မာတို့က အင်္ဂလိပ်လို ပိုမိုကောင်းမွန်စွာ ပြောဆိုနိုင်ရန် ဤစာအုပ်က မြှင့်တင်လိမ့်မည်ဟု ကျွန်တော် မျှော်လင့်ပါသည်။ တကယ့် အမျှော်လင့်ကြီး မျှော်လင့်ခြင်း ဖြစ်ပါ၏။ 'စေတနာနံ ဘိက္ခဝေ ကမ္မာဝရာ မိ' ဟု ဗုဒ္ဓဘုရား ဟောကြားခဲ့ပါသည်။ ကျွန်တော် ယခုထား သော စေတနာသည် ကျွန်တော်၏ အနာဂတ်အတွက် ကောင်းသောကံ ဖြစ်လာပါ စေသတည်း။

## မေတ္တာရပ်ခံချက်

ဘာသာပြန်ဆိုချက်ကို အကောင်းဆုံး ဖြစ်ရန် ကျွန်တော် အစွမ်းကုန် ကြိုးပမ်းပါသည်။ ဘာသာရေး၊ ယဉ်ကျေးမှုနှင့် လူမှု ဆက်ဆံရေး ရှုထောင့်စုံ ပါဝင်သော ပညာပိုင်းဆိုင်ရာ ဤစာပေမျိုးကို ဘာသာပြန်ရသည်မှာ လက်ရွံ့စရာ ဖြစ်ပါ၏။ ကျွန်တော်ကဲ့သို့ သိပ္ပံသမားတစ်ယောက်အတွက်မူ တကယ့် စိန်ခေါ်မှု ဖြစ်နေပါသည်။

သို့သော် ဆရာကြီး ဒေါက်တာလှဘေ၏ နှစ် ၉၀ ပြည့် အခါသမယတွင် ဂုဏ်ပြုလိုသော စိတ်ဆန္ဒက ပြင်းပြပါ၏။ ဤ ဆန္ဒဇော လှုံ့ဆော်သဖြင့် အားတက် သရော လုပ်ချင်စိတ် ဖြစ်လာပါသည်။

ဤအကြောင်းအရာမျိုးကို ဘာသာပြန်ရာတွင် ပြန်ဆိုသူအနေနှင့် အမှား

မျိုးစုံ လုပ်မိနိုင်သည်။ အဓိပ္ပာယ်လွဲချော်မှု တစ်စုံတရာ ပါရှိနေပါမူ ပါမောက္ခဘော ကြောင့် ဖြစ်ရသည် မဟုတ်ပါ။ ဘာသာပြန်သူ၏ အပြစ်သာ ဖြစ်ပါ၏။ 'စာဖတ်သူများ အမှားတစ်စုံတရာ တွေ့ပါမူ ကိုယ်တိုင်သာ ပြင်ဆင်ဖတ်ရှုပါတော့' ဟု အနူးအညွတ် တောင်းပန်ပါသည်။

ထို့ပြင် ပုံနှိပ်သည့် စာမူကို ပါမောက္ခဒေါက်တာလှဘောက ပြန်လည်ဖတ်ရှုပြင်ဆင်ခြင်း မပြုကြောင်း ဖော်ပြအပ်ပါသည်။ ဘာသာပြန်သူကသာ နောက်ဆုံးအဆင့် ပြင်ဆင်မှုများကို လုပ်ပါသည်။ သို့ဖြစ်သောကြောင့် ဤစာအုပ် အင်္ဂလိပ်ပိုင်း မြန်မာပိုင်း နှစ်ပိုင်းလုံးတွင် ပါဝင်သော အမှားတစ်စုံတရာသည် ဘာသာပြန်သူ၏ တာဝန်သာ ဖြစ်ပါသည်။

## ကျေးဇူးတင်မှတ်တမ်း

ကျွန်တော့် အနေနှင့် ရှေးမူလစာမူကို ကူညီလက်နှိပ်စက် ရိုက်ပေးခဲ့သော ပါမောက္ခ ဦးသိန်းလွင်အား ကျေးဇူးတင်ပါသည်။ ဇနီး ဒေါ်မြမြဆွေနှင့် သမီး ရောင်စဉ်လှိုင်တို့က စိတ်ဝင်တစား အားပေးကူညီသည့်အပြင် တစ်ခါတစ်ရံ မြန်မာစာ အသုံးအနှုန်းအချို့ ဖြည့်ပေး ပြင်ပေးသည့်အတွက် ကျေးဇူးတင်ပါသည်။ နောက်ဆုံး ဤစာအုပ် ဖြစ်မြောက်ရေး ပါဝင်လုပ်ဆောင်သူ ဆရာမောင်ဝံသအား ကျေးဇူး တင်ပါသည်။

၂၀၀၃ ခု ဖေဖော်ဝါရီ ၁၅ ရက် (တင်လှိုင်)

# THE MYANMAR BUDDHIST: HIS LIFE FROM THE CRADLE TO THE GRAVE

## 1. Introduction

This is the third time that I have the pleasure and privilege, and indeed, the honour to address the French scholars and students of various disciplines on Myanmar studies. It would be too persumptuous of me to assume that this repeat performance is called for because my performances on the two previous occasions had gone down very well. I am inclined, as a Myanmar Buddhist, to attribute my being here again to the occasioning of yours as well as mine *karma,* a term that will recur frequently in the course of this lecture. Here it may suffice to say that we have been ordained to meet for the third time by the causes of our works of merit carried out together in the previous existences. Be that as it may, I am here again as large as life.

I have accepted the kind invitation of l'Assemblee des Professeur du College du France with pride and humility: pride at the thought of the confidence that the professeurs have reposed in me; and humility at the awareness of my limitations in trying to prove myself worthy of their trust. I'll try not to fail them.

My terms of references are to deliver a series of eight lectures on The Myanmar Buddhist: his life from the cradle to the grave, for four weeks, at the rate of two lectures per week. I'll adhere to the letter and spirit of the terms. My aim is to inform and to induce reflection. My purpose is to present to you the whole spectrum of the life of the Myanmar Buddhist - not what it ought to be, but what it really is. In trying to achieve it in eight lectures, I may be attempting to put a decalitre of milk in a litre bottle. Nevertheless I'll try. I'll take you on a tour in sequential stages through the exotic regions of (1) Nurture, his own environmental influences, that is the geographical, political, cultural, economic and social

settings, together with his upbringing, care and training fostered by his family that mould his personality; and (2) Nature, his inherited endowment - qualities and characteristics, physical, mental and spiritual, which belong to him, and which reflect in his beliefs and practices and diversions during the normal course of his life. In this context, I'll trace his life form his birth, through the stages of childhood, adolescence, manhood and old age, ending in his death and its concomitants. Such incidents and events in his life as engendered by his beliefs and practices will be spotlighted to give a true perspective to the picture.

In a discourse of this nature, it may be unavoidable for me not to tread on grounds already covered by me in my two lectures at the Institute of Social Anthropology in Paris in June 1980 on 'Social Contact - their impact on Myanmar culture', and also in my three lectures on 'Myanmar Poetry' in May 1971 at the Ecole National des Langues Orientales Vinvantes, now known as Institut National des Langues et Civilisations Orientales. The present series of talks are in essence a supplementary to those lectures, in that the highlighting of the various aspects of Myanmar Buddhist's life would, I trust, add a new dimension to your existing knowledge of Myanmar and the Myanmar Language, literature and culture.

A plea may be made here about my competency in giving this lecture. The subject proper invites many sociological and anthropological interpretations on many issues. I am giving this discourse in the capacity as a Professor of Myanmar Language, Literature and Culture. Sociology and Anthropology, I confess to knowing next to nothing, still less to professing them.

## 2. Nurture

The Myanmar Buddhist, like the French Christian or the Indian Hindu, or the Chinese Confucian, is in effect a creature of circumstances which, as already stated, constitute nurture and nature.

Buddhism maintains that the personality of an individual is what its karma makes of it. So too is his destiny. The Buddhist concept of karma is dealt with under 2.3.1 *Theravāda Buddhism.* It needs to say here only that karma encompasses both nurture, environmental influence and nature, inherited endowment. These determinant agencies will be considered now to get the background against which the whole spectrum of the life of the Myanmar Buddhist can be viewed in its true perspective.

### 2 .1 Geographical setting

Myanmar, the habitat of the Myanmar people, share frontiers with India on the west and with China on the north and north-east - two great countries which have contributed no small measure of culture and civilization to the world. To the east lies Thailand and to the south Malaysia and to the west the Indian Ocean, which has been the highway for merchants from the west since the fifth century A.D or earlier.

Myanmar is as large as France, but its population is almost half that of France. The main physical features are the thickly wooded mountains in the northern region, and high wooded plateaux and hills in the east and south-east; the plains in the centre intersected by high ridges: the YakhineYomas (or range of mountains), the Bago Yomas and the Shan Plateaux; and the valleys of the three main rivers - the Ayeyarwaddy, the Sit-taung and the Thanlwin - which have served as means of communication from north to south since the dawn of history. And in the south are the flat areas of the Ayeyarwaddy delta .

The climate of Myanmar is mostly tropical. From May until October there is regular rainfall; for the rest of year there is hardly any rain. The

central part of Myanmar is known as the Dry Zone, for here the rainfall is very light. In the hottest months, March and April and part of May, the temperature in the southern and central parts of the country may be over 100 Farenheit ( 38° C ), while in December, January and February the temperature may fall to 60° F(15 °C) and become progressively less in the north.

These physical and climatic conditions are mainly responsible for the distribution of both agricultural and natural products and also of the peoples throughout Myanmar. Myanmar has for as long as we know been primarily an agricultural country. Rice, cultivated in wet areas as well as in Dry Zone by means of irrigation, tops the list of agricultural products. In addition, Myanmar has been endowed with natural resources, such as mineral oil, wolfram, tin, silver, rubies, jade; and teak forests which are mostly found in the Bago Yomas and south-eastern part of Myanmar. Most of these exportable commodities pass through Yangon, the principal port and capital of Myanmar.

The indigenous races of Myanmar, which are of Mongoloid stock, fall into three main groups: the Tibeto-Myanmar, the Mon-Khmer and the Thai-Chinese. The first group is represented by the Myanmar proper (concentrated especially in the Ayeyarwaddy valley), Yakhine (along the western coastal strip), Dawei and Myeik (in the valley of the Tanintharyee), the Nagas, Chins and Kachins and many other tribes in the mountainous regions of the north. The representatives of the second group are the Mon (in the Ayeyarwaddy delta and Thaton and Kyaik-kha-mi districts - the regions around the mouths of the Sit-taung and the Thanlwin repectively), the Wa (between the Shan States and Yunan), and Palaung (in Northern Shan States), while the third group includes the Shans (on the Shan Plateaux), Karens (in Tanintharyi, Karenni, and the Ayeyarwaddy delta) and Taung-thu or Pa-o ( chiefly in the Shan States). There are several thousand domiciled Indians and Chinese scattered all over Myanmar.

## 2 . 2 Political setting

The political history of Myanmar that impinges on the cultural, economic and social activities of its peoples can be summarised as the southward advance of the Bamas and the unification of the country at the beginning of each dynasty by powerful Bama kings, whose control was later terminated by misrule or invasions from neighbouring countries. The making of Myanmar was periodically interrupted by the struggle for

supremacy between the Bama and the representatives of the other two groups - the Mon and the Shan, from which the Bama emerged as the sovereign power by the middle of the eighteenth century. Twice the kingdom came to an end through external invasion: the first was by the Tartars under Kublai Khan in the thirteenth century, and the second by the British in the nineteenth century, and at each time ceased to exist as an independent or united country for sixty years or so.

Waves of migrations from Certral Asia had been going on for thousands of years before the Bamas descended the plains probably in the mid-ninth century to settle down where the water is clear and the grass is green. Here they came into contact with the Pyus, now extinct, and the Mons who had already attained a high level of civilization . In the eleventh century King Anaw-rahta, 1044 -1077, welded into one kingdom a group of formerly independent states and principalities, and ruled them from his capital city of Bagan. Gradually he extended his sovereignty down to Tanintharyi in the south and to Thaton, the capital city of a thriving Mon kingdom; to Yakhine in the west, and over the hills east of the Sittaung river. The city of Bagan, today one of the famous ruined cities of South-East Asia, succumbed to the principalities at the end the Bagan dynasty.

During the next two generations or so, Upper Myanmar formed part of the Shan hegemony with separate capitals at Sagaing, Myìn-zàing and Pin-yá, all only a few miles away from Mandalay, the last capital of the Myanmar kingdom while the Mons at Bago, north of Yangon, re-assumed their former glory to hold suzerainty over lower Myanmar.

In 1365, the Ava dynasty was founded with its capital at Ava, south-west of Mandalay. The kings of this dynasty devoted much of their time and energy to upholding Buddhism and to encouraging an off-shoot of that heritage - the Myanmar literature. At the same time while they were wracking their brains in finding out means and ways of preventing the Shans from their domination, they were also attemping, without much success, to conquer the Mon kingdom.

Unity of the whole country was re-establishdd only in the sixteenth century. Two kings of the Taung-ngu dynasty, 1531-1750, called Tabin Shwe-hti, 1531-50, and Bayin Naung, 1500-81, first ruling at Taung-ngu and then at Bago achieved this long awaited attainment. Bayin Naung put an end to Ava's rule in 1555, and taking a leaf out of Anaw-rahta's book, re-gathered the dismembered states into his fold to set up a united kingdom only to be frittered away by his successors.

ဒေသတွေကို ရောက်လာကြပါတယ်။ ရောက်လာသည့် ဗမာများက ယခု ပျောက်ကွယ်ခဲ့ပြီဖြစ်တဲ့ ဒေသခံ ပျူလူမျိုးများနှင့် ထိတွေ့ရတယ်။ အဆင့်မြင့် ယဉ်ကျေးမှုရထားပြီး ဖြစ်တဲ့ မွန်များနှင့်လည်း ဗမာတို့ ထိတွေ့ ဆက်ဆံလာရပါတယ်။ ၁၁ ရာစုထဲမှာတော့ ၁၀၄၄ မှ ၁၀၇၇ အထိ နန်းစံတဲ့ အနော်ရထာမင်းက ယခင်သီးခြား လွတ်လပ်တဲ့ နိုင်ငံငယ်ကလေးများနှင့် မြို့ပြနိုင်ငံကလေးများကို စုစည်းပြီး ပုဂံနိုင်ငံတော်ကို တည်ထောင် အုပ်ချုပ်ပါတယ်။ အနော်ရထာမင်း အာဏာစက်က တောင်ဘက်မှာ တနင်္သာရီဒေသနဲ့ မွန်နိုင်ငံ၏မြို့တော် သထုံ၊ အနောက်ဘက်မှာ ရခိုင်နှင့် တောင်တန်းဒေသများ၊ အရှေ့မှာ စစ်တောင်းအလွန် တောင်တန်းဒေသ များအထိ ပျံ့နှံ့ပါတယ်။ ယနေ့ အရှေ့တောင်အာရှ ဒေသမှာ မြို့ဟောင်းမြို့ပျက် များအနက် ထင်ရှားလှတဲ့ ပုဂံမြို့ကြီးဟာ ပုဂံခေတ်သုဉ်းတဲ့အခါ မြို့တော်အဆင့်မှ ကျဆင်းပြီး ပုဂံနိုင်ငံတော်လည်း မြို့ပြနိုင်ငံ ငယ်ကလေးများ အဆင့် ပြိုကွဲသွားခဲ့ပါ တယ်။

ပုဂံပျက်ပြီးနောက် မျိုးဆက် နှစ်ဆက် ခေတ်မှာတော့ အထက်မြန်မာနိုင်ငံမှာ ရှမ်းတို့ ကြီးစိုးလာပါတယ်။ စစ်ကိုင်း၊ မြင်စိုင်းနှင့် ပင်းယမှာ သီးခြားမြို့တွေ ထောင်ပြီး နန်းစိုက်ကြပါတယ်။ ဒီမြို့တွေအားလုံး မြန်မာနောက်ဆုံးမင်းဆက် နန်းစိုက်ရာ မန္တလေးမှ မိုင်အနည်းငယ်စီသာ ကွာဝေးပါတယ်။ တစ်ချိန်တည်းမှာ မွန်တွေကလည်း ရှေးက သူတို့ အာဏာလွှမ်းရာ အောက်မြန်မာနိုင်ငံမှာ ပြန်လည် အားကောင်းပြီး ရန်ကုန်မြောက်ဘက်နားက ပဲခူးကို အခြေပြုပြီး ထူထောင်ကြပြန်ပါတယ်။

၁၃၆၅ ခု မှာတော့ မန္တလေး အနောက်တောင် ယွန်းယွန်းမှာ အင်း၀မြို့တော်ကို တည်ပြီး အင်း၀မင်းဆက် ထူထောင်ခဲ့ပါတယ်။ အင်း၀ဘုရင်များက ဗုဒ္ဓဘာသာ သာသနာကို အထူးအားပေး ချီးမြှောက်ခဲ့ကြလို့ နောင်လာနောင်သားများအဖို့ အဖိုးတန် အမွေအနှစ်များ ဆက်ခံကြရပါတယ်။ အဲဒီ အမွေအနှစ်မှ ပေါက်ဖွားလာတဲ့ အကျိုးအမြတ်ကတော့ မြန်မာစာပေ ဖြစ်ပါတယ်။ အင်း၀ မင်းများက တစ်ဘက်မှာ ရှမ်းတွေ ပြန်လည် လွှမ်းမိုးမလာနိုင်စေရန် ကြံစည် အားထုတ်ခဲ့ကြပြီး အခြား တစ်ဘက်မှာလည်း မွန်ကို တိုက်ခိုက် သိမ်းသွင်း စည်းရုံးရန်ကြိုးပမ်း ခဲ့ကြပါ တယ်။ မအောင်မြင်ခဲ့ပါဘူး။

တစ်နိုင်ငံလုံးကို ၁၆ ရာစု ရောက်မှ ပြန်လည် စည်းရုံးနိုင်ပါတယ်။ တောင်ငူမင်းဆက် (၁၅၃၁-၁၅၇၀) မှ မင်းနှစ်ပါးဖြစ်တဲ့ တပင်ရွှေထီး (၁၅၃၁-၅၀) နှင့် ဘုရင့်နောင် (၁၅၅၀-၈၁) တို့ ပထမပိုင်းမှာ တောင်ငူမှာ နန်းစိုက်ပြီးနောက် ပဲခူးကို ရွှေ့ပြောင်း နန်းစိုက် အုပ်ချုပ်ခါမှ နိုင်ငံစည်းလုံးမှုကြီး အောင်မြင်လာပါတယ်။

၁၅၅၅ ခုမှာ ဘုရင့်နောင်က အင်းဝ ထီးနန်းကို ဖျက်သိမ်းပြီး အနော်ရထာကို စံထားကာ အစိတ်စိတ်အမွှာမွှာ ကွဲနေတဲ့ တိုင်းပြည် ငယ်ကလေးများကို သိမ်းသွင်းပြီး နိုင်ငံတော်ကြီးကို စည်းရုံးလိုက်ပါတယ်။ သို့သော်လည်း ကြာရှည်မခံပါ။ သူ့ထီးနန်း အမွေခံများ လက်ထက်မှာ နိုင်ငံက ပြန်လည် ပြိုကွဲရပြန်ပါတယ်။

၁၇၅၀ မှာတော့ ဗမာများ အင်းအားချိနဲ့နေတာကို အခွင့်ကောင်းယူပြီး မွန်များက မြန်မာ့ အပူပိုင်းဒေသကို အာဏာလွှမ်းရန် အားထုတ် လာကြပြန်ပါ တယ်။ သို့သော်လည်း မွန်များ ခေတ္တသာ အောင်ပွဲရပါတယ်။ မန္တလေး မြောက်ဘက် နားက ရွှေဘိုမှာ အကြီးကဲဖြစ်သူ အလောင်းဘုရား (၁၇၅၂-၁၇၆၀) က နိုင်ငံတော် ကို ပြန်လည် စည်းရုံးနိုင်ခဲ့လို့ မွန် အချုပ်အချာအာဏာချုပ်ငြိမ်းသွားရသော်လည်း အားလုံးကောင်းဖို့ ဖြစ်လာပါတယ်။ အလောင်းဘုရား မင်းဆက်ကို အင်္ဂလိပ်ဘာသာ နှင့် ထုတ်တဲ့ စာအုပ်တွေမှာ အင်းဝ (အဝ) မင်းဆက်လို့ သုံးနှုန်းကြပါတယ်။ ၁၉ ရာစု စတင်ချိန်မှာတော့ မြန်မာဘုရင်ပိုင်နက် နိုင်ငံနယ်နိမိတ် အကျယ်အဝန်း ဆုံး ဖြစ်လာပြီး ပါဝင်သည့် နယ်မြေများမှာ လက်ရှိ မြန်မာနိုင်ငံအပြင် ယနေ့ အိန္ဒိယပြည်နယ် ဖြစ်နေတဲ့ အာသံနှင့် မဏိပူရ ပြည်နယ်များ ပါဝင်ပါတယ်။ ဒီမင်းဆက်ခေတ်မှာ မြန်မာရာဇဝင်များ အဆိုအရ ဗေဒင်ကိန်းခန်း ဆိုက်သည်ဆိုပြီး မြို့တော်ကို အကြိမ်ကြိမ် ရွှေ့ပြောင်းနန်းစိုက်တယ်။ ပထမရွှေဘိုမှ အင်းဝ၊ နောက် အမရပူရ၊ နောက် အင်းဝပြန်ရွှေ့၊ နောက် အမရပူရ ပြန်ပြောင်း ပြီး နောက်ဆုံး မန္တလေးကို ရွှေ့ပါတယ်။

မြန်မာမင်းများက သိပ်သွေးကြီးပြီး အမြင်လည်း ကျဉ်းပါတယ်။ ၁၈ ရာစု ကုန်တည်းက အိန္ဒိယ တစ်နိုင်ငံလုံး သိမ်းပိုက်ထားတဲ့ ဗြိတိသျှတွေနဲ့ မြန်မာ ၁၉ ရာစုထဲမှာ နယ်မြေချင်း ဆက်စပ်ထိတွေ့လာရတာ မြန်မာဘုရင်များအတွက် ကံဆိုးကြမ္မာဆိုး ဝင်လာတာပါပဲ။ အချိန်အခါကလည်း နယ်ချဲ့ခေတ်နှင့် ကြုံကြိုက် နေတယ်။ ဥရောပ နိုင်ငံများက ကျင့်သုံးလာတဲ့ နယ်မြေချဲ့ထွင် အာဏာဖြန့်ဝါဒ နှင့် လက်အောက်ခံ ကိုလိုနီနယ်ပယ် ပိုင်ဆိုင်မှုကို တန်ဖိုးထားသည့် အချိန်အခါပါပဲ။ နယ်မြေထိစပ်နေတဲ့ မြန်မာနှင့် ဗြိတိသျှတို့ကို ထိပ်တိုက်တွေ့ရန် လမ်းခင်းပြီးနေပြီ။ မလွှဲမရှောင်နိုင်ဘဲ နှစ်နိုင်ငံ တိုက်ခိုက်ကြတော့ အင်္ဂလိပ် - မြန်မာ စစ်ပွဲ ၁၈၂၄-၁၈၂၆၊ ၁၈၅၂ နှင့် ၁၈၈၅ မှာ သုံးကြိမ်သုံးခါ စစ်ဖြစ်ပါတယ်။ ဒီဖြစ်စဉ်တွေမှာ အင်္ဂလိပ်က ရခိုင်နှင့် တနင်္သာရီနယ်ကို ပထမအကြိမ် သိမ်း၊ နောက်တစ်ကြိမ်မှာ အောက်မြန်မာနိုင်ငံကို သိမ်းပြီး နောက်ဆုံးအကြိမ်မှာ အထက်မြန်မာနိုင်ငံကို သိမ်းပါတယ်။ တစ်ပိုင်းချင်း တစချင်း အင်္ဂလိပ်က သိမ်းယူလို့ မြန်မာတစ်နိုင်ငံလုံး ဆုံးရှုံးရပါတော့တယ်။

၁၉၃၉ မှ ၁၉၄၅ အထိ ဒုတိယကမ္ဘာစစ်တွင်း ကာလမှာ မြန်မာနိုင်ငံ ဂျပန်လက်အောက် ရောက်ခဲ့ရပြီး ၁၉၄၈ ခု ဇန်နဝါရီ ၄ ရက်နေ့မှာတော့ မြန်မာနိုင်ငံ လွတ်လပ်ရေး ပြန်လည် ရရှိခဲ့ပါတယ်။ မြန်မာနိုင်ငံမှာ ဘုရင်စနစ် ပြန်မထောင်တော့ပါဘူး။ သမ္မတ နိုင်ငံအဖြစ် တည်ထောင်လိုက်ပါတယ်။

## ၂။ ၃ ယဉ်ကျေးမှုနောက်ခံ

၁၉၈၀ ပြည့်နှစ်က လူမှုဗေဒ သိပ္ပံမှာ ကျွန်တော် နှစ်ချိန် ဟောပြောခဲ့စဉ်မှာ လူမျိုးခြားနှင့် ထိတွေ့ ဆက်ဆံမှုကြောင့် ယနေ့ မြန်မာယဉ်ကျေးမှု ဖြစ်ပေါ် ပြောင်းလဲလာခဲ့ပုံကို ပြောကြားခဲ့ပါတယ်။ ယခု ဟောပြောရာမှာတော့ ကျွန်တော်ရဲ့ ပင်မ အကြောင်းအရာတွေဖြစ်တဲ့ ဗုဒ္ဓဘာသာ၊ အထူးသဖြင့် ထေရဝါဒ ဗုဒ္ဓဘာသာ နှင့် အခြားဘာသာဝါဒများအပြင် မြန်မာမှုပြုပြီး ကိုယ်ပိုင်အဖြစ် လက်ခံ ယုံကြည်ထားတဲ့ ဗေဒင်နက္ခတ် ယုံကြည်မှု၊ နတ်ကိုးကွယ်မှု၊ အင်းအိုင်မန္တာန်လောကီ ပညာများနှင့် သက်ဆိုင်မည့် ယဉ်ကျေး မှုရေးရာ အပိုင်းများကိုသာ အဓိကထား ဖော်ပြရန် လိုပါလိမ့်မယ်။

### ၂။ ၃။ ၁ ဗုဒ္ဓဘာသာ

အိမ်နီးချင်း အိန္ဒိယနှင့် သီရိလင်္ကာ (သီဟိုဠ်) မှ မြန်မာက ယဉ်ကျေးမှု လက်ခံ ရရှိတဲ့အတွက် ကျေးဇူးကြီးလှပါတယ်။ အေဒီ ၅ ရာစုမှ စတင်ပြီး မဟာယန (ယာဉ်ကြီးဟု အဓိပ္ပါယ်ဆောင်) နှင့် ထေရဝါဒ (ထေရ်ကြီး ဝါကြီးများ၏ အယူ) ဗုဒ္ဓဘာသာ နှစ်မျိုးလုံး မြန်မာပြည်ကို ရောက်လာတော့ တန္တြဗုဒ္ဓဘာသာအပြင် ဟိန္ဒူအယူပါ ရောနှောပါလာပြီး ဒွန်တွဲလျှက် ရှိနေခဲ့ပါတယ်။ မြန်မာ ရာဇဝင်အရ ၁၀၅၇ ခုမှာ အနော်ရထာမင်း သထုံပြည်ကို အောင်မြင်သိမ်းပိုက်ပြီးသည့် အခါမှ လူအများ လက်ခံ ကိုးကွယ်နေတဲ့ မဟာယနနှင့် ရောယှက်နေသော အခြားအယူ (အရည်းကြီးများ) မှေးမှိန်ပျောက်ကွယ်ပြီး ထေရဝါဒ သာသနာတော် ထွန်းကား လာခဲ့ပါတယ်။ မွန်တို့ထံမှ ထေရဝါဒ ဗုဒ္ဓဘာသာကို ပိဋကတ်တော်များနှင့်အတူ ရရှိပြီး နောင်သောအခါ သီရိလင်္ကာမှ ထပ်မံ ရရှိခြင်းကြောင့် မြန်မာတို့က အခြားနွယ်ဖွားတိုင်းရင်းသားများထက် အဆင့်မြင့်တက်လာပါတယ်။

၁၂ ရာစု စောစောပိုင်းလောက်မှာ ဗမာက မွန်အက္ခရာကို ရရှိပြီး မြန်မာစာ အရေးအသား စတင်ပါတယ်။ ဗုဒ္ဓဘာသာကို သင်ယူလေ့လာကြ၊ သာသနာ ပြုကြရာမှာ အလွန်ကြီးမားသည့် ကုသိုလ်ဇောနှင့် အားကြိုးမာန်တက် လုပ်ဆောင်

ကြပါတယ်။ မြန်မာဘာသာကို သုံးကြပါတယ်။ ဘုရားတည် ကျောင်းဆောက် စသည့် ပြုသမျှ ကုသိုလ်ကို ကျောက်စာရေးထိုးတဲ့ အလေ့အထက မြန်မာစာပေ ထွန်းကားစေသည့် အထောက်အကူ ပေးပါတယ်။ တိဗက်-မြန်မာ မျိုးနွယ်ဝင်တွေ ထဲမှာ တိဗက်နှင့် မြန်မာတို့သာလျှင် ကိုယ်ပိုင် အက္ခရာနှင့် စာရေးသားနိုင်စွမ်း ရှိကြပါတယ်။

မြန်မာစာပေက အလွန်ကျယ်ဝန်းပြီး ပေစာ၊ ပုရပိုက်စာနှင့် ပုံနှိပ်စာ အမြောက်အမြား ရှိပါတယ်။ ၁၂ ရာစု စောစောပိုင်းမှာ ခန့်ညားသည့် အရေး အသားနှင့် ကျောက်စာပေါင်း တစ်ထောင်ကျော်ကို ဆုတောင်း အဓိဋ္ဌာန်များ၊ ဗုဒ္ဓဝင် ဇာတ်တော်ကြီးများမှ မှီးယူကိုးကားပြီး ရေးသားမှု စတင်ခဲ့ပါတယ်။ ကိုယ်ပိုင် စိတ်ကူးဖြင့် ရေးသားသော ပေစာ၊ ပုရပိုက်စာများလည်း ဗုဒ္ဓဘာသာဝင် မြန်မာမင်း များက အားပေး ချီးမြှောက်မှုကြောင့် ထွန်းကားလာတယ်။ ၁၅ ရာစုမှာ ကြီးထွား ရှင်သန်လာခဲ့ပြီး ၁၉ ရာစုတွင်း ပုံနှိပ်စက်များတွင် ကျယ်လာသည်အထိ တဆက် တည်းပါပဲ။ စာပေကျေးဇူးရှင်များကတော့ ဗုဒ္ဓဘာသာ ရဟန်းများနှင့် နန်းတွင်းနှင့် နယ်ဝေးရောက် ရဟန်းလူထွက် မင်းမှုထမ်းများပါပဲ။ အမျိုးသမီး ကဗျာစာဆိုများ လည်း ပါဝင်ပါတယ်။ ထူးခြားသည့် လက္ခဏာကတော့ ဗုဒ္ဓဘာသာ သက်ဝင်မှုနှင့် ထီးမှုနန်းဟန်လွှမ်းသည့် အချက်ပါပဲ။ အရေးအသားတွေမှာ စကားပြေထက် လင်္ကာက လွှမ်းနေပါတယ်။ လင်္ကာစာပေမှာ ပါဝင်တဲ့ အကြောင်းအရာများက ဘာသာပြန် သို့မဟုတ် မြန်မာမှု ပြုထားသည့် ဗုဒ္ဓဝင်ဇာတ်တော်ကြီးများ၊ သမိုင်း မော်ကွန်းနှင့် ဘုန်းတော်ဖွဲ့၊ မေတ္တာဖွဲ့၊ သဘာဝဖွဲ့ ကဗျာ၊ ရိုးရာပုံပြင်များ၊ သီချင်းအပြင် လင်္ကာစကားပြေ နှစ်ထွေ ရောယှက်သည့် စာနှင့် ဇာတ်ထုပ်များ အမျိုးစုံလင်ပါတယ်။

စကားပြေအရေးအသားက အမျိုးအစားရော အရေအတွက်ပါ နည်းပါးပါ တယ်။ သို့သော် ထုထည်အားဖြင့် ကြီးမားပါတယ်။ အကြောင်းအရာများမှာ ဗုဒ္ဓစာပေနှင့် နိပါတ်ပုံပြင်များ၊ ပါဠိသဒ္ဒါကျမ်းများ၊ ဗေဒင်၊ နက္ခတ္တဗေဒ၊ အဂ္ဂိရတ်နှင့် ဂမ္ဘီရအတတ်များ၊ ဖြတ်ထုံးများနှင့် သင်္သကရိုက် ဘာသာနှင့် ရေးသည့် ဟိန္ဒူ ဓမ္မသတ်များကို အခြေခံသည့် ဓမ္မသတ်ကျမ်းများ ပါဝင်ပါတယ်။

ပုံနှိပ်စာကတော့ ၁၉ ရာစု အတော်ကလေးနှောင်းမှ ပေါ်လာပါတယ်။ ပြဇာတ်များ၊ ဝတ္ထုများ၊ စာတမ်းများအပြင် ကဗျာတို ပုံတိုများ ပါဝင်ရာမှာ ဗုဒ္ဓဝင်မှ လည်းမှီး၊ အခြားမှလည်း မှီးယူ ရေးသားတာ တွေ့ရပါတယ်။ ဒီထဲက အချို့ ခေတ် ဆန်သော အရေးအသားများမှာ အနောက်တိုင်း ဆန်တာလည်း တွေ့ရပါတယ်။

ဗုဒ္ဓဘာသာက မြန်မာရဲ့ ဘ၀ကို ဘက်ပေါင်းစုံမှ ကြီးမားသော အထောက်အပံ့အဖြစ်နှင့် ပြုပြင်ပေးပါတယ်။ မြန်မာ့ တွေးခေါ်မြော်မြင်ပုံမှာ ဗုဒ္ဓဘာသာ လွှမ်းနေပါတယ်။ မြန်မာတစ်ယောက်ဟာ ရိုးရာမဟုတ်သော အယူကို လက်ခံကျင့်သုံးကောင်း ကျင့်သုံးမယ်၊ ဘာလို့ အဲဒီ အယူ လက်ခံရတာလည်းဆိုတာတော့ သူသာ သိလိမ့်မယ်။ သို့ပေမဲ့ သူ့အပေါ်ယံကို ခွာကြည့်ပါ။ သူရဲ့ အဇ္ဈတ္တမှာ ကိန်းနေတဲ့ ဗီဇပါ ဗုဒ္ဓဘာသာကို တွေ့မှာ အမှန်ပါ။ မြန်မာတစ်ယောက်၏ ဘ၀ မည်သို့မည်ပုံ ဖြစ်သည်၊ ဘာကြောင့် သည်လိုဖြစ်ရသည် ဆိုသည့် အကြောင်းအရင်းများနှင့် သူ့ယုံကြည်မှုနှင့် အမူအကျင့်တို့ကို နားလည် သဘောပေါက်နိုင်ဖို့ သူကိုးကွယ်သည့် ဗုဒ္ဓဘာသာအကြောင်း အာရုံစိုက် ကြည့်ကြရအောင်။

## ၂။ ၃၊ ၁၊ ၁ ဗုဒ္ဓ

ဗုဒ္ဓဘာသာဆိုတာ ဗုဒ္ဓဟောကြားတဲ့ တရားပါပဲ။ ဒီဘာသာအယူက ဘ၀ နေနည်းလမ်းညွှန်ပါ။ အနောက်တိုင်း ပညာရှင်များ နားလည်ထားသလို ဒဿနဗေဒ (ဖီလော်ဆော်ဖီ) မဟုတ်ပါဘူး။ ဗုဒ္ဓဘာသာ အစဉ်အလာမှာ အမှန်တရား (သစ္စာတရား) ကို ပို၍ ပို၍ သိချင်ဇောဖြင့် တရားရှာခြင်းဟာ အချိန်ကုန်ရုံမျှပါပဲ။ ကြက်ဥနှင့် ကြက်မ ဘယ်ဟာ အရင်ဖြစ် စူးစမ်းသလိုပါပဲ။ ဒီလိုပဲ လူအစ ဘယ်က၊ လူ ဘယ်လိုဖြစ်လာ အစရှာတာလည်း အချည်းအနှီးပါပဲ။ ဗုဒ္ဓဟောကြားတဲ့ ပဓာနတရားက ဘ၀လွတ်မြောက်ရေး လမ်းပြပေးဖို့ပါပဲ။ အခြား ဘာမျှ အရေးမပါပါဘူး။ ဗုဒ္ဓ၏ ဘ၀ဖြစ်တော်စဉ်ကို ကြည့်လျှင် သည်အချက် ထင်ရှားပါတယ်။

ဗုဒ္ဓဘုရားမဖြစ်မီ သိဒ္ဓတ္ထမင်းသား ဘ၀မှာ အိန္ဒိယနိုင်ငံ ကပ္ပလီဝတ်ပြည်မှာ ၂၉ နှစ် တိုင်တိုင် ကြီးစွာသော စည်းစိမ်နှင့် နန်းတွင်း ပျော်မွေ့ခဲ့တယ်။ ၁၆ နှစ်သားမှာ မင်းသမီး အချောအလှနှင့် စုလျားရစ်ပတ် ထိမ်းမြားတယ်။ ၁၃ နှစ်ကြာ အိမ်ထောင်သည်ဘ၀။ သားတော်လေး ဖွားပြီး မကြာမီမှာ သူအို၊ သူနာ၊ သူသေ၊ ရဟန်း နိမိတ်ကြီး ၄ ပါး မြင်ပါတယ်။ သည်အခါမှာ သံဝေဂရပြီး လူ့ဘ၀ကို ငြီးငွေ့တော်မူလို့ တောထွက်တော်မူပါတယ်။

မင်းသားက ညဥ့်မှောင်မှောင်မှာ တပည့်နောက်လိုက်တစ်ဦးနှင့်အတူ မြင်းစီးပြီး နန်းတွင်းမှ ထွက်တော်မူတယ်။ သမာဒေဝ နတ်များ စောင့်ရှောက်မှုကြောင့် အစောင့်အထပ်ထပ် ချထားသည့် မြို့တွင်းမှ မည်သူမျှ မသိလိုက်ရဘဲ ထွက်လာနိုင်တယ်။ လမ်းမှာ မာရ်နတ်နှင့် တွေ့တယ်၊ မာရ်နတ်က တားတယ်။ ခုနစ်ရက်အတွင်း စကြာဝတေးမင်း ဖြစ်ရန်ရှိသည်၊ နန်းတွင်းသို့ ပြန်ပါလော့ဆိုပြီး တားတယ်။ တား

မရပါ။ သိဒ္ဓတ္ထက ဆက်သွား၊ အနေ်ာမာမြစ်ကို ဖြတ်ကူးတယ်။ တစ်ဖက်ကမ်း ရောက်တော့ ပါလာသည့် သန်လျက်နှင့် ဆံတော်ကို ပယ်တော်မူတယ်။ ဆံတော်ကို လေထဲ မြှောက်လိုက်တယ်။ ဆံတော်ကို သကြားမင်းက ကောက်ယူပြီး နတ်ပြည်မှာ စေတီတည်ဌာပနာပြီး ကိုးကွယ်ထားပါတယ်။

ဒုက္ကရစရိယာ ခြောက်နှစ်လုံးလုံး ကျင့်ပြီးနောက် ဘုရားလောင်းဟာ ယခုခေတ် ဘီဟာနယ်တွင်းရှိ ဗုဒ္ဓဂါယာကို ရောက်လာပါတယ်။ အဲဒီမှာ ဗောဓိပင် အောက် ပလ္လင်တော်မှာ အရှေ့တူရူ မျက်နှာမူပြီး ထိုင်နေတော်မူတယ်။ အဲဒီမှာ လည်း မာရ်နတ်က ဆင်ပြောင်ကြီးနှင့် လာပြီး သူ့နောက်လိုက်များနှင့် စစ်ဆင် ပလ္လင်ကို လုပြန်တယ်။ ဘုရားလောင်းက မြေဝသုန်ကို သက်သေထားပြီး ရှေးရှေး ဘဝအသေချ်ေက ပြုခဲ့သော ကုသိုလ်ပါရမီ၏ အဟုန်ကြောင့် မာရ်နတ်ကို အောင်ရ ပါစေသတည်းလို့ အဓိဋ္ဌာန်ပြုတယ်။ မဟာပထဝီ သိမ့်သိမ့်ခါပြီး သက်သေအရာ၌ တည်လာတော့ ဆင်ပြောင်ကြီးလည်း ဒူးတုပ် ရှိကျိုးလာ၊ မာရ်နတ်နှင့် အဖော်များ လည်း လက်လျှော့ ထွက်ပြေးကြရတယ်။

သည့်နောက် သဗ္ဗညုတဉာဏ်တော် ရဖို့ ဝိပဿနာရှု အားထုတ်တော်မူ တယ်။ ရှည်လျားတဲ့ သည်ဖြစ်တော်စဉ်ကို ကျွန်တော် အကျဉ်းချုံးပါမယ်။ ညဦးယံမှာ ကိုယ်တော်တိုင် ရှေးရှေးဘဝများစွာ ဖြစ်ခဲ့သမျှကို ရှုတယ်။ ပုဗ္ဗေနိဝါသ ဉာဏ်တော် ရတော်မူတယ်။ သန်းခေါင်ယံမှာ ဒိဗ္ဗစက္ခုဉာဏ်တော် ရတော်မူတယ်။ မိုးသောက်ယံ အာရုံတက်ချိန် ရောက်တဲ့အခါ သစ္စာလေးပါး သိမြင်အရဟတ္တမဂ် ဉာဏ်တော် ရရှိပြီး ဤဘဒ္ဒကမ္ဘာမှာ ပွင့်မည့် ဘုရားငါးဆူအနက် လေးဆူ မြောက် ဘုရားအဖြစ် ၅၈၉ ဘီစီမှာ ပွင့်တော်မူပါတယ်။ အမည်နာမ ဂေါတမလို့ တွင်ပါ တယ်။ ဘုရားကိုယ်တော်မြတ်က ၄၅ ဝါလုံး အဆက်မပြတ် တရားဒေသနာ ဟောကြားတော်မူခဲ့ပြီး သက်တော်ရှစ်ဆယ် ၅၄၄ ဘီစီမှာ ပရိနိဗ္ဗာန် စံဝင်တော်မူ ပါတယ်။

ရီလီးဂျင်းခေါ် ဘာသာအယူဆိုတာ လောကကို ဖန်ဆင်း ထိန်းချုပ်တော်မူတဲ့ အနန္တတန်ခိုးတော်ရှင် တစ်နည်းအားဖြင့် လူတို့ထက် သာလွန်မြင့်မြတ်ပြီး အရာရာ ကို တန်ခိုးတော်နှင့် လွှမ်းသည့် ထာဝရဘုရား (ဂေါ့(ဒ)) ရှိသည်ဟု ယုံကြည်ကိုးကွယ် ခြင်းကို ဆိုလိုသည်ဟု ဆိုပါက ဗုဒ္ဓဘာသာသည် ရီလီးဂျင်းဟု ခေါ်ဆိုကြတဲ့ ဘာသာ မဟုတ်ပါဘူး။

ဗုဒ္ဓက သူ့ကိုယ်သူ လူသား မဟုတ်လို့ တစ်ကြိမ်တစ်ခါမျှ မမိန့်ကြားခဲ့ပါ။ အခြား အနန္တတန်ခိုးရှင် ဂေါ့(ဒ)တစ်ပါးပါး၏ အခွင့်အမိန့်အရ တမန်တော် ဖြစ်

သည်ဟုလည်း တစ်ခါမျှ မမိန့်ကြားပါ။ ကိုယ်စွမ်းဉာဏ်စွမ်းဖြင့် ပါရမီဖြည့်ခြင်းကြောင့်သာ ဘုရားအဖြစ်သို့ လူ့ဘဝမှ ရောက်သည်ဟုသာ ဟောပါတယ်။ ဗုဒ္ဓကို မဟာလူသားဟုသာ ဆိုထိုက်ပါတယ်။ လူအများ လက်ခံသည့် အယူမှာတော့ ဗုဒ္ဓကို လူတို့ထက် အရာရာ သာလွန်သော တန်ခိုးရှင်အဖြစ် ယုံကြည် မှတ်ယူကြပါတယ်။

မြတ်စွာဘုရားတရားတော်မှာ မိမိကိုယ်သာ ကိုးကွယ်ရာဆိုတဲ့ အဆုံးအမက အဓိကပါပဲ။ ကိုယ့်လမ်း ကိုယ်ရှာလော့၊ ဘုရား အဆူ ဆူကတော့ နိဗ္ဗာန်ရောက်ရာလမ်းမှန်ကို ညွှန်ပြယုံသာ ညွှန်ပြလိမ့်မည်လို့ ဗုဒ္ဓက မိန့်တော်မူတယ်။ သစ္စာတရားကို ရှာနေတဲ့ ပညာရှင်များ ဆောင်ရန် ဘုရားအဆုံးအမတစ်ခုက သည်လိုပါ။ ‘ဤကားစာပေကျမ်းဂန်နှင့် ညီညွတ်ပေသည်ဟု ဆို၍လည်း အမှန်တရား အဖြစ် လက်မခံလေနှင့်၊ ဤကား ယုတ္တိ ရှိပေ၏ဟု ထောက်ဆသဖြင့်လည်း လက်မခံလေနှင့်၊ မိမိတို့ လေးစားသော ဆရာက ဤသို့ ဆိုပေသည် ဟူ၍လည်း လက်မခံလေနှင့်၊ သာဝကသည် ဆန်းစစ်ဝေဖန်မှု ပြုမှသာ မိမိဆရာ ဟောကြားသည့် တရား၏ တန်ဖိုးအစစ်အမှန်ကို သိပေလိမ့်မည်။ ငါဘုရား ဟောကြားသမျှကိုလည်း ဆန်းစစ်ဝေဖန်ပြီးမှသာ ယုံကြည် လက်ခံကြ’ ဟု တပည့် သာဝကများကို ဗုဒ္ဓက ဟောကြားခဲ့ပါတယ်။

(ဝေပုလ္လရာဟုလာ၏ ဗုဒ္ဓဟောကြားတရားဒေသနာ စာ ၂ နှင့် အခြားနေရာများမှ)

## ၂။ ၃။ ၁။ ၂ ပင်မဂိုဏ်းကြီး သုံးဂိုဏ်း

ဗုဒ္ဓဘာသာမှာ ဘုရားဗုဒ္ဓ ကိုယ်တိုင် ဟောကြားခဲ့သည့် မူရင်း ဒေသနာ (မူလဓမ္မ) အပြင် နောက်ထပ် ထပ်မံဖြည့်စွက်ချက်များ ပါဝင်ပါတယ်။ ဘီစီ နောက်ဆုံးရာစုတိုင်သည်အထိ ဗုဒ္ဓဟောကြားတော်မူခဲ့သော တရားတော်များကို သီရိလင်္ကာတွင် အက္ခရာ ဖြင့် မရေးသားရသေးတဲ့အတွက် မည်သည့်အပိုင်းများက မူလဓမ္မဖြစ်သည်၊ မည်သည်တို့က နောက်ဖြည့် ဖြစ်သည်ဟု ယတိပြတ် ပိုင်း ခြားရန် ခက်ခဲလှပါတယ်။ အချို့သော ပညာရှင်များအနေနှင့် နောက်ဖြည့်အများအပြားကို ဖော်ထုတ်နိုင်ဖွယ် ရှိပါတယ်။ ဘာသာရပ် နယ်ပယ်ကလည်း အလွန်ကျယ်ပြန့်ပါတယ်။

သည်လိုနှင့် ဗုဒ္ဓဝါဒဟာ သက်တမ်းနှစ်ပေါင်း ၂၅၀၀ ကျော် တည်တံ့ခဲ့ပါပြီ။ သည်အတောအတွင်း ပဓာန ဂိုဏ်းသုံးဂိုဏ်း ပေါ်ပေါက်လာပါတယ်။ ထေရဝါဒ (ဆိုတဲ့ ထေရ်ကြီးဝါကြီးလမ်း) မဟာယာန (ဆိုတဲ့ ကြီးသောယာဉ်) နှင့် နောက်ဆုံး ဇင် (ဓိပဿနာ) ရယ်လို့ ဂိုဏ်းသုံးဂိုဏ်း ဖြစ်ပါတယ်။ ထေရဝါဒဂိုဏ်းကိုတော့

ဟိနယာန (သေးသော ယုတ်လျော့သောယာဉ်) ဟု မဟာယာန ဂိုဏ်းဝင်များက မလိုနိုမ့်ချသည့် သဘောနှင့် ခေါ်ဝေါ်တတ်ပါတယ်။

နယ်မြေအားဖြင့် ထေရာဝါဒက သီရိလင်္ကာ၊ မြန်မာ၊ ထိုင်း၊ လောနှင့် ကမ္ဘောဒီးယား နိုင်ငံများမှာ ထွန်းကားပါတယ်။ မဟာယာနကတော့ တိဗက်နှင့် အိမ်နီးချင်းများ မွန်ဂိုလီးယားနှင့် ကိုရီးယားမှာ ထွန်းကားပြီး နောက်ဆုံးဇင်က ဂျပန်နိုင်ငံမှာ ထွန်းကားပါတယ်။ ပထဝီအနေအထားအရ ပျံ့နှံ့ပုံက ထူးခြား မှတ်သားဖွယ်ပါ။ ရှေးရိုးစွဲအတိုင်း မလိုက်တဲ့ မဟာယာနနှင့် ဇင်ဗုဒ္ဓဘာသာကို သမပိုင်းဝင်နိုင်ငံများက လက်ခံပြီး အပူပိုင်း နိုင်ငံများကတော့ ရှေးရိုးလိုက်တဲ့ ထေရာဝါဒကို လက်ခံတာတွေ့ရပါတယ်။

## ၂။ ၃။ ၁။ ၃ ထေရာဝါဒဗုဒ္ဓ

ထေရာဝါဒက ရှေးမူလအကျဆုံး ဗုဒ္ဓဘာသာဖြစ်ပြီး တောင်ပိုင်း ဗုဒ္ဓဘာသာ လို့လည်း ခေါ်ဝေါ်လေ့ ရှိပါတယ်။ အိန္ဒိယမှ သီရိလင်္ကာကို ထေရာဝါဒ ဗုဒ္ဓဘာသာ ဘီစီသုံးရာစုမှာ ရောက်လာခဲ့ပြီး မြန်မာပြည်ကိုတော့ ၁၀ ရာစု အေဒီမှာ ရောက်တယ်။ ထိုင်း နိုင်ငံကို ၁၂ ရာစုနဲ့ ကမ္ဘောဒီးယားကို ၁၃ ရာစုတို့မှာ ရောက်ပြီး လောနိုင်ငံကိုတော့ ဒီထက် နောက်ကျကောင်း နောက်ကျပါလိမ့်မယ်။

ထေရာဝါဒ ဗုဒ္ဓဒေသနာကို ပိဋကတ်သုံးပုံအဖြစ် ပေါင်းစည်းထားပါတယ်။ ပိဋကတ်က ခြင်းတောင်းလို့ အဓိပ္ပါယ်ရပါတယ်။ ဒါက ပိဋကတ်တော်ကို ပေတက် အက္ခရာတင်တဲ့ ရှေးဦးအခါတုန်းက ပေရွက်ရှည်များကို တောင်းတဲထည့်ပြီး သိမ်းဆည်းခဲ့တာ အကြောင်းပြု ခေါ်ဝေါ်တာပါ။ တောင်းသုံးတောင်း (ပိဋကတ်သုံးပုံ) ကတော့ ဝိနည်း၊ သုတ္တန်နှင့် အဘိဓမ္မာ ဖြစ်ပါတယ်။

ဝိနည်းကတော့ ရဟန်းသံဃာတော်များ ကျင့်ကြံလိုက်နာရန် စည်းကမ်းပါပဲ။ သံဃာအတွက် ဘုရားရှင် ပညတ်တော်မူတဲ့ သိက္ခာပုဒ်တွေ ပါဝင်ပါတယ်။ ဝိနည်း ပညတ်တစ်ခုစီအတွက် အဘယ်ကြောင့် ဤသို့ ပညတ်ရသည်ကို ရှင်းလင်းသည့် အကြောင်းရင်းကိုလည်း ဖော်ပြပါတယ်။ ဥပမာတစ်ခုသာ ဖော်ပြပေးပါမယ်။ မိုးတွင်း သုံးလမှာ ရဟန်းတော်များ ခရီးမသွားရလို့ ပညတ်ပါတယ်။ အဲဒီ သုံးလဟာ ဝါတွင်း ကာလပါပဲ။ ဒီဝိနည်းပညတ်ရတဲ့ အကြောင်းအရင်းက မိုးတွင်းမှာ စိုက်ပျိုးထားသည့် စပါးခင်းများကို ခရီးသွား ရဟန်းများ နင်းချေမိလို့ ပျက်စီးခြင်းမှ ကာကွယ်တားဆီးရန် ဖြစ်ပါတယ်။

သုတ္တန်ကတော့ ပိဋကတ် သုံးပုံမှာ အကျယ်ဝန်းဆုံးနှင့် အရေးအပါဆုံး ဖြစ်ပါတယ်။ သုတ္တန်ကို ဘုရားဟော နိကယ်ငါးရပ် အဖြစ် ခွဲခြားထားပါတယ်။

နိကယ်များမှာ နောက်ဆုံးဖြစ်တဲ့ ခုဒ္ဒကနိကယ်ကို ထေရာဝါဒီတို့ အနှစ်သက်ဆုံး ဖြစ်ပါတယ်။ သည်ထဲမှာ လူအများသိတဲ့ ဓမ္မပဒနှင့် ဇာတကခေါ် ဇာတ်တော်များ ပါဝင်ပါတယ်။ ဓမ္မပဒမှာ ဘဝကောင်းရာညွှန်းသည့် ဂါထာများပါဝင်ပြီး ဇာတကမှာ ကဏ္ဍာ ၅၀၀ ကျော် ပါဝင်ပါတယ်။ နှစ်မျိုးလုံးအတွက် နိပါတ်ပုံပြင်များနှင့် ရှင်းလင်း ဆွေးနွေးချက် ပါဝင်နေတယ်။ ဇာတ်နိပါတ်ပုံပြင်များက မြန်မာ ဗုဒ္ဓဘာသာများရဲ့ ဘဝကို ပြောင်းလဲ ပြုပြင်ပေးပါတယ်။

အဘိဓမ္မာကတော့ စိတ်နှင့် ရုပ်ပိုင်းရေးရာ ဗုဒ္ဓဒဿနပါပဲ။ အလွန် နက်နဲ ခက်ခဲတဲ့အတွက် အထူးပြု လေ့လာသူများနှင့်သာ အပ်စပ်ပါတယ်။ ရှေးဦး ပိဋကတ်နှစ်ပုံထက်လည်း နှောင်းမှ အက္ခရာတင်တာ သေချာပါတယ်။

ပိဋကတ်တော် သုံးပုံလုံးကို ပါဠိဘာသာနှင့် စီရင်ထားပါတယ်။ အဋ္ဌကထာ ဋီကာဆိုတဲ့ အဖွင့်ကျမ်းများအပြင် ထပ်ဆင့် အဖွင့်ကျမ်းများလည်း ပါဠိဘာသာနှင့် စီရင်ထားပြီး ထေရာဝါဒနိုင်ငံသုံး စာပေများဖြင့်လည်း ရေးသားပြုစုကြတာ ကျမ်းတွေ ရာချီ ရှိပါတယ်။ သည်ထဲမှ အများအပြားကို (အထူးသဖြင့် ပါဠိမှ) အင်္ဂလိပ် ဘာသာ ပြန်ဆိုထားပါတယ်။ ဗုဒ္ဓစာပေရဲ့ ပမာဏ အလွန်ကျယ် ပြောပြီး စိတ် ဝင်စားဖွယ် နယ်ပယ်လည်း စုံလင်လှပါတယ်။ သို့သော်လည်း ရှေ့မှာ ပြောခဲ့သည့် အတိုင်း မြန်မာဗုဒ္ဓဘာသာတို့ စိတ်နှလုံး မှာ ငြိပြီး စွဲဝင်တာကတော့ ဒုတိယမြောက် ပဋိကတ်ဖြစ်တဲ့ သုတ္တန်ပါပဲ။ ပထမဖြစ်တဲ့ ဝိနည်းက သံဃာ့ဥပဒေဖြစ်ပြီး အဘိဓမ္မာကတော့ နားလည်ရန် မလွယ် နက်နဲလွန်းပါတယ်။

အသက် နှစ်ဆယ်ကျော်ကျော်အရွယ်မှာ သာမန်ဗုဒ္ဓဘာသာဝင်များဟာ မိမိ ကိုးကွယ်ဆည်းကပ်သည့် ဘာသာ၏ သိအပ်ဖွယ်ရာ အခြေခံများကို သိနားလည်ပြီး ဖြစ်နေပါပြီ။ ဒီလို သိအောင်လည်း ဘုန်းတော်ကြီးများက မိမိဘာသာဖြင့် ရေးသား စီရင်တဲ့ တရားစာများကို လေ့လာသင်ယူတာလည်း ရှိပါတယ်။ ကိုယ်ကျင့်သီလ သွန်သင်ညွှန်ပြတဲ့ ဘုန်းတော်ကြီးနှင့် ဆရာမိဘများထံမှလည်း နာယူမှတ်သား ကြရတဲ့အပြင် စာပေနှင့် ဇာတ်သဘင်မှလည်း သိရှိမှတ်သားကြရတယ်။ အသက် အရွယ် ရလာသည်နှင့်အမျှ မိမိရဲ့ ဘဝ အတိတ်၊ ပစ္စုပ္ပန်နှင့် အနာဂါတ်တွေကို ယှက်နွယ် ဆက်သွယ်ပေးနေတဲ့ အကြောင်းတရား သုံးပါးကိုလည်း ပိုမိုပြီး သိနား လည်လာကြပါတယ်။ တရားသုံးပါးကတော့ ရှေးဘဝ နောက်ဘဝ ရှိတယ်ဆိုတဲ့ ဝင်စားခြင်း၊ ကံ (ကမ္မ) နှင့် နိဗ္ဗာန်တို့ပါပဲ။ ပုဂ္ဂိုလ်တစ်ယောက်ကသည် တရားသုံးပါး ကို မည်မျှ နှလုံးသွင်းတယ်ဆိုတာကတော့ သူ မည်မျှ ပေါက်ရောက်သလဲ ဆိုတဲ့ သူ့ရဲ့ တရားအဆင့်ပေါ် မူတည်မယ်။

လူ သို့မဟုတ် အခြားသတ္တဝါအဖြစ် ဝင်စားခြင်းဆိုတဲ့ ရှေ့ဘဝဟောင်းမှ နောက်ဘဝသစ်ကို ကူးပြောင်းရတဲ့ ဖြစ်စဉ်ကို သံသရာလို့ ခေါ်တွင်တယ်။ သံသရာကို မလွဲမသွေ ကျင်လည်နေကြရမည့် ပတ်ခြာလည် ဖြစ်စဉ်ကြီးရယ်လို့ ဗုဒ္ဓဘာသာ ထေရဝါဒီတို့က လက်ခံယုံကြည်ထားပါတယ်။ သတ္တဝါတို့ ကျင်လည်စရာ ၃၁ ဘုံ ရှိပါတယ်။ လူ့ဘုံကတော့ လူအတွက် ဗဟိုဌာနပေါ့။ လူ့ဘုံအောက်မှာ အပါယ် လေးဘုံဆိုတဲ့ တိရစ္ဆာန်၊ အသူရကာယ်၊ ပြိတ္တာနဲ့ ငရဲ ဘုံလေးခုရှိတယ်။ လူ့ဘုံ အထက်မှာ နတ်ပြည်ခြောက်ထပ် (ခြောက်ဘုံ) နှင့် ဗြဟ္မာဘုံ (၂၀) ပေါင်း အထက်ဘုံ ၂၆ ဘုံ ရှိတယ်။

ကံ (ကမ္မ) ရဲ့ အဓိပ္ပာယ်က အလုပ်ပါပဲ။ သင်စိုက်ပျိုးသည့် သီးနှံသာ သင်ရိတ်သိမ်းရလိမ့်မည် ဆိုသည့်သဘောကို ပြတဲ့ အကျိုးဖြစ်ရန် အကြောင်းရှိသည် ဆိုတဲ့ ကံတရားကို ယေဘုယျအားဖြင့် မြန်မာဗုဒ္ဓဘာသာက နားလည်ပြီးပါ။ ရှေးရှေး ဘဝက ပြုခဲ့သမျှ ကုသိုလ် အကုသိုလ်ဆိုတဲ့ ကောင်းဆိုးလုပ်ခဲ့သမျှက နောက်နောက် ဘဝများထိ လိုက်ပါ အကျိုးပေးတယ်။ တစ်စုံတစ်ယောက်သော ပုဂ္ဂိုလ်၏ ဘဝမှာ ကောင်း၏ ဆိုး၏၊ မကောင်းမဆိုး ရှိ၏ဆိုတဲ့ ဘဝအကျိုးပေးက ပြုပြုသမျှ ကံတွေကြောင့်ပါပဲ။ ယခု မျက်မှောက်ပြုသမျှနဲ့ အတိတ်ကံတို့က ပေါင်းစပ်ပြီး အနာဂါတ် ကောင်းကျိုး ဆိုးကျိုးကို စီမံပါလိမ့်မယ်။ သည်ကံနှင့် ကံ၏ အကျိုးဆက်က ရှောင်မရတဲ့ နိယာမ ဖြစ်စဉ်ပါပဲ။ သူကပဲ ဘဝသစ်မှာ ဘယ်လို ကုသိုလ်စံရပြီး ဘယ် အဆင့်ရမယ်ဆိုတာ ဆုံးဖြတ်ပါတယ်။ ပုဂ္ဂိုလ် နှစ်ဦး သို့ မဟုတ် အများ အတူတကွ ကုသိုလ်ပြုကြရင် နောင်ဘဝမှာလည်း ပြန်လည် ဆုံဆည်းကြမယ်လို့ ဗုဒ္ဓဘာသာဝင်က နားလည်လက်ခံပြီး ဖြစ်တယ်။ နောက်ထပ် ဘယ်နှစ်ဘဝ ဘယ်နှစ် ပြန်ကြုံကြ ဆုံကြမလဲဆိုတာကတော့ သူတို့ အတူပြုတဲ့ ကုသိုလ်ရဲ့ အတိုင်းအတာ အရည်အသွေးပေါ် မူတည်မယ်။ ကျွတ်တမ်းမဝင်မချင်း သူဟာ ဘဝများစွာ ကျင်လည်ရင်း ကပ်ကမ္ဘာများစွာ ဖြတ်သန်းရပေဦးမည် ဆိုတာလည်း ယုံမှားခြင်း မရှိပါဘူး။ မဂ်ဉာဏ် ဖိုလ်ဉာဏ်ရပြီး နိဗ္ဗာန်မဝင်သေးသမျှတော့ သံသရာမှ မလွတ် သေးဘူးလို့ နားလည် လက်ခံထားရပါလိမ့်မယ်။

နိဗ္ဗာန်ရဲ့ အဓိပ္ပါယ်က 'မီးခွက်ငြိမ်းခြင်း' လို့ ဆိုတယ်။ အဓိပ္ပါယ်ကို အသိစိတ် ၏ ဆုံးခမ်း (ကျွတ်တမ်းဝင်ခြင်း) လို့ ဖွင့်ဆိုရမယ်၊ 'ဘာသာပြန်ရန် မဖြစ်နိုင် ပြောမပြနိုင်တဲ့' သည် နိဗ္ဗာန်ကို အမျိုးမျိုးရှင်းလင်း ဖွင့်ဆိုထားပါတယ်။ သာမန် ဗုဒ္ဓဘာသာ အများစု လက်ခံတားတာကတော့ 'ဆင်းရဲဒုက္ခအပေါင်းမှ

လွတ်မြောက် ခြင်း' တရားပါပဲ။ ထေရဝါဒီ တစ်ယောက်အတွက် ဒါဟာ သံသရာ တည်း ဟူသော ချားရဟတ်မှ ကျွတ်လွတ်ခြင်း ဖြစ်ပြီး ဒါ အန္တိမ ရည်မှန်းချက်ပါပဲ။

သာမန်မြန်မာ ပုဒ္ဓဘာသာများ အတွက်တော့ နိဗ္ဗာန်ဆိုတဲ့ ဝေါဟာရက ရှေ့ဘဝ နောက်ဘဝနဲ့ ကံ ကံ၏ အကျိုးတို့ထက် အတော်မြင့်ပါတယ်။ သို့သော် နိဗ္ဗာန်ရောက်ရာ လမ်းကိုတော့ ပုဒ္ဓက ညွှန်ပြထားပါတယ်။ နိဗ္ဗာန်ရောက်ရာ ပထမဆုံးနှင့် အဓိကအကျဆုံး လမ်းကတော့ မဂ္ဂင်ရှစ်ပါး ဆိုတဲ့ လမ်းပါပဲ။ ဒီလမ်းကို ဒီပောပြောချက် တစ်နေရာ နှစ်နေရာမှာ အထူးဖော်ပြမှာပါ။ မဂ္ဂင် ရှစ်ပါးကတော့

၁။ အယူအမြင် မှန်ကန်ခြင်း (သမ္မာဒိဋ္ဌိ)
၂။ အကြံကောင်းများကို ကြံစည်ခြင်း (သမ္မာသင်္ကပ္ပ)
၃။ မှန်ကန် ကောင်းမွန်သော စကားကိုသာ ပြောဆိုခြင်း (သမ္မာဝါစာ)
၄။ မှန်ကန်၍ အပြစ်ကင်းသော အလုပ်ကိုသာ ပြုလုပ်ခြင်း (သမ္မာကမ္မန္တ)
၅။ မှန်ကန်သော အသက်မွေးခြင်း (သမ္မာအာဇီဝ)
၆။ မှန်ကန်စွာ ကြိုးစားအားထုတ်ခြင်း (သမ္မာဝါယမ)
၇။ မှန်ကန်သော အောက်မေ့မှု သတိအမြဲရှိခြင်း (သမ္မာသတိ)
၈။ မှန်ကန်စွာ တည်ကြည်သော သမာဓိရှိနေခြင်း (သမ္မာသမာဓိ)

ပထမ မဂ္ဂင်နှစ်ပါးကို ပညာမဂ္ဂင်ခေါ်တယ်၊ ပညာနဲ့ ဆိုင်တယ်။ ဒုတိယ မဂ္ဂင်သုံးပါးကတော့ သီလမဂ္ဂင်ဖြစ်တယ်၊ အကျင့်နှင့် ဆိုင်တယ်။ နောက်ဆုံး မဂ္ဂင်သုံးပါးကတော့ သမာဓိမဂ္ဂင်၊ သမာဓိနဲ့ ဆိုင်တယ်။

## ၂၊ ၃၊ ၂ အယူဝါဒများ

မြန်မာနိုင်ငံ ပုဒ္ဓဘာသာက အခြားထေရဝါဒ နိုင်ငံများမှာလိုပဲ အခြား အယူများနှင့် ဟပ်တန်သမျှ ဟပ်မိအောင် ညှိနှိုင်းကျင့်သုံးတဲ့ လက္ခဏာ ရှိပါတယ်။ ၁၉၈ဝ ပြည့်က ဒီ ပါရီမှာပဲ ကျွန်တော် ဟောပြောခဲ့တဲ့အတိုင်း မြန်မာပုဒ္ဓဘာသာမှာ ဟိန္ဒူအယူအချို့ ရောနှောပါဝင်နေပါတယ်။ ဒီထဲမှာ ထေရဝါဒက စွန့်ခွာခဲ့တဲ့ မဟာယနနဲ့ တန္တြအယူလည်း အနံ့အသက် မကင်းဘူး။ ပြီးတော့ ရှေးရှေးအထက် က ရှိခဲ့တဲ့ နတ်ကိုးကွယ်မှုကိုလည်း ရောနှောသလောက် ရောနှောကျင့်သုံးနေတယ်။ မြန်မာပုဒ္ဓဘာသာ အမည်ခံပြီး နောက်ကွယ်မှာ ထေရဝါဒ မစစ်မှန်တဲ့ အယူ အကျင့်များ ရှိနေတယ်၊ ထေရဝါဒနဲ့ ရောနှောနေသည့် အယူမှားများကို ဉာဏ်အမြင် အားနည်းတဲ့ မြန်မာများက သူ ကိုးကွယ်ဆည်းကပ်တဲ့ ပုဒ္ဓဘာသာ တရားစစ် တရားမှန်လို့ပဲ လက်ခံနေကြပါတယ်။

မြန်မာဗုဒ္ဓဘာသာဆိုတာ တကယ်တော့ တစ်ကိုယ်တည်း လူနှစ်မျိုးပါပဲ။ တစ်ဦးက ဗုဒ္ဓဘာသာ၊ တစ်ဦးက မြန်မာ။ သူ အသက်ရှင်နေထိုင်တာက တမလွန်ဘဝအတွက်သာ မဟုတ်ဘူး၊ မျက်မှောက်ဘဝလည်း ပါတယ်။ ဒီ ဒွန်တွဲမှုကို မြင်မှသာ သူ့ရဲ့ တစ်သက် နှစ်ဘဝအဖြစ်ကို နားလည်နိုင်ပါမယ်။ ဗုဒ္ဓဘာသာ တစ်ယောက်အဖြစ် သူက ဘုရား၊ တရား၊ သံဃာဆိုတဲ့ ရတနာသုံးပါးကို ဆည်းကပ် ကိုးကွယ်မယ်။ ဒါနဆိုတဲ့ လှူဒါန်းပေးကမ်းခြင်း၊ သီလဆိုတဲ့ အကျင့်သီလ စောင့်ထိမ်းခြင်းနဲ့ ဘာဝနာဆိုတဲ့ တရားရှုမှတ်ခြင်း ပြုမယ်။ ဒါတွေအားလုံးဟာ တမလွန်ဘဝအတွက်နဲ့ နောက်ဆုံး နိဗ္ဗာန်ရောက်ရာ ရောက်ကြောင်း အထောက်အပံ့ ဖြစ်စေရန် ရည်သန်တဲ့ အလုပ်တွေ ဖြစ်ပါတယ်။

မြန်မာတစ်ယောက်အဖြစ်သူက (၁) မျက်မှောက်ကို ကြည့်ပြီး ရုက္ခစိုး၊ ဘုမ္မစိုး၊ အာကာသစိုးတဲ့ နတ်မျိုးစုံကို နတ်ကောင်း နတ်မြတ်များပါ ရောပြီး ပူဇော်ပသမယ်။ မှော်ဝိဇ္ဇာ အတတ်တွေကိုလည်း ယုံကြည်အားထားမယ်။ မပူဇော်ရင် ဒုက္ခပေးမှာ ကြောက်တာကိုး။ (၂) စည်းစိမ်ချမ်းသာနဲ့ တန်ခိုးဩဇာတွေကို ရချင်လို့လည်း သူက လောကီပညာနဲ့ ဂမ္ဘီရ အတတ်တွေနောက် လိုက်ဦးမယ်၊ ရှေးထုံးတွေ အတိုင်း လိုက်လုပ်မယ်။ (၃) ပြီးတော့- အဂ္ဂိရပ်၊ ဗေဒင်ယတြာကိုလည်း ယုံကြည်တတ်တယ်။

မြန်မာတို့ရဲ့ နတ်မျိုးစုံက အလွန်အမျိုးများ ထွေပြားပါတယ်။ တချို့ နတ်များက ဗုဒ္ဓဘာသာတွေပဲ၊ တချို့ကတော့ ဟိန္ဒူ၊ တချို့လည်း တိုင်းရင်းဖြစ်တွေပါ။ သည်တန်ခိုးရှင် နတ်တွေကို သုံးမျိုးသုံးစား ခွဲကြည့်နိုင်ပါတယ်။ (၁) နတ်ဘုံ၊ ပြဟ္မာဘုံမှ သကြားမင်းနှင့်တကွ နတ်ဒေဝါများဆိုတဲ့ ဗုဒ္ဓဘာသာနတ်များ။ (၂) ဟိန္ဒူနတ်များနှင့် (၃) ဤကမ္ဘာမှ နတ်များ (နတ်စိမ်းများ)၊ သည်ထဲမှာ ဗုဒ္ဓဘာသာလည်း ပါတယ်၊ ပြည်တွင်းဖြစ် တိုင်းရင်းသား နတ်များလည်း ပါဝင်ပါတယ်။

## ၂၊ ၃၊ ၂၊ ၁ နတ်ပြဟ္မာများ

ပြဟ္မာဘုံ ၂၀ က တစ်ခုနှင့် တစ်ခု အထက်အောက် ဆင့်လျက်ရှိတယ်။ ပြဟ္မာအောက်မှာ နတ်ဘုံ ၆ ထပ် အစီအစဉ်နှင့် ရှိ ပါတယ်။ နတ်ဒေဝါတွေထဲက မြန်မာအများအတွက် အရေးပါတဲ့ အချို့ကို အမည်နှင့် သူ့လုပ်ငန်း အမျိုးအစားကို သိရှိရန် ပြောပြပါတယ်။

၁။ မာရ်နတ် ဆိုတဲ့ နတ်ဆိုး - အထက်မှာ ပြောပြခဲ့ပါပြီ။ နောက်လည်း သူ့အကြောင်း ထပ်ခါထပ်ခါ ပြောရဦးမှာပါ။ သူကတော့ နတ်ပြည် ၆ထပ်မှာ အမြင့်ဆုံးဘုံကို အစိုးရတဲ့ နတ်မင်းပါပဲ။ မြန်မာဗုဒ္ဓဘာသာရဲ့ စိတ်မှာ သည်နတ်မင်းကို ဆိုးကျိုးပေးတဲ့ နတ်ဆိုးအဖြစ် မြင်နေပါတယ်။

၂။ သကြားမင်း (သဏ္ဍ) - ကတော့ ဒုတိယ နတ်ဘုံကို အစိုးရတဲ့ နတ်မင်းကြီးပါပဲ။ သဘောကောင်းတဲ့ နတ်မင်းပါ။ သူ့မှာ ရထားထိမ်း မာတလိနှင့် ဗိသုကာအကျော် ဝိသကြုံနတ်သားဆိုတဲ့ တပည့်များ ရှိပါတယ်။

ယခင် ပါရီဟောပြောပွဲ နှစ်ကြိမ်မှာ သကြားမင်းအကြောင်း အတော်ပြည့်စုံအောင် ပြောခဲ့ပြီးပါပြီ။ ထပ်မံပြီး အနည်းငယ် ဖြည့်စွက်ပြောချင်ပါသေးတယ်။ သကြားမင်းကို ဟိန္ဒူရိုးရာအယူမှာ အိန္ဒြာလို့ ခေါ်ပါတယ်။ ဗုဒ္ဓစာပေထဲမှာလည်း အိန္ဒြာဆိုတာ သကြားမင်းရဲ့ အမည်ကွဲတစ်ခုပါပဲ။ ဗုဒ္ဓစာပေ အတော်များများမှာ ဖော်ပြထားတာကတော့ ဗုဒ္ဓသာသနာဟာ ၅၄၄ ဘီစီ ဗုဒ္ဓပရိနိဗ္ဗာန် ပြုပြီးနောက် နှစ် ၅၀၀၀ တည်တံ့မယ်။ သာသနာရဲ့ ဒုတိယပိုင်းနှစ် ၂၅၀၀ ကိုတော့ အိန္ဒြာသကြားစောင့်မယ်။ သည်အခါမှာ သကြားမင်းက မကောင်းသူပယ် ကောင်းသူကယ်လိမ့်မယ်။ ယခု သာသနာ သက္ကရာဇ် ၂၅၂၈[*]ခုပါ။ နောက်တစ်ခု မြန်မာအများယုံကြည်တာက သကြားမင်းက သင်္ကြန်ချိန်မှာ လူ့ပြည်ဆင်းပြီး သုံးရက် လေးရက် နေတယ်။ သင်္ကြန်က သသ်ကရိုက်စကား သင်္ကန္တိမှလာတယ်၊ မိန်ရာသီမှ မိဿရာသီကို ကူးပြောင်းချိန်ကို ခေါ်တာပါ။ သင်္ကြန်ကာလက နှစ်စဉ် ဧပြီ ၁၃ ရက်မှာ စတင်ပြီး မြန်မာတို့ ရေသဘင်ဆင်နွှဲတဲ့ ပွဲကာလပါ။ ပွဲကာလ ဧပြီ ၁၅ သို့မဟုတ် ၁၆ ရက်မှာ ပြီးဆုံးပြီး နောက်တစ်နေ့က နှစ်ဆန်း တစ်ရက်နေ့ဖြစ်ပါတယ်။

ယာဉ်မှူး မာတလိက သူ့ဆရာ သကြားမင်း စေလွှတ်တဲ့အခါ လူ့ပြည်လာပြီး မင်းကောင်း မင်းမြတ်များကို သကြားစံရာ တာဝတိံသာ နတ်ပြည်ကို ပင့်ဆောင်ပါတယ်။ လူ့ပြည်လာတာ နှစ်ကြိမ်ရှိပါပြီ။ ဝိဿကြုံနတ်သားကတော့ ဆောက်လုပ်ရေးဘက်ကပါ။ မြန်မာဝေါဟာရ ဗိသုကာက သူ့အမည်က လာတာပါ။

စတုမဟာရာဇ် ကတော့ ကမ္ဘာ့ ထောင့်လေးနေရာမှာ စောင့်နေကြတဲ့ ကမ္ဘာစောင့် နတ်မင်းကြီးလေးပါး ဖြစ်ပါတယ်။ အသိတရား ပြည့်စုံတဲ့ မြန်မာ ဗုဒ္ဓဘာသာများ လစဉ်လတိုင်း လပြည့်နေ့မှာ သီလဆောက်တည် ဒုစရိုက်ရှောင်ကြပါတယ်။ ဘာကြောင့်လဲဆိုတော့ လပြည့်နေ့တိုင်း နတ်မင်းကြီးများက လူ့ပြည်

[*] ဟောပြောစဉ်က ခရာဇ် ၁၉၈၄ ခုနှစ် - ကောဇာ ၁၃၄၆ ခု - သာသနာ ၂၅၂၈ ခုနှစ်

ဆင်းကြည့်တယ်။ ကောင်းမှုပြုသူနဲ့ မကောင်းမှုပြုသူများကို မှတ်သားပြီး တာဝတိံသာ နတ်များထံ သတင်းပို့ကြရတယ်။ တာဝတိံသာနတ်များက လူတို့ ကုသိုလ်ပွားများ သည်ဆိုလျှင် ဝမ်းသာကြပြီး ကုသိုလ်ကောင်းမှု မပြုကြလျှင်တော့ စိတ်ဝမ်း မကြည် သာ ကြဘူးလို့ ဆိုပါတယ်။ (G.P Malalasekera : Dictionary of Pali Proper Names, Vol I, London, 1937, p 861-2 ရှုပါ)

## ၂၊ ၃၊ ၂၊ ၂ ဟိန္ဒူနတ်များ

တစ်ကြောင်းမဟုတ် တစ်ကြောင်း ကြောင်းကြောင့် မြန်မာဗုဒ္ဓဘာသာများ ရဲ့ နှလုံးသားမှာ ဟိန္ဒူနတ်ဒေဝါ အမြောက်အမြား ကိန်းဝပ်နေပါတယ်။ ပုဂံဘုရား စေတီများမှာ ပိဿနိုး၊ သူရိယ၊ ပရာမိဿဝ (သက်ကရိုက်ပါရာ မိဿဝါရ)၊ မဟာပိန္နဲ နှင့် ပြဟ္မာရုပ်ထုများ တွေ့နိုင်ပါတယ်။ သည်နတ်များ အကြောင်းကို ယခင်နှစ်ကြိမ် ကျွန်တော်ဟောပြောစဉ်က သူရဿတီနတ်သမီးနှင့်အတူ အသင့်အတင့် ဖော်ပြခဲ့ပြီး ဖြစ်ပါတယ်။ နောက်ဆုံး ဖော်ပြခဲ့တဲ့ သူရဿတီ နတ်သမီးအကြောင်းကို ကျွန်တော်ရဲ့ ယခု ဟောပြောချက်မှာ ထည့်သွင်း ပြောကြားရန်ဖြစ်လို့ ယခင် သူ့အကြောင်း ပြောခဲ့ပြီး အချို့ ပြန်ထပ်ရန် ရှိပါတယ်။

ဟိန္ဒူရိုးရာ ယုံကြည်ချက်အရ သူရဿတီက သားသမီး ထွန်းကားအောင် စီးပွားဖြစ်အောင် စောင့်ရှောက်တဲ့ နတ်ပါ။ ပြဟ္မာ ဘုံမှ ဖြစ်ပြီး ပညာနှင့် အဟော အပြော အတတ်ကိုလည်း စောင့်တဲ့ နတ်သမီး ဖြစ်ပါတယ်။ သသ်ကရိုက် ဘာသာ စကားနဲ့ ဒေဝနာဂရီ အက္ခရာကို တီထွင်တာလည်း သူပဲ ဖြစ်ပြီး ဝိဇ္ဇာသိပ္ပံ အတတ် မျိုးစုံကိုလည်း ချီးမြှောက်သူ ဖြစ်ပါတယ်။ သို့သော်လည်း မြန်မာများအတွက်တော့ သည်နတ်သမီးက ချစ်သူတို့ရဲ့ အောင်သွယ်စောင့်ရှောက်သူလည်း ဖြစ်ပါတယ်။ အချစ်နာကျသူ သို့မဟုတ် မိမိ ချစ်နေသူက မေတ္တာမတုံ့ပြန်သူ အတော်များ များဟာ နတ်ကတော် (နတ်ထိန်း)ကို ချဉ်းကပ်ပြီး မိမိကို ဖေးမ စောင့်ရှောက်ပါစေ ကြောင်း သူရဿတီကို ပူဇော်ပသကြတယ်။

## ၂၊ ၃၊ ၂၊ ၃ ဤမြေမှ နတ်များ

ဤကမ္ဘာမြေမှာ နေကြတဲ့ နတ်များက စာရင်းပြု အမျိုးခွဲခြားရန် မလွယ် ပါဘူး။ ဒီထဲက အချို့ အထူးသဖြင့် အစောင့်နတ်များ အကြောင်း ဗုဒ္ဓစာပေများမှာ ပါရှိပါတယ်၊ သို့သော်လည်း ပြည်တွင်းဖြစ် နတ်များလည်း ရှိပါတယ်၊ သူတို့က ယိုးဒယားနိုင်ငံမှ 'ဖီ' နှင့် ဆင်ဆင်တူပါတယ်။ သည်နတ်တွေကတော့-

၁။ ကမ္ဘာလောကမှာ ရှိရှိသမျှ သက်ရှိသက်မဲ့များ လူတွေ၊

နေအိမ်တွေ၊ သစ်ပင်၊ တောတောင်၊ ပင်လယ်ကို စိုးတဲ့ စောင့်တဲ့ သမာဒေဝ နတ်ကောင်းများ။ သစ်ပင်စောင့်တဲ့ ရုက္ခစိုး နတ်ကတော့ မြန်မာတို့နှင့် ပိုမိုရင်းနှီးပုံရတယ်။

၂။ ၃၇ မင်းနတ်များ။ သည်ထဲမှာ သဂ္ဂြရ (သကြားမင်း) ကလွဲလျှင် အားလုံးဟာ တိုင်းရင်းသား နတ်တွေပါပဲ။ သူတို့ကို မထေမဲ့မြင် လုပ်လျှင် ဒုက္ခပေးတတ်ပါတယ်။ သည်နတ်များ နတ်ဖြစ်လာရတဲ့ ဇာတ်လမ်းတွေကလည်း စိတ်လှုပ်ရှားဖွယ် ဇာတ်လမ်းတွေပါ။ အားလုံးနီးပါးဟာ အသေဆိုးနဲ့ သေရသူချည်းပါပဲ။ အားလုံးမှာလည်း ကိုယ်ပိုင်နတ်အမည် ရှိပါတယ်။ ဒါပေမဲ့ သူတို့ကို နတ်အဖြစ် စတင် အသိအမှတ်ပြု ကိုးကွယ်တာ ဘယ်သူဘယ်ဝါလဲ၊ ဘယ်အချိန်အခါကလဲ၊ ဘယ်လို ဘယ်လို ဖြစ်တာလဲ ဆိုတာတော့ မသိရှိရပါဘူး။ (အသေးစိတ်လေ့လာနိုင်ရန် RC Temple: The 37 nats, London, 1910 ကိုရှုပါ။)

၃။ ရပ်စောင့်နတ် ရွာစောင့်နတ်များ အကြောင်းလည်း ရိုးရာပုံပြင်များ အဖြစ် မြန်မာစာပေမှာ အများအပြား ရှိပါတယ်။ သူတို့အကြောင်း ပြောစရာ ပုံပြင်နှင့် ကပြတဲ့ ဇာတ်တွေ အများကြီးပါပဲ။ အချို့ကို ဇာတ်လမ်းဖွဲ့ပြီး ဝတ္ထုလုပ် ထားပါတယ်။ သည်နတ် များကိုလည်း သင့်ရာ သင့်ရာ အခါမှာ အသိအမှတ်ပြု ပူဇော်ပေးရန် လိုပါတယ်။

၄။ အစိမ်း- သူတို့ကတော့ အသေဆိုးနှင့် (အစိမ်းသေ) သေသူများက ဖြစ်လာတဲ့ နတ်တွေပါ။ သူတို့ နတ်ဘဝက ခဏ ကလေးပါပဲ။ အများဆုံး ခုနှစ်ရက်-သည်အတောအတွင်းမှာ မိမိ ဘဝဟောင်းက မိသားစုအတွက် ရတက်မအေးနိုင်ပဲ သောကများနေတဲ့အတွက် မကျွတ်သေးဘူး၊ ဘဝဟောင်းတုန်းက အိမ်အနီးအနား မှာပဲ ခိုကပ်နေတယ်။

## ၂၊ ၃၊ ၂၊ ၄ မှော်အတတ်၊ ဗေဒင်နှင့် အခြားပညာများ

မြန်မာရဲ့ အယူအစွဲမှာ တစ္ဆေသူရဲတွေ၊ သိဒ္ဓိရှင်တွေ၊ စုန်းကဝေတွေ စတဲ့ တမလွန်လောကသား အများအပြားက လူ့အသွင် ဆောင် (ကိုယ်ထင်ပြ) နိုင်တယ်။ မင်စာ၊ အသူရကာယ် စတဲ့ အခြား တမလွန်သားများကတော့ လူ့အသွင် မဆောင်နိုင်ကြဘူး။ မြန်မာက ထိုးကွင်းမင်ကြောင်ထိုးပြီး ဆေးသောက်၊ အင်းအိုင် လက်ဖွဲ့ဆောင် စတဲ့ ဂမ္ဘီရအတတ်ပညာများ သုံးပြီးတော့လည်း အန္တရာယ် ပြီးအောင် မှော်ပေါက်ပြီး တန်ခိုးရအောင်လည်း လုပ်တတ်ကြတယ်။ ရွာထဲ လမ်းထဲ အိမ်ခုနှစ်အိမ်မှာ စုန်းကဝေ တစ်ယောက်နှုန်း ရှိတတ်တော့ စုန်းကဝေက အလွန်ပေါတယ်လို့

မြန်မာတွေက ဆိုတယ်။ စုန်းကဝေက သူ့အတတ်နဲ့ မလိုသူကို ပူးပြီး (ပယောဂသွင်း) ဒုက္ခပေးတတ် (ကိုင်တတ်) တယ်။

နက္ခတ်ဗေဒင်ပညာကို မဇ္ဈိမပူရပုဏ္ဏားများ တတ်ကျွမ်းပြီး ဟောပြောနေတာ အေဒီ ၁၁ ရာစုကတည်းက ဖြစ်ပါတယ်။ မြန်မာမင်း မိဖုရားနဲ့ မင်းညီမင်းသားရော ရပ်သူ ရွာသားများအတွက်ပါ နက္ခတ်ဗေဒင်ရဲ့ အခန်းကဏ္ဍက တစ်ဦးချင်းကိုယ်ရေးကိုယ်တာ ကိစ္စများမှ အစ ပွဲလမ်းသဘင်များအထိ အရေးကြီးတာ ယနေ့ မျက်မှောက်အထိပါပဲ။ နက္ခတ်ဗေဒနဲ့ အနာဂါတ်ကို ဟောမယ်၊ ဘေးရန် အန္တရာယ် အသွယ်သွယ်ရှောင်ဖို့ ယတြာပေးမယ်။ ပွဲလမ်းပဲဖြစ်ဖြစ် စီးပွားရေး လူမှုရေးအတွက် နေ့ကြီး အခါကြီး ရက်သတ်ရန်ပဲ ဖြစ်ဖြစ်၊ ရက်ကောင်းချိန်ခါရွေးဖို့လည်း ဗေဒင်ပါရတယ်။

တခြားအစွဲနဲ့ ရိုးရာတွေ ရှိသေးတယ်။ နိမိတ်ပြခြင်း ပယောဂနှင်ခြင်းဆိုတဲ့ ရိုးရာတွေအကြောင်း ယခုဟောပြောချက်မှာ ပြောသွားပါမယ်။ မြန်မာ ဗုဒ္ဓဘာသာ တစ်ယောက်ရဲ့ ကိုယ်တိုင်ဝန်ခံချက်ကို ပြောပြလျှင် လူကြီးမင်းများက မယုံခက် ယုံခက် ဖြစ်ကောင်း ဖြစ်မယ်၊ မဆီမဆိုင် မဟုတ်မဟတ်လို့လဲ ထင်ကောင်းထင်မယ်။ သို့သော်လည်း မြန်မာဗုဒ္ဓဘာသာတစ်ဦးရဲ့ ဘဝပုံလွှာနဲ့ သူ့ဘဝ အမြင်ဖြစ်ထွန်းရာမှာ သည်အယူများက သူ့ကဏ္ဍနှင့် သူအစီအစဉ်ရှိရှိ ပါလာတဲ့ ကိစ္စတွေပါ။ ဒီပုဂ္ဂိုလ်ဟာ ဗုဒ္ဓဘာသာမဖြစ်မီက ဩကာသလောကထဲက ဝတ္ထုအသီးသီးမှာ ဝိညာဉ်ရှိတယ်လို့ ယုံကြည်ခဲ့သူပါ။ ဒီတော့ သူ့ရဲ့ အဇ္ဈတ္တမှာ ရှေးဟောင်း အယူတွေက ကိန်းအောင်းနေဆဲ ဖြစ်ပြီး ရိုးရာအစဉ်အလာနဲ့ သူ့ပတ်ဝန်းကျင် ကလည်း သည်အစွဲတွေ မြဲနေအောင် လုပ်ထားတယ်။ သူ့ဘဝဟာလည်း ကျွတ်တမ်းမဝင်မီဖြတ်သန်းရမည့် သံသရာခရီးရှည်ကြီးမှာ တစ်ခန်းတစ်ကဏ္ဍမျှသာ ဖြစ်ကြောင်း သူသိပါတယ်။ ဒီ မျက်မှောက်ဘဝဆိုတဲ့ တစ်သက်တာမှာ ဒုက္ခ သောကတွေ မျိုးစုံဝိုင်းပြီး ဆောက်တည်ရာမရ ဖြစ်တဲ့အခါ နေမထိ ထိုင်မထိ ဖြစ်ပြီး အားငယ်ပါတယ်။ သည်လိုဖြစ်တဲ့အခါမျိုးမှာ ရိုးရာလိုက်လုပ်ကြတဲ့ ပုဂ္ဂိုလ်များအကြောင်းကို သက်ကြီးဝါကြီးများထံမှ ကြားရ သိရတာလည်း ရှိတယ်၊ ဘာသာရေးစာပေ၊ လောကီစာပေတွေမှာ ဖတ်ရှုသိရှိရတာလည်း ရှိတယ်။ တကယ့်တော့ ဘိုးဘေးတို့ရဲ့ ရိုးရာကို လိုက်ပြီး အစဉ်အလာအတိုင်း လုပ်တာပါပဲ။ လူကြီးမင်းများပြန်လည် သတိရစေချင်ပါတယ်။ ဗုဒ္ဓဟာ လွတ်မြောက်လမ်းကို ညွှန်ပြသူ ဆရာတစ်ဆူသာ ဖြစ်ပါတယ်။ ဂေါ့(ဒ) မဟုတ်ပါဘူး။ လောက၏ ဖန်ဆင်းရှင်ပိုင်ရှင် မဟုတ်ပါဘူးလို့ ကျွန်တော် ပြောခဲ့ပါတယ်။

## ၂။ ၄ စီးပွားရေးနောက်ခံ

မြန်မာနိုင်ငံက ဖွံ့ဖြိုးဆဲ နိုင်ငံပါ။ နိုင်ငံမှာ စက်မှုနည်းပညာ မဖွံ့ဖြိုးသေးသည့် အကြောင်းနှင့် ရာသီဥတုနဲ့ ရေမြေတောတောင် အနေအထားများကြောင့် နိုင်ငံရဲ့ စီးပွားရေးက စိုက်ပျိုးရေးပေါ် အားထားနေရတာ သဘာဝပါပဲ။ ယခင်က ပြောခဲ့တဲ့ အတိုင်းပါပဲ။ မြန်မာနိုင်ငံမှာ သယံဇာတကြွယ်ဝတယ်၊ ရှိတဲ့ သယံဇာတတွေကို ထိထိရောက်ရောက် မသုံးရသေးဘူး။ သည်လို မသုံးစွဲနိုင်သေးသမျှ ကာလမှာတော့ ပြည်တွင်းစားသုံးမှုအတွက်ရော ပြည်ပ ပို့ကုန်အတွက်ပါ လယ်ယာကုန်ထုတ်လုပ်ငန်းမှာ အားစိုက် အဓိကထားနေရဦးမှာပဲ။

မြန်မာတွေဟာ စိုက်ပျိုးရေး ပင်မ လုပ်ကိုင်သူတွေပါ။ ရှေးအနှစ် ၁၀၀၀ ကျော် ကာလ မြန်မာတွေ မြေပြန့်ဒေသကို ဆင်းလာပြီးသည်မှ စပြီး သည်အလုပ် လုပ်ခဲ့ကြတာပါ။ ဆန်စပါးကို ရေသွင်းစိုက်၊ အခြောက်စိုက် စိုက်ပျိုးတာ မြန်မာများ ရဲ့ အဓိက အသက်မွေး လုပ်ငန်းပါပဲ။ လယ်ယာမြေကို ထယ်ထိုး၊ ထွန်ယက်၊ ကောက်စိုက်ပြီး ရိတ်သိမ်းတဲ့ အလုပ်က ရှေးသမရိုးကျအတိုင်း လုပ်နေဆဲပဲ။ လယ်ယာထဲကို စက်မှုကိရိယာတွေတော့ ဝင်လာစ ပြုပါပြီ။ သို့သော် ဒီနေ့အထိတော့ ရှေးရိုးအတိုင်း နေ့တဓူဝ လုပ်နေကြဆဲပါ။ ထွန်ယက်ရာမှာ လုပ်အားပေးဖော်တွေကတော့ ကျွဲနွားဝန်ဆွဲ တိရစ္ဆာန်များ ဖြစ်ပါတယ်။ ကျွဲနွားများအပေါ် မြန်မာများက သံယောဇဉ် ကြီးပါတယ်၊ သို့ပေမဲ့ ကျွဲနွားကို အသိဉာဏ်မဲ့တဲ့ သတ္တဝါအဖြစ် မြင်ကြတယ်။ အဆင်အခြင်တရားကင်းမဲ့တဲ့ သူတစ်ယောက်ကို 'လူ့နွား' လို့ သုံးနှုန်းတာသာကြည့်ပါ။ မွေးမြူကြတဲ့ သတ္တဝါတွေထဲမှာ ဆင်နဲ့ မြင်းကိုတော့ မင်းစိုးရာဇာတို့ အဆောင်အယောင်အဖြစ် သဘောထားကြပါတယ်။ ရှေးရှေး အစဉ်အလာပါပဲ။ ဆင်ကိုတော့ အသိဉာဏ်ကြီးတယ်လို့ မှတ်ယူကြတယ်။ ခွေးကိုတော့ နိမ့်ကျတဲ့ သတ္တဝါ၊ အနိမ့်ကျဆုံးဘဝလို့ မြင်တယ်။ အနောက်တိုင်းသား ခွေးချစ်သူများရဲ့ အမြင်နဲ့ ဖီလာကြီး ဖြစ်နေတယ်။ အင်္ဂလိပ်လူမျိုးရဲ့ 'You lucky dog' ဆိုတဲ့ အသုံးအနှုန်းကို 'ဟယ်-မဟုတ်က ဟုတ်က' လို့ ပြောစရာ ဖြစ်စေပါတယ်။ လူတစ်ယောက်ကို ခွေးနှင့်နှိုင်းပြီ ဆိုလျှင် သူ့ကို အစွမ်းကုန် နှိမ်တာပါပဲ။ သည်အယူအဆ ဖြစ်လာရတာက မြန်မာဗုဒ္ဓဘာသာမှာ ခွေးဘဝကို အပယ်လေးဘုံထဲကလို့သာ မှတ်ယူ တာကြောင့် ဖြစ်မယ်လို့ ကျွန်တော်ထင်ပါတယ်။

ဗုဒ္ဓဘာသာက မနှစ်သက်တဲ့ အသက်မွေးလုပ်ငန်းများပင် ဖြစ်သော်လည်း ကျေးလက်ဒေသများမှာ ပရိယေသန ဝမ်းစာရေးအတွက် သို့မဟုတ် ဝင်ငွေတစ်ဖက်တစ်လမ်းမှ ဖြည့်ပေးရန်အတွက် မုဆိုးနဲ့ တံငါသည် အလုပ်လုပ်သူတွေလည်း

ရှိပါတယ်။ မုဆိုးသုံး အဓိက လက်နက်တွေက လေးနှင့်မြား၊ လှန် ပါဝင်ပြီး ခွေးလည်း တောလိုက်ရာ ပါပါတယ်။ တောရိုင်း တိရစ္ဆာန်များအနက် အရက်စက်ဆုံးနှင့် ကြမ်းတမ်းဆုံးက ကျားပါပဲ။ ငြိမ်ငြိမ်ကုပ်ကုပ်နှင့် အေးအေးဆေးဆေး နေတာက သမင်။ ဂနာမငြိမ်တာက မျောက်။ ဖွတ်ကတော့ သူ့လျှာနှစ်ခွက အမြဲတမ်း အလစ် မပေးဘူးဆိုတဲ့ လက္ခဏာပြတယ်။ ပြီးတော့ သူ့ကိုယ်ရောင်ကလည်း မီးခိုးရောင်မွဲမွဲ ဆိုတော့ ဖွတ်ကို နိမိတ်မကောင်းတဲ့ အကောင်၊ လာဘ်တိတ်စေတဲ့ သတ္တဝါအဖြစ် မြန်မာများ ယုံကြည်တယ်။ မြန်မာစကားမှာ ဖွတ်ရဲ့ ကိုယ်ရောင် (မွဲ) တာနဲ့ ဆင်းရဲ (မွဲ) တာ အတူတူ ဖြစ်ပါတယ်။ သည်အတိုင်းပဲ ယိုးဒယား (ထိုင်း) များကလည်း အယူရှိကြောင်း ကျွန်တော် ကြားဖူးပါတယ်။ အခြားတစ်ဘက်မှာတော့ ဥဒေါင်းကို မင်္ဂလာရှိတယ်လို့ မှတ်ယူပြီး မင်းသုံးတံဆိပ် သင်္ကေတအဖြစ် သုံးပါတယ်။ လင်းတ က မင်္ဂလာ မရှိသည့်အကောင်။ လင်းတနှင့် ဖွတ်အကြောင်း နောက်ပိုင်းမှာ ပါလာ ပါဦးမယ်။

ချောင်းငယ်မှ မြစ်ကြီးအထိ ကွန်ယက်၊ မြှုန်း၊ ငါးမျှားချိတ်တွေ သုံးပြီး ငါးဖမ်း ကြတာ မြန်မာပြည်အနှံ့အပြားပါ။ တံငါရော မုဆိုးပါ ဗုဒ္ဓဘာသာ မကြိုက်သည့် အသက်မွေးမှု လုပ်ကြတာဖြစ်လို့ မြန်မာလူ့အသိုင်းအဝန်းမှာ အနိမ့်ဆုံး အလွှာဝင် များအဖြစ် သတ်မှတ်ခံကြရပါတယ်။

မြန်မာနိုင်ငံမှာ ကာယလုပ်သားများ၊ အနုပညာရှင်များ လက်မှုပညာရှင်များ အမျိုးစုံ ရှိပါတယ်။ အနည်းငယ်ဖော်ပြရလျှင် လှေထိုးသား၊ ဖောင်သမား၊ လှည်း သမား၊ ထန်း(တက်)သမား၊* စာရေးဆရာ ကဗျာဆရာ၊ ဂီတဆရာ၊ ပန်းပဲဆရာ၊ ပန်းတိမ်ဆရာ၊ ပန်းရန်ဆရာ၊ ယက္ကန်းဆရာ၊ အိုးထိမ်းသည်၊ ကျောက်ဆစ်နှင့် သစ်ထွင်း ပန်းပုဆရာတွေ။ နောက်ဆုံး ဖော်ပြတဲ့ ကျောက်ဆစ်ဆရာနှင့် သစ်သား ပန်းပုဆရာများကို နောက်ဆုံး မြန်မာဘုရင် နန်းစိုက်ခဲ့တဲ့ မန္တလေးမှာ အဓိက တွေ့နိုင်ပါတယ်။

နေ့စဉ် လူမှုဘဝမှာ ယောကျ်ားများ အလုပ်မှာ အမျိုးသမီးများလည်း ပါဝင်ပြီး ခွဲဝေ လုပ်ဆောင်ကြပါတယ်။ အထူးသဖြင့် ကျေးလက်ဒေသများမှာ လုပ်ကြပါ တယ်။ အမျိုးသမီးများက သူတို့ အခန်းကဏ္ဍကို ထိန်းသိမ်းလျက်ပါ။ မိန်းမ ဆန့် ကျင်တဲ့ တစ်ဖက်သက်ကျတဲ့ မြန်မာဆိုရိုးစကားတွေ ရှိသော်လည်း သူတို့အလုပ် သူတို့ လုပ်လျက်ပါ။ အဆိုတချို့က "ကြက်မတွန်လို့ မိုးမလင်း၊ ကြက်ဖတွန်မှ

---

* အညာအသုံး ထန်းသမား

မိုးလင်းမည်”။ ဒီ ခံယူချက်မျိုး တရုတ်စကားပုံများမှာလည်း တွေ့ရပါတယ်။ “လှိုင်းကြီး လှေအောက်၊ တောင်ကြီး ဖဝါးအောက်” အဓိပ္ပာယ်က မိန်းမသည် ယောကျ်ားထက် အမြဲနိမ့်ရမည်လို့ ဆိုလိုတယ်။ နေ့စဉ်လုပ်ငန်း အမြောက်အမြား အမျိုးသမီးများ လက်ထဲမှာ ရှိနေပါတယ်။ ကျေးလက်မှာ မိသားစု စီးပွားရေးမှာ အမျိုးသမီး အရေးပါကြောင်း ပြလျက်ပါ။

## ၂။ ၅ လူမှုအသိုင်းအဝန်း

အနောက်တိုင်းသား စာရေးသူ တော်တော်များများက မြန်မာများကို ပေါ့ပေါ့ နေ ပေါ့ပေါ့စား အပျော်အပါး ကြိုက်သူများအဖြစ် ရေးထားပါတယ်။ သို့ပေမဲ့ သူတို့ က မြန်မာများမှာ စိတ်အလိုမကျ ဝေဒနာ ခံစားရတာ မရှိဘူး၊ သူတို့ လူမျိုးထဲက လူတွေမှာတော့ စိတ်ငြိမ်ဆေးတွေ တစ်ပုံတစ်ပင်ကြီး သောက်ပြီး သောက ငြိမ်းအောင် လုပ်နေကြရတယ်ဆိုတာ ထည့်မရေးကြပါဘူး။ အဲဒီ ပုဂ္ဂိုလ်များက မြန်မာများ လယ်ထဲ ယာထဲမှာ၊ မြစ်ထဲမှာ ခက်ခက်ခဲခဲ ပင်ပင်ပမ်းပမ်း လုပ်ကြ ကိုင်ကြပုံကို မေ့နေပါတယ်။ သည်လို အလုပ်လုပ်နေချိန်မှာ အလုပ်အပြင် အခြား ဘာကိုမှ အာရုံ စိုက်ရအောင် အချိန်မပေးနိုင်ကြရှာဘူး။ ဒါကြောင့်လည်း သူတို့တွေ စိတ်လက် အပမ်းဖြေဖို့ အခွင့်အခါလေး ရလိုက်တာနဲ့ အစွမ်းကုန် ပျော်လိုက် ကြတာပါ။ ၂၀ ရာစုတွင်းအထိ ဖျော်ဖြေရေး လုပ်ပုံက ရိုးရိုးလေးပါပဲ။ လူကြိုက် အများဆုံးကတော့ ပွဲ (ဇာတ်စင်)၊ အကနှင့် ဂီတ။ တီးမှုတ်သီဆိုတဲ့ အခါလည်းရှိ၊ လောင်းကစားလည်း လုပ်တတ်ကြတယ်။ မြင်း၊ နွား အပြေးပြိုင်ပွဲနဲ့ လက်ဝှေ့ပွဲ ကိုလည်း များသောအားဖြင့် လပြည့်ရက်မှာ ကျင်းပလေ့ရှိတဲ့ ပွဲသဘင်များနှင့် တွဲပြီး လုပ်လေ့ရှိတယ်။ ယခု ပြောသည့် ပျော်စရာ ရွှင်စရာ ပွဲသဘင်က ခြောက်သွေ့ (ပွင့်လင်း) ရာသီမှာပဲ လုပ်နိုင်ပါတယ်။ သည်လို လူမှုဝန်းကျင် အနေအထားက ခေတ်သစ်ရောက်တော့ ပြောင်းလဲလာရတာ အထူးပြောစရာ မလိုပါဘူး။ မြို့ပြမှာ ရုပ်ရှင်ရုံ၊ တောရွာမှာ အခမဲ့ ပြသည့် ရုပ်ရှင်၊ သည့်အပြင် ဘောလုံး၊ ဘတ်စကတ် ဘော၊ ဘောလီဘောစတဲ့ အချိန်သုံးစရာ နည်းအဖုံဖုံ မြန်မာပြည် တစ်လွှားမှာ ပြန့်ပွားနေပါပြီ။

## ၂။ ၆ မြန်မာမိသားစု

အထက်မှာ ဖော်ပြခဲ့တဲ့ ကျယ်ပြန့်သော လူ့အသိုင်းအဝန်းထဲမှာ မြန်မာ ဗုဒ္ဓဘာသာတစ်ယောက် ပေါက်ဖွားကြီးပြင်းရာဖြစ်ပြီး သူနှင့် ဗဟိုတူတဲ့ နောက်ထပ် အဝန်းအဝိုင်းငယ် တည်ရှိနေပြန်ပါတယ်။ သူ့ရဲ့ မိသားစုပါပဲ။

ဗုဒ္ဓအဆုံးအမကို လိုက်နာတာ တစ်ကြောင်း နည်းပညာ မဖွံ့ဖြိုးတာ တစ်ကြောင်းအပြင် ပတ်ဝန်းကျင် အနေအထားကြောင့် မြန်မာ့ လူ့ဘဝဟာ ဖြောင့်ဖြောင့်တန်း တန်း မရှိပါဘူး။ (အခြား ဗုဒ္ဓဘာသာနိုင်ငံများလည်း သည်အတိုင်းပါပဲ)။ လူတွေ လက်ခံတဲ့ စံချိန်စံညွှန်းတွေ တန်ဖိုးတွေကလည်း အနောက်တိုင်းနှင့် ကွဲပြားပါတယ်။ ရုပ်ဝတ္ထုကို စွဲလမ်းတပ်မက်ခြင်းထက် အကျင့်သီလ ပြည့်ဝမှုကို ရှေ့တန်း တင်ပါတယ်။ ရောင့်ရဲတင်းတိမ်မှုကို စိတ်တိုင်းမကျ လိုဘမပြည့် ဖြစ်နေတာထက် တန်ဖိုးထား ပါတယ်။ အကျင့်သီလနှင့် လောကုတ္တရာ တရား ပြည့်ဝမှုကို ဉာဏ်ပညာစွမ်းအား ထက် နှစ်သက် လိုလားပါတယ်။ ပြည်သူများ ဘဝက အနောက်မှာလောက် အဆင့် မများ မထွေပြားပါဘူး။ အနောက်တိုင်းက သူတို့လိုတန်းတူ လူတွေနှင့် ယှဉ်လိုက်ရင် သူတို့ လိုအပ်ချက်တွေက နည်းပါးတယ်။ ပြီးတော့ သူတို့ လိုတာတွေ ရရန်လည်း အပြင်းအထန် ကြိုးစားအားထုတ်စရာ မလိုကြပါဘူး။ သည်လိုလူတွေကို မြို့ကြီး များမှ ဝေးရာ ကျေးလက်ဒေသများမှာ တွေ့ပါမယ်။ မြို့ကြီးများကတော့ အနောက် တိုင်း ယဉ်ကျေးမှု ရိုက်ခတ်ချက်နှင့် စီးပွားရေး လိုအပ်ချက်တွေကြောင့် ကိုယ်ပိုင် ယဉ်ကျေးမှု လက္ခဏာများ ပြောင်းလဲနေပါတယ်။ မသန့်တော့ပါဘူး။

ဒါ မြန်မာ ဗုဒ္ဓဘာသာကို ယေဘုယျ ပုံဖော်ပြချက်ပါပဲ။ သို့သော်လည်း ကမ္ဘာ စစ်ရယ် စစ်ရဲ့ နောက်ဆက်တွဲတွေအပြင် ၁၉၄၅ ခု စစ်ပြီး ပေါ်တဲ့ အကြောင်း တရားသစ်တွေက သူတို့ရဲ့ ဘဝ နယ်ပယ်မျိုးစုံထဲကို ဝင်ရောက် ရိုက်ခတ်ခဲ့ပါပြီ။ အကျိုးဆက် အနေနှင့် သူတို့ထားတဲ့ စံချိန်စံညွှန်းတွေ၊ တန်ဖိုးတွေအပြင် သူတို့ရဲ့ အကျင့်သီလကိုတောင် လိုက်ပါ ပြောင်းလဲအောင် လုပ်ပေးခဲ့ပါပြီ။ သို့သော် လည်း သူတို့ရဲ့ မူလ ယုံကြည်သက်ဝင်မှုတွေနဲ့ လုပ်ကိုင်ပြုမူပုံများကတော့ လုံးဝ မပြောင်းလဲသေးသလောက် ရှိနေဆဲပါ။

ယခု ပြောပြခဲ့သည့် နောက်ခံပေါ် မူတည်ပြီး ကျွန်တော့် မိသားစု အကြောင်း ကို တင်ပြပါမယ်။ အချို့သော မှတ်ချက်တွေ ဝေဖန်ချက်တွေက ကျွန်တော့်ရဲ့ ကိုယ်တွေ့မှုဖြစ်ပြီး အချို့ကတော့ ကျွန်တော့်ရဲ့ တွေ့မြင် မှတ်သားချက်များမှ ဖြစ်ပါ တယ်။ နောက်ဆုံး ပေါ်လာမည့် ရုပ်ပုံကားချပ်ကတော့ သောင်းပြောင်းဖြစ်ပြီး မြန်မာပြည်တစ်ဝန်း ဘယ်နေရာမှာမဆို တွေ့နိုင်တဲ့ ရုပ်ပုံပဲ ဖြစ်ပါတယ်။

'မိသားစု' ဆိုရာမှာ တစ်အိမ်တည်းရှိ မိဘ သားသမီးများ၊ အစေခံများ စသည် အတူနေကြသူ အားလုံး ပါဝင်ပါတယ်။ ကျွန်တော် ပြောပြမည့် မိသားစု ကလည်း သည်အမျိုးအစားဖြစ်ပြီး နည်းနည်းတော့ ထူးပါမယ်။ မြန်မာပြည်က

မြို့နေ ငွေကြေးတတ် နိုင်သူများအတွက် အစေခံအစား ယခုခေတ်အခေါ် 'အိမ်ဖော်' များ အိမ်မှာရှိပါတယ်။ အိမ်ဖော်တွေက လက်တိုလက်တောင်း ခိုင်းဖို့ အတူခေါ်ထား တာ။ မိဘများရဲ့ ဆွေနီးမျိုးစပ် ဖြစ်ချင်ဖြစ်မယ် သို့မဟုတ် လူစိမ်း သူစိမ်းလည်း ဖြစ်နိုင်တယ်။

ခြုံပြောရလျှင် မိသားစုဝင်များက အထူးသဖြင့် ကျေးလက်ပိုင်းမှာ လိုသလို ပြုပြင်နိုင်တဲ့ ဖွဲ့စည်းတည်ဆောက်ပုံမျိုး ရှိတဲ့ နေအိမ်မျိုးမှာ နေထိုင်ကြတယ်။ ပုံသဏ္ဌာန်ကတော့ ခန်းမပုံ ဆင်ဆင်ဖြစ်ပြီး ပရိဘောဂအမယ် အနည်းနိုင်ဆုံး အရေ အတွက်သာ ပါဝင်မယ်။ သည်ထဲမှာပဲ ထိုင်ကြ၊ စားကြ၊ အိပ်ကြ များသောအားဖြင့် ကြမ်းပြင်ပေါ်မှာပါပဲ။ တချို့တော့လည်း မိဘများနှင့် အရွယ်ရောက် သမီးပျိုများ အတွက် အခန်းတစ်ခန်း နှစ်ခန်းကန့်ပြီး အိပ်ခန်းဖွဲ့မယ်။ တတ်နိုင်သူများက အိပ် စရာ ကုတင်ထည့်ထားမယ်။ အိမ်မနှင့် တွဲထားတဲ့ မီးဖိုခန်းလည်း ပါမယ်။ နေ့ခင်းမှာ အိမ်တံခါးတွေ ပြူတင်းပေါက်တွေ ဖွင့်ထားမယ်။ မိုးတွင်းတော့ ဖွင့်မထား ဘူးပေါ့။ အားလုံး ခြုံကြည့်တော့ ဒါက အတူနေ အတူစား ဘုံဘဝပဲ၊ ကိုယ်ပိုင် သီးခြား လွတ်လပ်စွာ နေထိုင်ခွင့်ရယ်လို့ နည်းနည်းမှ မရှိပါဘူး။

ရန်ကုန်၊ မန္တလေးနှင့် မော်လမြိုင်လို မြို့ကြီးများမှာတော့ ဥရောပပုံ လူနေအိမ်တွေ တစ်ထပ်တိုက်အိမ်တွေ အများကြီး ရှိပါတယ်။ ရွာထဲက သစ်သား အိမ်ပဲဖြစ်ဖြစ် ဝါးအိမ်ပဲ ဖြစ်ဖြစ် သို့မဟုတ် မြို့ကြီးက တစ်ထပ်အုတ်တိုက်ပဲ ဖြစ်ဖြစ် များသောအားဖြင့် မိသားစု တစ်စုလုံးဟာ သဟဇာတဖြစ်ပြီး အတူနေထိုင်လျက် ရှိတာပဲ အတွေ့များပါတယ်။

မြန်မာတွေအတွက် မလုပ်ရလို့ တားမြစ်တာတွေ များတယ်၊ နေရတဲ့ ပတ်ဝန်းကျင် အဝန်းအဝိုင်းကလည်း တင်းကြပ်တယ်။ ဒီတော့ မိသားစုထဲမှာ စိတ် ဖောက် ပြန်သူတွေ ပေါလိမ့်မယ်လို့ အနောက်တိုင်းသား အတော်များများက ထင်မြင်ဖွယ် ရှိပါတယ်။ ဒါတော့ ဖြစ်ချင်လည်း ဖြစ်ပါလိမ့်မယ်။ သို့သော် သည်လို ဖောက်ပြန် သည့် လက္ခဏာမျိုးတွေ ပေါ်ပေါက်ခဲပါတယ်။

မြန်မာတွေက အေးအေးဆေးဆေး နေကြတာ များပါတယ်။ ဒါ သူတို့ အကျင့်ပဲ။ မှန်ပါတယ်။ တချို့တော့ ကိုယ့်သဘောနှင့် ကိုယ်ထင်သလို စိုင်းချင်စိတ် ရှိသူများလည်း ရှိပါတယ်။ သူတို့ကတော့ သည်လို နေထိုင်ရတာ စိတ်တိုင်းမကျဘူး၊ သည်းမခံနိုင်ဘူး ဆိုပြီး ကိုယ်ပိုင် အိုးအိမ်ခွဲကောင်း ခွဲပါလိမ့်မယ်၊ သို့သော်လည်း အားလုံး ခြုံလျှင်တော့ အထက်မှာ ပြောသည့်အတိုင်း တစ်လုံး တစည်းတည်း အစေးကပ်နေသည့် မိသားစု ပုံသဏ္ဌာန်က တစ်နိုင်ငံလုံး ပျံ့နေပါတယ်။ အထောက် အထားနှစ်ခု ပြစရာ ရှိပါတယ်။

ကျွန်တော့် မိသားစုက ဒုတိယကမ္ဘာစစ် ပြီးသည်အထိ အိမ်ခြေ ၃၀၀ ခန့် ရှိတဲ့ ရွာလေးတစ်ရွာမှာ နေပါတယ်။ သူပုန်ကြောင့်ရော စီးပွားရေး အခက်အခဲကြောင့်ပါ ကျွန်တော့် မိသားစု ရွာမှ မိုင် ၄၀ ခန့် ဝေးတဲ့ မော်လမြိုင်မြို့ကို ပြောင်းရွှေ့ခဲ့ရပါတယ်။ မိသားစုဝင်က အမြဲတမ်း ဆယ့်နှစ်ယောက်အောက် လျော့သည်မရှိ၊ သည်မိသားစု အကြီးအကဲအဖြစ် ကျွန်တော့်အဘွားက ကွပ်ကဲပါတယ်။ အိမ်ထောင်စုကြီးက လုံးဝ အသစ်ဖြစ်တဲ့ မြို့ပတ်ဝန်းကျင်ကို ပြောင်းလာခဲ့ရသည့်တိုင် ရှေးက အတိုင်းပဲ ဆက်လက် နေထိုင်ကြတယ်။ အပြောင်းအလဲ တစ်ခုကတော့ အဘွား ကွယ်လွန်သွားတဲ့အခါ သူ့သမီး ကျွန်တော့်အဒေါ်က အဘွားနေရာကို ယူလိုက်တယ်။ သည်မိသားစုမှာ လက်ရှိဦးရေက ခုနှစ်ယောက်၊ ဆယ့်နှစ်ယောက် မဟုတ်တော့ဘူး။ အားလုံး ချစ်ခင် ညီညွတ်ကြတယ်။

ရန်ကုန်မှာ ကျွန်တော့် မိတ်ဆွေတစ်ယောက် ရှိပါတယ်။ နှစ်များ မကြာမီအထိ သူရယ် ဇနီးရယ် သားရယ် သမီး သုံးယောက်ဟာ တစ်မိုးအောက်မှာ သူ့အမေ၊ သူ့နှမ (အစ်မ)*အဲသည်နှမ (အစ်မ) ရဲ့ ခင်ပွန်းအပြင် သူတို့ မိသားစု၊ သည့်ပြင် အပျိုကြီးနောက် နှမ (အစ်မ) တစ်ယောက်၊ နောက်အိမ်ဖော် နှစ်ယောက် အားလုံး ဆယ့်နှစ်ယောက်လောက် အတူနေကြတယ်။ သူတို့ နေအိမ်ကတော့ အတော်ကြီးမားပါတယ်။ ကျွန်တော့် မိတ်ဆွေ ကြည့်ရတာ ပျော်ပျော်ရွှင်ရွှင်ပဲ၊ ဘာမျှ မကျေမနပ် ပြောတာမရှိဘူး။ သူ့အမေကလည်း တစ်ခါတစ်ရံ ကျွန်တော့်ထံ စာရေးပြီး လူကြီးဘဝမှာ မိသားစုနဲ့ နေထိုင်ရတာ သူ ချမ်းမြေ့ပုံ ပြောပါတယ်။ သူ (အဘွားကြီး) က အသက် ၆၀ တောင် မရှိသေးဘူး။ သူက မိသားစုမှာ အထူးသဖြင့် မြေးများနှင့် ပျော်မွေ့တယ်။ အဲဒီအချိန်က ကျွန်တော်က အင်္ဂလန်မှာပါ။ ဆန့်ကျင်ဖက်ယှဉ်ပြရလျှင် ကျွန်တော်နဲ့ ကပ်လျက် အိမ်နီးချင်း အသက် ၇၀ ရွယ် မုဆိုးမကြီး တစ်ကိုယ်တည်း နေတယ်။ သူ့မှာ အိမ်ထောင်သည် သားတစ်ယောက်ရှိတယ်။ သား မိသားစုက မိုင် ၆၀ ခန့် ဝေးသည့် နေရာမှာ ကိုယ်ပိုင်အိမ်ရှိတယ်။ တစ်နေ့တော့ ကျွန်တော် စပ်စပ်စုစု သိချင်လို့ အဘွားကြီးကို မေးတယ်၊ ခင်ဗျား ဘာလို့ သားနဲ့ သူ့မိသားစုကို အိမ်မှာ အတူခေါ်မထားသလဲပေါ့။ သူ့ဖြေပုံက တိုတိုနှင့် ယဉ်ပါတယ်။ “ငါ့ဘဝထဲ သူတို့ ဝင်ရှုပ်မှာ မကြိုက်ဘူး” တဲ့။

မြန်မာ မိသားစုဝင် တစ်ဦးချင်းကို စုစုစည်းစည်းဖြစ်အောင် စီမံအားပေးတဲ့ အကြောင်းတရားတွေ ရှိပါတယ်။ အခြေခံ အကြောင်းသုံးရပ်က ရိုးရာ အစဉ်အလာ၊ အသိုင်းအဝန်းနှင့် ဗုဒ္ဓဘာသာ ဖြစ်ပါတယ်။

မြန်မာဗုဒ္ဓဘာသာများက ရှေးရိုးဆန်ပါတယ်။ မျိုးဆက် အစဉ်အဆက်

---

* sister သည် မြန်မာလို နှမ (ငယ်သူ) သို့မဟုတ် အစ်မ (ကြီးသူ) နှစ်မျိုး ဖြစ်နိုင်ပါသည်။

လက်ကမ်းလာခဲ့တဲ့ ရိုးရာအစဉ်အလာတွေကို စွဲစွဲမြဲမြဲ ဆုပ်ကိုင်ထားကြတယ်။ 'ကျုပ် မိဘများအတွက် ကောင်းတာတွေအားလုံး ကျုပ်အတွက်လည်း ကောင်းမှာပဲ' ဆိုတဲ့ ခံယူချက်ကို မွေးတယ်။ လွန်ခဲ့သော နှစ်အနည်းငယ်က ကျွန်တော့်အစ်မ ဝမ်းကွဲ တစ်ယောက် သူ့ကလေးကို ဆုံးမနေတာမြင်တော့ ကျွန်တော်က ဝင်ပြောတယ် 'နင် ကလေးကို ရိုက်နှက်နေတာက သူ့ခေါင်းထဲ မကောင်းဆိုးဝါး ဝင်အောင်လုပ်နေတာ' သူ ပြန်ပြောပုံက ကျွန်တော် ထင်တဲ့အတိုင်း 'နင်တို့ နိုင်ငံခြားက ပေါက်ကရတွေ ဒီ လာပြောမနေနဲ့။ တို့က ဘိုးဘေးအစဉ်အလာအတိုင်း ကလေးကို ဆုံးမနေတာ။ နင်က မနေ့တစ်နေ့ကမှ မွေးတာဟဲ့၊ ကလေးကို ရိုက်မဆုံးမရင် ပျက်စီးလိမ့်မယ်'။ ရိုးရာအစဉ်အလာက ဘဝလမ်းကြောင်းအတွက် လမ်းညွှန်သဖွယ် လုပ်ပေးပါတယ်။ စည်းကမ်းရှိအောင်၊ ရိုသေတတ်အောင်၊ မိမိကိုယ်ကို နှိမ့်ချတတ်အောင်လည်း အားပေးပါတယ်။

မြန်မာပြည်မှာ လူ့အသိုင်းအဝန်းက လက်ဆုပ်လက်ကိုင် မပြနိုင်တဲ့ အင်အား တစ်ရပ်ပါပဲ။ လူတိုင်းက အသိုင်းအဝန်းရဲ့ အမြင်နှင့် အဆုံးအဖြတ်ကို လက်ခံ လိုက်နာကြပါတယ်။ လူမှုရေးနှင့် ကျင့်ဝတ်ဆိုင်ရာ ကိစ္စများမှာ အသိုင်းအဝန်းက ကြားဝင် ဖျန်ဖြေပေးပါတယ်။ သူတို့ ကြီးပြင်းလာရတဲ့ သဘောသဘာဝကြောင့် အသိုင်းအဝန်းကို မထီမဲ့မြင် မလုပ်ဝံ့သူတွေ များပါတယ်။ အနောက် နိုင်ငံများမှာ မကြာ မကြာ ကြားရတာက 'ကိုယ့်ကိစ္စ ကိုယ်လုပ်-မဆိုင်ရင် ဝင်မရှုပ် နဲ့"။ မြန်မာ များကတော့ အများနဲ့ ပတ်သက်လာရင် လုပ်မှား ကိုင်မှား ပြောမှားဆိုမှား မဖြစ်ဖို့ သတိထားကြရပါတယ်။ ပတ်ဝန်းကျင် အသိုင်းအဝန်းက (ဘစ်ဘရားသား) နောင် တော်ကြီးပုံ ဖမ်းတတ်တယ်။ သားသမီးများ မလိမ်မိုး မလိမ်မာနဲ့ လူကြီး သူကြီးကို မရိုသေ ကလန်ကဆန် လုပ်လာခဲ့ရင် မိဘကိုပဲ အပြစ်ဆိုမယ် (သားသမီး မကောင်း မိဘခေါင်း ဆိုရိုးရှိတယ်။) အိမ်ထောင် အငယ်အနှောင်းထားတဲ့ ယောကျ်ားမျိုး ဆိုလျှင် အလွန် နှာခေါင်းရှုံ့ကြတယ်၊ မိန်းမ (လင်ငယ်နေ) တာဆို ပိုဆိုးပေါ့။

အထိန်းအကွပ်ပေးတဲ့ အကြောင်းသုံးရပ်မှာ တတိယမြောက်က ကိုးကွယ် သည့်ဘာသာ။ ဗုဒ္ဓဘာသာအကြောင်း အတော် ပြောခဲ့ပြီးပါပြီ၊ ထပ်ဖြည့်စရာ သိပ်မရှိပါဘူး၊ တစ်ခုပဲ ပြောရန် ရှိပါတယ်။ လောကီကိစ္စများအတွက် လက်ခံထားတဲ့ တရားတစ်ချို့ ရှိပါတယ်။ ဆွေမျိုးသားချင်းများကို ထောက်ပံ့ရမယ်၊ သက်ကြီးရွယ်အို ကို ဒုက္ခမှ ကင်းဝေးအောင် ကူညီထောက်ပံ့ပါ၊ ကိုယ်ချင်းစာတရား ထားပါ၊ မိမိကိုယ် ကို နှိမ့်ချပြီး ဝါကြီးသူကို ရိုသေပါ၊ ဂုဏ်ကြီးသူ ပညာကြီးသူကို လေးစားပါ။ ဒါတွေ အားလုံးဟာ တကယ်တော့ မိသားစုဖွဲ့စည်းရာမှာ ချိတ်ဆက်ပေးတဲ့ မူလီနဲ့ နတ်ခေါင်း တွေပါပဲ။

# 3. Nature : the Myanmar Buddhist

I'll now launch myself on the main theme of my lecture, the Myanmar Buddhist. He is a Myanmar who takes refuge (has faith ) in the Three Gems; an individual of dual personality who believes also in other -isms; and member of a family that is closely knit by respect, thoughtfulness and by the concept that the law of karma has allowed him to attain its membership by birth, marriage or by adoption.

It is a human document which centres round the salient features in my life, my own observations viewed both retrospectively and introspectively. I shall lift the veil from the tableaux of the life of the Myanmar Buddhist to let you see the whole spectrum of them in three stages: youth, manhood and old age ending in death. In this process I shall follow the advice of an old English author and poet given to his fellow authors: 'Let him relate the events of his own life with honesty, not disguising the feelings that accompany them'.

I come from Myanmar, a country in which, in spite of the then economic stringency, could afford to spend liberally huge sums of money to hold the Sixth Buddhist Council to collect, collate and edit the Buddhist Scriptures from 1954 to 1956, in commemoration of the 2500th anniversary of the death of the Buddha in 544 B.C; a country whose government demanded and got independence at the auspicious time and date, furnished by the astrologers, of 4:20 am on the 4th of Jaunary, 1948; and a country dotted with temples of deities either standing side by side with the numerous Buddhist shrines or standing by themselve in cities, villages or in remote areas.

## 3.1 Youth

### 3.1.1 Birth

I was born in a small village situated on a tributary of the river Thanlwin. Ours was for a time a well-to-do Buddhist family. We were

farmers. Soon after I came into the world, I am told, the village mid-wife cut off my navel or umblical cord, and had it buried in a place safe enough to be despoilt by animals such as cats and dogs. This traditional practice, known as *chet hmyok*, meaning literally 'navel-buried' must have been being universally observed by the Myanmar people. For, this phrase has acquired the meaning of one's native place - a village, a town or even a country of one's birth.

### 3.1.1.1 Naming ceremony

Some months after my birth my grandmother, who was a Mon, made preparations for the name giving ceremony, which is called *kin-bùn tat-pwè*, 'the accacia soap affix ceremony', an elliptical term for 'the ceremony of pouring a decoction of the soap accacia fruits over the baby's head and giving a name to it'. In short, it is name giving ceremony. This is an echo of the Hindu custom of *nāma karma*, name giving; but the ceremonials carried out are quite different. I am certain that the Myanmar have appropriated this custom from the Mons with whom they have lived in close affinity, and with whom they have had strong cultural ties since the dawn of history.

The Mon nomenclature for it is *caw kapo* 'pouring soap acacia fruits', that is a decoction of these fruits (over the baby's head). Under the heading 'Birth feast', R.Halliday says:

> 'For each child born there is what may be called a birth festival. It should take place soon after birth, but is usually postponed till a more covenient season or till the slack time of the year. March and April are the months when it mostly takes place. It is known as *caw kapo*, which means pouring a decoction of soap accacia. A potful of that is prepared and also a potful of the tumeric water. The baby is bathed by the midwife first, and afterwards by the guests by pouring the water over it. A *dah* or cleaver with its point in the earth is held by the father beneath to convey the spent water to the earth. The hands of the midwife are also washed. All who were present at the birth or call to make enquiries must be invited to this ceremony. There is ususally a mild feasting, and music is often played ....'

R. C. Stevenson, in revising Judson's Myanmar-English Dictionary in 1893, says under the head word *kin-bù-tat* 'to hold a festival on the birth of a child, during which the body of the child and the hands of the guests are washed in a decoction' To this the following explanation is

the cradle to the grave. It needs, however, rounding off by tying up the loose ends, represented by some of the funeral rites. These are non-Buddhist practices, which have been observed so long that they have become customs nowadays. They lie outside my professional domain, but I will try to explain them as much as I can with the help of the knowledge I have gained from Myanmar sources. These sources, you must be warned, are not well documented.

**(1) Washing the body**

There is no ritualistic significance in it. The body is cleaned beause it has not been washed since the dead person had been taken ill.

**(2) Tying thumbs and big toes**

This too is not a ritual either. The function of the string is to keep in position the limbs of the body which is subject to various chemical reactions.

**(3) Placing coils of cotton strings on the corpse**

I have no explanation for it. There is a similar custom which is placing a piece of the cotton-tree wood, or a short stem of the banana plant in the coffin of an old maid. The explanation for that is to provide the old spinster with a husband in her next life as a woman. I do not know why two particular items are chosen.

**(4) The ferry fare**

The practice of inserting a coin between teeth is not uncommon among many ethnic tribes. Burmese scholars maintain that it is a relic of an ancient Indian custom. When a person died in those days the relatives thrust the stem of a red Hibiscus into its ear-hole, tied silver pieces to the hem of his dress, caused him to be possessed by a spirit and sent it off to the cemetry. There the grave diggers stopped the walking corpse, took the money and buried it. The red Hibiscus with its dangling stamen, anther and pollen is known to the Burmese people as the ghost flower, unlucky to grow in the garden, or to bring it into the house or to adorn it on one's head. However, I prefer the Charon's toll to that given in the story.

**(5) Pouring water in the trail of the coffin**

The origin of this custom as given in a Burmese book sounds most implausible. I shall however repeat it for what it is worth, and suggest my own plausible conclusion to it.

Once a king would not bury the dead body of his most beloved

queen. He kept it in the palace. His preceptor, a hermit, heard of it, and came to see him. By virtue of his supernatural power, the hemit summoned the late queen, who was by now reborn as a female beetle. When asked in the presence of the king, she replied that she was happily married, and that she would not change her husband for any one on earth. On hearing it, the incensed king kicked the body out of the palace, smashed the bier and had the floor on which it had stood washed down with water.

This is an act of spite which no loving relative would commit against the dead nowadays. I suggested that its origin could be traced to some one, who did lose a relative he hated, and did have the floor, on which his body had lain, washed down with water. And the people, who witnessed such an act, followed it blindly without knowing the reason for it!

**(6) Throwing lumps of earth or stones into the grave**

There is also a story purported to explain the origin of this practice, but it is so implausible that it is not worth your while to repeat it. I shall however repeat what a few Myanmar elders have told me about the reason for performing this ritual. It is a kind of 'forgive and forget' gesture. As one throws lumps of earth into the grave, they assert, one should say: 'If there ever exists a state of hostility between you and me, may it end here and now.' The lumps of earth represent, I believe, a token of peace offering.

## 3.5 Epilogue

And now, as a token of my appreciation of your attending some or all of my eight lectures I shall bring my long discourse to a close. You have seen the tableau of the life of the Myanmar Buddhist from birth to death through the spectrum presented by a man who stands astride two generations. You might deduce from it that the tableau of one generation is a replica of the previous generation. This is far from the truth. Every thing is subject to changes. Nevertheless, the Myanmar Buddhist's fundamental beliefs and practices remain almost unchanged.

The family is still well knit as the community is well welded; Buddhism still flourishes, so too the people's practice in piety by fulfilling the three primary duties of Dāna, Sila and Bhāvanā; their strong faith in re-incarnation, karma and Nirvana still continues unabated as with their beliefs and practices in astrology, in deities, in magic and in omens; and ceremonies of every persuasion are still being held. So, you can still meet the Myanmar Buddhist as portrayed in my lecture all over the Myanmar of today.

I am deeply grateful to L' Assemblèe des Professeurs du College de France for inviting me to deliver this series of eight lectures in Paris. Their kind invitation has enabled me to meet my old friends again and to make new ones. I trust that the time you have spent attending my lectures are worth your while.

Au revoir
(Hla Pe)
(15th March 1984)

**Notes:** The transliteration of words given follows the system devised by Chas. Duroiselle (see **Epigraphia Birmanica** I, i, pp.6-12, Yangon, 1916). Certain modifications have been introduced to make the system more consistent and to meet modern requirements. The 'big ñ' is written 'ñ ñ'; the level tone for the vowel 'o' series shown as 'ô'; and tone marks are indicated as in Myanmar script. The transcription of the Myanmar words follows the system recommended by J.W. Okell: see **A Guide to the Romanization of Myanmar, Luzac, London, 1971.**

# ၃။ သဘာဝလောကနှင့် မြန်မာဗုဒ္ဓဘာသာ

ဟောပြောမည့် အဓိက အကြောင်းအရာကို ကျွန်တော် စတင်ပါတော့မယ်။ မြန်မာဗုဒ္ဓဘာသာတစ်ဦး- သူဟာ မြန်မာလူမျိုး၊ ရတနာသုံးပါး ဆည်းကပ်ကိုးကွယ်သူ ဖြစ်တယ်။ ပုဂ္ဂိုလ်တစ်ဦးတည်းမှာ လူနှစ်မျိုး စရိုက်လက္ခဏာ ရှိနေပြီး အခြား ကိုးကွယ်ရာများကိုလည်း ယုံကြည်သက်ဝင်တယ်။ ပြီးတော့ သူဟာ မိသားစုဝင် တစ်ယောက်-ရိုသေလေးစားတတ်သောအကျင့်၊ ကြင်နာထောက်ထားသော စိတ် အပြင် ကံ (ကမ္မ) တရားအလျောက် သူသည် မိသားစုဝင် ဖြစ်လာရသည်ဆိုသော အသိတရား တို့က သူ့မိသားစုဝင်များကို ရင်းရင်းနှီးနှီး စည်းလုံးထွေးပိုက်ထားတယ်။ မိသားစုဝင် ဖြစ်တာက မွေးရာပါ သို့မဟုတ် လက်ထပ် ထိမ်းမြားခြင်းကြောင့် သို့မဟုတ် မွေးစားခြင်းကြောင့် ဖြစ်နိုင်တယ်။

အခုပြောမှာက လူ့ဘဝ မှတ်တမ်းပါပဲ။ ကျွန်တော့် ဘဝတစ်လျှောက် အရေးကြီးတဲ့ ဖြစ်ရပ်များကို မထွေ့ကြိုင်ပြပါမယ်၊ ကျွန်တော် ကိုယ်တိုင် တွေ့ရှိ သုံးသပ် ချက်တွေကို နောက်ကြောင်းပြန်တာရော၊ ကိုယ့်အတွေးအမြင်နှင့် ခံစားချက်တွေကို ပြန်လည် သုံးသပ်တာရော ပါဝင်ပါမယ်။ မြန်မာဗုဒ္ဓဘာသာရဲ့ ဘဝကို ကန့်လန့် ကာ ဖွင့်ပြီး အကြောင်းစုံ မြင်အောင် ပြရာမှာ လူငယ်ဘဝ၊ လူလတ်ပိုင်းနှင့် သက်ကြီး ရွယ်အိုဘဝမှ သေသည်ထိ သုံးကဏ္ဍ ခွဲပြပါမယ်။ ဒီလို တင်ပြရာမှာ အင်္ဂလိပ် စာရေးဆရာ ကဗျာဆရာအိုကြီးတစ်ယောက်က သူ့ရေးဖော်များကို ပေးတဲ့ ဩဝါဒ အတိုင်း ကျွန်တော် လိုက်နာပါမယ်။ 'သူ့ဘဝဇာတ်ကြောင်းကို ရိုးသားမှန်ကန်စွာ ပြောပါစေ၊ အဲဒီကပေါ်လာတဲ့ ခံစားချက်တွေကိုတော့ တစ်မျိုး ပြင်ဆင်တာမျိုး မလုပ်ပါစေနှင့်' လို့ မှာကြားပါတယ်။

ကျွန်တော် မြန်မာပြည်ကပါ။ သည်နိုင်ငံက ၁၉၅၄ မှ ၁၉၅၆ အတွင်းမှာ ဗုဒ္ဓသာသနာ နှစ် ၂၅၀၀ ပြည့် အမှတ်တရအဖြစ် ဆဋ္ဌသင်္ဂါယနာပွဲသဘင် ကျင်းပ ပြီး ဗုဒ္ဓတရားဒေသနာတော်များကို စုပေါင်းရွတ်ဆို ညှိနှိုင်း တည်းဖြတ်ကြပါတယ်။

ဗုဒ္ဓဘုရားရှင် ဘီစီ ၅၄၄ မှာ ပရိနိဗ္ဗာန် ပြုတော်မူခဲ့တယ်။ အဲဒီ ဆဋ္ဌသင်္ဂါယနာ ပွဲအခါက စီးပွားရေးကို အစိုးရက တင်းတင်းကြပ်ကြပ် ထိန်းချုပ်ထားရသော်လည်း သင်္ဂါယနာသဘင်အတွက် ငွေကြေးအမြောက်အမြား ရက်ရက်ရောရော သုံးစွဲနိုင်တဲ့ နိုင်ငံပါ။ နိုင်ငံတော်အစိုးရက လွတ်လပ်ရေးတောင်းဆိုပြီး ရရှိတော့လည်း မင်္ဂလာ ရှိသော နေ့ရက် အချိန်အခါအဖြစ် ၁၉၄၈ ခု ဇန်နဝါရီ ၄ ရက်နေ့ နံနက် ၄ နာရီ ၂၀ မိနစ်ကို ဗေဒင်ပညာရှိများ တွက်ချက်ပေးသည့်အတိုင်း လွတ်လပ်ရေး ရယူခဲ့တဲ့ နိုင်ငံပါ။ ပြီးတော့ နတ်ကွန်း နတ်နန်းတွေကလည်း မြို့ ရွာ ကျေးလက်အနှံ့ ဗုဒ္ဓဘာသာ အဆောက်အအုံပေါင်းများစွာနှင့် ဘေးချင်းယှဉ်လျက်ဖြစ်စေ သူတို့ချည်း ထီးထီးဖြစ်စေ တွေ့မြင်ရတဲ့ နိုင်ငံဖြစ်ပါတယ်။

# ၃၊ ၁ လူငယ်ဘဝ

## ၃၊ ၁၊ ၁ မွေးဖွားခြင်း

ကျွန်တော့်ကို သံလွင်မြစ်ရဲ့ မြစ်လက်တက်တစ်ခုပေါ်က ရွာကလေးမှာ မွေးဖွားပါတယ်။ ကျွန်တော့် မိသားစုက တစ်ချိန်တစ်ခါကတော့ အသင့်အတင့် ချမ်းသာ ကြွယ်ဝသော မိသားစုပါ။ လယ်သမား မိသားစုပါပဲ။ ကျွန်တော့်ကို ပြောပြကြလို့ သိရတာက ကျွန်တော့်ကို မွေးပြီးတော့ ရွာမှ လက်သည်က ချက်ကြိုးကို ဖြတ်ပြီး ခွေး ကြောင် တိရစ္ဆာန်အန္တရာယ်ကင်းတဲ့ တစ်နေရာမှာ မြေမြှုပ်ပါတယ်။ ရိုးရာ အစဉ်အလာ တစ်ရပ်ပါ။ 'ချက်မြှုပ်' တယ်လို့ ခေါ်ပါတယ်။ နိုင်ငံတစ်ဝန်း မြန်မာ မှန်သမျှ လိုက်နာသည့် ရိုးရာပါ။ ဒီ ချက်မြှုပ်ဆိုတဲ့ အသုံးအနှုန်းက မွေးရာဇာတိ ရပ်ရွာ၊ မြို့ သို့မဟုတ် နိုင်ငံကို ညွှန်းတဲ့ အဓိပ္ပာယ် ဆောင်လာပါတယ်။

### ၃၊ ၁၊ ၁၊ ၁ ကင်ပွန်းတပ်မင်္ဂလာ

ကျွန်တော် လသားအရွယ်မှာ မွန်လူမျိုးဖြစ်တဲ့ အဘွားက ကျွန်တော့်ကို အမည်ပေး ကင်ပွန်းတပ်ပွဲ လုပ်ပေးဖို့ စီစဉ်ပါတယ်။ ကင်ပွန်းတပ် ဆိုတာက ကင်ပွန်း ရည် (ဆပ်ပြာ) နှင့် ဦးခေါင်းကို ဆေးကြောပွတ်တိုက်ပြီး အမည်နာမပေးတာပါ။ တိုတိုတော့ နာမည် ပေးပွဲပါ။ ဒါက ဟိန္ဒူရိုးရာမှာ ရှိတဲ့ "နာမကာမ" နှင့် နွယ်နေပါ တယ်။ သို့သော်လည်း အခမ်းအနား စီစဉ်ပုံတွေကတော့ အတော် ကွာခြားပါတယ်။ ဒီ ရိုးရာပွဲကို မြန်မာတွေက မွန်တို့ထံမှ ရရှိပြီး လိုက်လုပ်တယ်လို့ ကျွန်တော်

အသေအချာ ရှင်းပြလိုပါတယ်။ သမိုင်းဦးကာလမှ စပြီး မွန်နှင့် မြန်မာတို့ နီးကပ် ရင်းနှီးပြီး ယဉ်ကျေးမှုချင်း ဆက်နွယ်နေတာကြောင့် ဒီလို ပြောတာပါ။

ဒီပွဲအတွက် မွန်အသုံးအနှုန်းက 'ကော့ကပို' 'ကင်ပွန်းသီးရည်ကလေး ခေါင်း ပေါ်လောင်းသည်' အဓိပ္ပာယ်ပါပဲ။ 'ဖွားမြင်ပွဲ' ခေါင်းစဉ် အောက်မှာ အာဟာလီဒေး ရေးထားတာက-

"မွေးလာတဲ့ ကလေးတစ်ယောက်စီအတွက် 'ဖွားမြင်ပွဲ' ဟု ခေါ်နိုင် မည့်ပွဲ လုပ်ပေးရသည်။ မွေးပြီး မကြာမီ ကျင်းပရမည့်ပွဲ ဖြစ်သည်။ သို့သော် အလုပ်ပါးသော ရာသီ သို့မဟုတ် အဆင်သင့်မည့် ကာလအထိ စောင့်ပြီးမှ လည်း ကျင်းပပါသည်။ မတ်လနှင့် ဧပြီလတွင် ဤပွဲ ကျင်းပလေ့ များ၏။ ပွဲကို 'ကော့ကပို' ဟု ခေါ်ပါသည်။ အဓိပ္ပာယ်မှာ ကင်ပွန်းသီး (ဆပ်ပြာ) ရည်နှင့် လောင်းသည်ဟု ရ၏။ ကင်ပွန်းသီးရည်တစ်အိုး ပြုတ်ထားပြီး နနွင်း ရည်လည်း တစ်အိုး စီမံထားရသည်။ ပထမ သားဖွား လက်သည်က ကလေး ကို ရေချိုးပေးသည်၊ နောက် ဧည့်သည်များက ကလေးကို ကင်ပွန်းရည် လောင်းပေးကြသည်။ ဓား သို့မဟုတ် သားလှီးဒါးကို မြေမှာ စိုက်ပြီး ဖခင်က ကိုင်ထားရ၏။ ချိုးရေ လျှော်ရေ မြေထဲသို့ စီးဝင်စေရန် ဖြစ်၏။ လက်သည် ၏ လက်များကိုလည်း ဆေးကြော သန့်ရှင်းရ၏။ မီးဖွားစဉ်က ရှိနေသူ အားလုံးနှင့် မီးနေမေးလာသူ အားလုံးကို ဤပွဲသို့ဖိတ်မန္တက ပြုရ၏။ အကျွေး အမွေးကလည်း အသင့်အတင့် လုပ်လေ့ရှိသည်။ ဂီတလည်း တီးမှုတ်ကြ၏ . . . "

၁၈၉၃ ခုတွင် ဂျပ်ဆင်၏ မြန်မာ-အင်္ဂလိပ် အဘိဓာန်ကို ပြင်ဆင်ရာ၌ အာစီစတီဗင်ဆင်က 'ကင်ပွန်းတပ်' ဝေါဟာရကို 'ကလေးဖွားမြင်ပြီးနောက် ကလေး နှင့် အတူ ပွဲလာဧည့်များ၏ လက်ကိုပါ သန့်စင်ရည် တစ်မျိုးဖြင့် ဆေးကြောသည့်ပွဲ' ဟု ဖွင့်ဆိုပါ တယ်။ အဖွင့်ကို ဤသို့ ထပ်မံဖြည့်စွက် ရှင်းလင်းပါသေးတယ်။ 'ကလေး ဖွားမြင်ပြီး ခုနစ်ရက်မြောက်နေ့ မီးဖွားလက်သည်က နွယ်ပင်တစ်မျိုး ဖြစ်တဲ့ (ကင်ပွန်း) သီးကို ရေနှင့်ပြုတ်ပြီး တရော်ခုနစ်မျိုး ပြုတ်ရည်နှင့် ကလေးဦးခေါင်းကို သန့်စင်ပေးသည်။ ဦးခေါင်းသန့်စင်ပြီးလျှင် လက်သည်က ကလေးကို အနီးအဖြူနှင့် ပိုက်ပြီး မိခင်လက်သို့ အပ်နှံသည်။ ပြီးလျှင် လက်သည်နှင့် လာရောက်သည့် ဧည့် သည် အပေါင်းက ဆုတောင်းမေတ္တာ ပို့ကြသည်'။ တရော်အခေါက်နှင့် ကင်ပွန်းသီး မှာ ခေါင်းလျှော်ရည်တွင် မပါမဖြစ် အဓိက ဖြစ်ပါတယ်။ သည်နှစ်မျိုးမှာ အာနိသင်

ထူးတွေ ရှိတယ်လို့ ယုံကြည်ကြတယ်။ သည်လို အာနိသင်ရှိတဲ့ထဲမှာ 'သပြေ' ကိုလည်း ထည့်စရာ ရှိသေးတယ်။ သပြေကလည်း ကျွန်တော် ဆက်ပြောရာမှာ မကြာခဏ ပါဝင်လာပါမယ်။

ဒီမှာ သတိပြုစရာက ဟာလီဒေးရော စတီဗင်ဆင်ပါ နှစ်ယောက်လုံးက အမည်ပေးဆိုတဲ့ စကားရပ်ကို ဖော်ပြမထားတဲ့ အချက်ပါပဲ။ ကျွန်တော့်အထင်ကတော့ အမည်ပေးတဲ့ အပိုင်းက မူလပွဲမှာ နောက်တိုးဖြစ်လိမ့်မယ်။ ကျွန်တော် ငယ်ရွယ်စဉ်ကတည်းက ကင်ပွန်းတပ်ပွဲမှာ အထက်ဖော်ပြပါ လုပ်ရိုးတွေ အားလုံးပါဝင်ပြီး နာမည်ပေးပွဲ ဖြစ်တယ်လို့ ကျွန်တော် အသေအချာ သိထားပါတယ်။ ဒါဟာ မွန်ရော မြန်မာပါ နှစ်မျိုးလုံးအတွက် အတူတူပါပဲ။ ဟယ်လီဒေး အဆိုအတိုင်းပါပဲ။ ယခုခေတ်မှာတော့ ကလေး ခုနစ်ရက်သားအရမှာ ဒီပွဲလုပ်လေ့လုပ်ထ မရှိတော့ပါဘူး။

ကျွန်တော့်တုန်းကတော့ လသားအရွယ်မှာ အမည်ပေး ကင်ပွန်းတပ်လုပ်ပါ တယ်။ နေ့ကောင်းရက်သာ ရွေးပြီး လက်သည်က ကင်ပွန်းသီးတရော် ခေါင်းလျှော် ရည်နဲ့ ခေါင်းလျှော်ပေးပြီး ကျွန်တော့်ကို အမေ့လက် အပ်ပါတယ်။ ဒါကလည်း ကျွန်တော့် အထင်တော့ ဘုရင်များ ဘိသိက်မင်္ဂလာပွဲက အစဉ်အလာယူထား ပုံပါပဲ။ ပြီးတော့ ဗေဒင်ဆရာ (ဟူးရား) က ကျွန်တော့်ကို နာမည်ပေးပါတယ်။ ကျွန်တော့်ကို ဆရာတော်ကြီးသော်လည်းကောင်း ပုဂ္ဂိုလ်ကျော်အဖြစ်သော်လည်း ကောင်း ထွန်းတောက်လာမယ်လို့လည်း ဟောကိန်းထုတ်ပါတယ်။ အဲဒီနောက် လာရောက်သည့် ဧည့်ပရိသတ်က ကျွန်တော့်အတွက် ဆုမွန်ကောင်းတွေ တောင်းပြီး လက်ဖွဲ့ပစ္စည်းတွေလည်း ဝိုင်းပေးကြပါတယ်။ ဧည့်သည်တွေကိုလည်း အကျွေး အမွေးနှင့် ဧည့်ခံပါတယ်။ ကျွန်တော် သိတတ်တဲ့ အရွယ်ရောက်တော့ ကျွန်တော့် အဒေါ်က သည်အကြောင်းတွေ ပြောပြခဲ့ပါတယ်။

နာမည်ပေး ကင်ပွန်းတပ် မင်္ဂလာပွဲမှာ ဘာသာရေး လက္ခဏာ မပါပါဘူး။ ဒီပွဲက လောကီကိစ္စ သက်သက်မို့ ဘုန်းကြီးကျောင်း မှာလည်း ကျင်းပလေ့ မရှိပါဘူး။ ခရစ်ယာန်တို့ရဲ့ အမည်ပေး သာသနာအပ်ပွဲကို ဘုရားကျောင်းမှာ လုပ်လေ့ရှိတာနဲ့ မတူပါ။ တူတဲ့ အပိုင်းကတော့ မြန်မာမှာ ကလေးဦးခေါင်း တရော် ကင်ပွန်းရည် လောင်းဆေးတာနဲ့ ခရစ်ယာန်က ကလေးဦးခေါင်းပေါ် ရေဖျန်းတာ တူတယ်၊ ပြီးတော့ နာမည်ပေးတာ တူတယ်။ ယခုခေတ်မှာတော့ ဗုဒ္ဓဘာသာ မဟုတ်တဲ့ ထုံးတမ်း အစဉ်အလာတွေကို ဗုဒ္ဓဘာသာမှု ပြုပြီး လက်ခံချင်တဲ့ အလားအလာတွေ ရှိနေပါတယ်။ ဒီပွဲမျိုး အတော်များများမှာ ချမ်းသာတဲ့ မိဘများက ရဟန်းသံဃာများ

အိမ်ကို ပင့်ဖိတ်ပြီး လှူဒါန်းသမှု ပြုတတ်တယ်။ ထုံးစံအတိုင်း ဘုရား၊ တရား၊ သံဃာ ရတနာသုံးပါး ပူဇော်ကန်တော့၊ ငါးပါးသီလ ခံယူဆောက်တည်၊ ပြီးရင် ဆရာတော်က သင့်ရာ တရားဓမ္မ ဟောကြား ချီးမြှင့်ပါတယ်။ ဆရာတော်က စကြဝတေးမင်း၏ သားကြီးသည် သူပိုင် ရတနာခုနစ်ပါးအနက် တစ်ပါးဖြစ်သလို ကလေးဟာ မိမိတို့ရဲ့ ရတနာတစ်ပါး ဖြစ်ကြောင်း မိဘများကို ဟောမယ်။

နောက်ဆုံး သံဃာတော်များက ကလေးကို အမည်နှင့်တပ်ပြီး ဆုတောင်း မေတ္တာ ပို့ပြီးလျှင် အခမ်းအနား ပိတ်ပါတယ်။

မြန်မာအမည်များ စီစဉ်ပုံ ရွေးချယ်ပုံက အတော်ကလေး ရှုပ်ပါတယ်။ လိုက်နာကြတဲ့ ဥပဒေသများနှင့် လုပ်ပုံလုပ်နည်းကို ပါရီမှာ လွန်ခဲ့သော လေးနှစ်ခန့်က ကျွန်တော် ပြောခဲ့ပြီးပါပြီ။ လူကြီးမင်းများ ပြန်လည် သတိရစေဖို့ ဒီမှာတော့ အကြမ်းဖျင်းသာ ပြောပါတော့မယ်။

ကျွန်တော်က ဗုဒ္ဓဟူးသားဆိုတော့ ပေဒင်ဆရာက 'လှဘေ' အမည်ပေးပါတယ်။ မွေးနေ့နှင့် လိုက်ဖက်သည့် အမည်ပါ။ လူကြီးမင်းများ သိရှိရန်အတွက် ရက်သတ္တတစ်ပတ်မှာ တစ်နေ့စီအတွက် သတ်မှတ်ပေးထားတဲ့ မြန်မာ အက္ခရာတွေ ရှိပါတယ်။ ကျွန်တော့် နာမည်က 'လူချောလူလှကလေး' လို့ အဓိပ္ပာယ် ရပါတယ်။ ဒီအချက်ကို အခြေခံကောက်ချက်ဆွဲမယ်ဆိုရင် surname ဆိုတဲ့ မျိုးရိုး အမည်ရယ်လို့ ထည့်လေ့မရှိကြောင်း တွေ့ပါမယ်။ သို့သော်လည်း အနောက်တိုင်း ဆန်သူ အတော်များများက ဖခင် သို့မဟုတ် မိခင်ဘက်မှ နာမည် တစ်လုံးကို ယူပြီး အမည် ရှေ့ကဖြစ်စေ နောက်ကဖြစ်စေ ထည့်လေ့ရှိလာတယ်။ ကျွန်တော့်ရဲ့ ဖခင်က ဦးငွေ (Mr Silver) တဲ့၊ တနင်္လာသားပါ။ ကျွန်တော်ရဲ့ ညီနှစ်ယောက်လုံးက ကြာသပတေးသားတွေ၊ သူတို့နာမည်က မောင်ဘသွင် (အဖ၏ ပုံတူသူ) နှင့် မောင်မြင့်သိန်း (တစ်သိန်းသော သူတို့ထက် သာလွန်သောသူ) ပါတဲ့။ ပိုပြီး ရှုပ်ထွေးစရာ ဖြစ်တာက ကျွန်တော့် မိခင်က နာမည် မခင် (Miss Love) အမေ့ကို ဘယ်တော့မှ ဦးငွေကတော် (Mrs Silver) လို့ မခေါ်ကြပါဘူး။ [ အသေးစိတ် လေ့လာချက် သိလိုပါက ဂုစတပ်ဟောက်တမန်ရေး မြန်မာပုဂ္ဂိုလ်နာမည်များ (၁၉၈၂ ရန်ကုန် သာသနာရေးဌာနမှ ထုတ်ဝေသည်) ကို ဖတ်ရှုပါ။]

ခေတ္တမျှ အားလုံး ပြန်ကောက်ပါမယ်။ မြန်မာဗုဒ္ဓဘာသာ ဇနီးမယားက သူ့ အပျိုဘဝ နာမည်နဲ့ ဆက်နေတဲ့ ကိစ္စဟာ ယဉ်ကျေးမှု၊ စီးပွားရေးစနစ်၊ လူမှုရေးထုံးတမ်းနှင့် သက်မွေးလုပ်ငန်းသဘာဝ အစစ ကွဲပြားသည့် နိုင်ငံများမှာ တစ်လွဲထင်ပြီး ပြဿနာ ပေါ်နိုင်ပါတယ်။

ကျွန်တော့်ဇနီး ဒေါ်သန်းမြ (မြရတနာသန်းကြွယ်သူ အမျိုးသမီး) လွန်ခဲ့သော နှစ်အတော်ကြာက ဗြိတိန်နိုင်ငံ ရောက်လာတော့ ကျွန်တော်တို့ ဘဏ်မှာ ပူးတွဲငွေစာရင်း ဖွင့်ပါတယ်။ ဘဏ်မန်နေဂျာက ကျွန်တော်ရော ဇနီးကိုပါ သိပါတယ်။ သို့သော် ဘဏ်ဝန်ထမ်းများက တစ်လွဲမထင်စေရန်အတွက် ဇနီးအမည်မှာ ကျွန်တော့် နာမည်နောက်က တွဲသင့်ကြောင်း အကြံပေးပါတယ်။ ကျွန်တော့်ဇနီးကတော့ သူ့ကို မစ္စစ်သန်းမြဘေ သို့မဟုတ် မစ္စစ်ဘေလို့ သူ အင်္ဂလန်မှာ နေသမျှ အခေါ်ခံရလေတော့ အသာ ငြိမ်ခံနေရရှာတယ်။

ပိုပြီး ရှုပ်တာတစ်ခုကတော့ မြန်မာလူမျိုး ကုလသမဂ္ဂအရာရှိကြီး တစ်ဦးကိစ္စ။ သူ့ဇနီးနှင့်အတူ နိုင်ငံခြား တစ်နိုင်ငံ ရောက်သွားတယ်။ ဟော်တယ်ကြီး တစ်ခုမှာ တစ်ညဝင်တည်းတယ်။ သူ့ဇနီးရဲ့ ပတ်စ်ပို့မှာ နာမည်က တစ်မျိုးဖြစ်နေတော့ ဟော်တယ်မန်နေဂျာက သူတို့ကို တစ်ခန်းတည်း နေရာမချချင်ဘူး။ ကုလသမဂ္ဂ အရာရှိကြီးကတော့ ရှင်းပြရှာပါတယ်။ သူ့အသက်အရွယ်နဲ့ သူရဲ့ ကုလသမဂ္ဂက သူရဲ့ ရာထူးအဆင့်ကို ရောက်နေမှ အမြှောင်မယားနှင့် နိုင်ငံတကာ လျှောက်သွားနေလျှင် သူအလွန်မိုက်မဲရာ ကျမှာပေါ့လို့ ပြောပြီး မြန်မာယဉ်ကျေးမှု ထုံးစံကိုလည်း ရှင်းပြပါသတဲ့။ အဲ သူတို့ တစ်ခန်းတည်း ရသွားပါတယ်။

ဒီလို ကသိကအောက် အဖြစ်က မြန်မာတွေသာ ကြုံရတာ မဟုတ်ပါဘူး။ ဗြိတိသျှတွေတောင် ရစ်ပတ်ခံကြရတာပဲ။ တစ်ခါက တက္ကသိုလ်ဆရာမတစ်ဦး သူရဲ့ စာအုပ်စာတမ်းတွေနှင့် နိုင်ငံတကာ ဆွေးနွေးပွဲများမှာ တက်ရောက် ဆွေးနွေးမှုတွေကြောင့် ပညာရှင် လောကမှာ ထင်ပေါ်ကျော်ကြား လူသိများနေတယ်။ သူက စီးပွားရေး လုပ်ငန်းရှင်တစ်ဦးနှင့် လက်ထပ်လိုက်ရော။ ဒီဆရာမက သူရဲ့ လူသိများနေတဲ့ အပျိုဘဝ နာမည်ကို ဘယ်လက်လွှတ်ချင်မလဲ။ သူ့ အပျိုနာမည် (Miss X) နဲ့ပဲ ဆက်ပြီး စခန်းသွားနေတာပေ့ါ။ မကြာခင်မှာ သူ့ တက္ကသိုလ်က အုပ်ချုပ်ရေးအဖွဲ့ကို မီးဖွားခွင့် တောင်းခံစာတင်ရော။ အဖွဲ့ရုံး ဘဏ္ဍာတော်ထိန်းက ရှေးရိုးကြီး ကိုယ်ကျင့်သိက္ခာ အလေးထားသူ ဖြစ်နေတယ်။ အဲတော့ Miss X ရဲ့ မီးဖွားခွင့် လျှောက်လွှာကြည့် မကျေမချမ်းဖြစ်ရော။ ဒါနဲ့ ခွင့်ပေးရန် ငြင်းဆိုလိုက်ပါတယ်။ နောက်မှ ဇာတ်ရည်လည်အောင် ရှင်းပြလို့ ကိစ္စပြီးပြေသွားပါသတဲ့။

ကံတရားသည် မိသားစု စည်းလုံးရာမှာ အကြောင်းတစ်ရပ်ဖြစ်ကြောင်း ကျွန်တော် ပြောခဲ့တာ ခင်ဗျားတို့ သတိရကောင်း ရ ပါလိမ့်မယ်။ သည်ထဲမှာ အံမဝင် ဟန်မကျဖြစ်နေတာကတော့ မြန်မာ မိသားစုဝင်တွေရဲ့ နာမည်တွေပါပဲ။ ဒါကလည်း ဗုဒ္ဓဘာသာများ ဗေဒင်ယုံကြည်တဲ့အတွက် ဖြစ်ရတာပါ။

## ၃၊ ၁၊ ၁၊ ၂ အိမ်သားဘဝ

မြန်မာဗုဒ္ဓဘာသာရဲ့ ဘဝမှာ ဗုဒ္ဓဘာသာက နေရာတကာ ပါနေတယ်။ သူရဲ့ အတွေး၊ အပြော၊ အလုပ်တွေမှာ ဗုဒ္ဓဟောပြော သွန်သင်ချက်တွေက ထင်ဟပ်နေပါတယ်။

ကျွန်တော် နှစ်နှစ်သား အရွယ်ရောက်တော့ အဖေဘက်က အပျိုကြီး အဒေါ်လေးယောက်က ကျွန်တော့်ကို မွေးစားပါတယ်။ ကံတရားနှင့် အညီ ကျွန်တော် မိသားစု အသိုင်းအဝန်းထဲမှာ ကြီးပြင်းခဲ့ရတယ်။ အသိုင်းအဝန်းက ကျွန်တော်၏ အတွေးအမြင်ကို ပြုပြင်တယ်။ ကျွန်တော် လုပ်ပုံကိုင်ပုံနှင့် အကျင့်ဝါသနာ ဖော်ထုတ်ပေးတယ်။ ကျွန်တော်၏ ကိုယ်ပိုင် စရိုက်လက္ခဏာကို ပုံသွင်းပေး ခဲ့တယ် လို့ ကျွန်တော် ယုံကြည်ပါတယ်။ မြန်မာကလေးတစ်ယောက်ကို မွေးကျွေးယုယတဲ့ ပတ်ဝန်းကျင်က အနောက်နိုင်ငံများနှင့် အတော်အတန် ကွဲပြားပါတယ်။ ကျွန်တော် သတိပြုမိလာတာ သို့မဟုတ် သတိပြုအောင် သင်ပေးခံရတာ တစ်ခုက နေ့စဉ်ဘဝမှာ အသက်ဝါကို ဦးစားပေးရမယ်၊ အိမ်မှာ အသက်အကြီးဆုံးသူက အမိက မဏ္ဍိုင် ဖြစ်တယ်။ ကျွန်တော်တို့ အိမ်မှာတော့ အဘွားပေါ့။ သက်ကြီးဝါကြီးကို ကိုင်းရှိုင်းရ လေးစားရတာက လူတိုင်း ကျင့်ဝတ်ပဲ။ လုပ်ချင်မှ လုပ်တဲ့ ချွင်းချက်မဟုတ်ပါဘူး။

ကျွန်တော် ရှာကျောင်း မသွားသေးမီအချိန် အတော်ငယ်တဲ့ အရွယ်ကစပြီး လူကြီးသူမများနှင့် ဆက်ဆံရာမှာ လိုက်နာရမည့် ယဉ်ကျေးမှု ကျင့်ဝတ်များကို သင်ပေးကြပါတယ်။ တချို့ကိစ္စများတော့လည်း ကျွန်တော်ကိုယ်တိုင် အလိုလို သိနားလည်လာတာ ရှိပါတယ်။ သင်ပေးတဲ့ အထဲက တချို့ကို ပြောရလျှင် ငါ၊ နင် မသုံးရ။ ကျွန်တော်လို့ သုံးရမယ်။ ဦးလေး၊ ဦးကြီး၊ ဒေါ်လေး၊ ဒေါ်ကြီး အစ်ကို၊ အစ်မ ဘယ်သူ ဘယ်ဝါ စသည်ဖြင့် အသက်အရွယ်အလိုက်၊ ကျားမအလိုက် ခေါ်ရမယ်။ ဒို့ပြင် ကျွန်တော့်ကို သင်ကြားတာက အသံကျယ်ကျယ်နှင့် 'ဘာညာ' အော်မပြောဖို့။ မြန်မာစကား ယဉ်ယဉ်ကျေးကျေးနှင့် ဟုတ်ကဲ့ခင်ဗျ၊ ကောင်းပါပြီ ဒေါ်ဒေါ် စသည်ဖြင့် လူကြီးများကို ပြန်ပြောရာမှာ လိုက်နာစရာ သင်ပါတယ်။ ခေါင်းညိတ်၊ ခေါင်းခါတဲ့ ကိုယ်အမူအရာနှင့် ရိုင်းတဲ့ အမူအရာ မပြရ၊ ကောင်းပါပြီ ခင်ဗျာ၊ ဟုတ်ကဲ့ ခင်ဗျ ယဉ်ယဉ်ကျေးကျေး ပြောရမယ် (ဒီစကားတွေအတွက် မြန်မာအသုံးအနှုန်း အများကြီး ရှိပါတယ်)။ ပိုဆိုးတာက အသံကျယ်ကျယ်နဲ့ ပြတ်တောင်းတောင်းကြီး မကြိုက်ဘူး၊ ကြိုက်တယ်၊ မဟုတ်ဘူး၊ ဟုတ်တယ် ပြောတာမျိုးပါပဲ။ အဲဒါ ရှောင်ရမယ်။

ဒါတွေက ဝစီကံပိုင်းက။ ကာယကံပိုင်းက တချို့ဥပမာတွေလည်း ပြစရာ ရှိပါတယ်။ ရိုသေခြင်း (ဂါရဝ)၊ နှိမ့်ချခြင်း (နိဝါတ) နှင့် ကိုယ်ချင်းစာတရားများကို

တွေ့ရမည့် ဥပမာတွေပါ။ လူကြီးများရှေ့မှာ နေရင် ကိုယ်နေကိုယ်ထား ဟန်ပန်က ရပ်နေရင် ခေါင်း ငုံ့ထားရမယ်၊ သွားရင် ခါးကုန်းသွားပါ၊ သေသပ်စွာထိုင်ပါ။ လူကြီးကို တစ်ခုခုပေးတဲ့ အခါ လက်နှစ်ဖက်စုံနှင့် ကမ်းရမည်။ ခုခေတ်မှာတော့ လူတော်တော်များများက လူကြီးကို ပေးစရာရှိရင် ညာလက်တစ်နေရာရာကို ဘယ်လက်က ထိထား ကိုင်ထားပြီး ပေးနေတာ သတိပြုမိပါတယ်။ ဒါ တီထွင်မှု အသစ်တစ်မျိုးပါပဲ။ လက်တစ်ဘက်က မအားလပ်ရင်တော့ ပေးစရာကို ညာလက် နှင့်သာ ပေးရမယ်၊ ဘယ်သန် ကလေးဆိုရင်တော့ မလွယ်ဘူး။

မိကောင်း ဖခင် သားသမီးအတွက် စားသောက်ပုံ (စားပွဲထိုင် အပြုအမူ) ကလည်း အလွန် အရေးကြီးပါတယ်။ စားသောက်ချိန်ရောက်ရင် ကျွန်တော်တို့ အားလုံး ကြမ်းပြင်ပေါ် စားပွဲ အနိမ့်ကလေးရှေ့မှာ ဝိုင်းထိုင်ကြရမယ်။ စားပွဲပေါ်မှာ ကိုယ်စီအတွက် ထမင်းပန်းကန် ရှိမယ်။ စားပွဲလယ်မှာ ဟင်းလေးပွဲ သို့မဟုတ် ခြောက်ပွဲ သို့မဟုတ် ဒီ့ထက်များတဲ့ အမယ်တွေ ဟင်းတစ်မျိုး နှစ်ပန်းကန်စီ ချထားမယ်။ ပန်းကန်တစ်လုံးလုံးမှ ဟင်းကို အဘွားခပ်ယူမပြီးမချင်း ဘယ်သူမှ မလှုပ်ရဘူး။ ကိုယ်စပြီး မစားခင်မှာ အဘွား မနှိုက်ရသေးတဲ့ ဟင်းတစ်မယ်ထဲက တစ်ဇွန်းခပ်ပြီး အဘွား ပန်းကန်ပြားထဲ ထည့်(ဦးချ)ရမယ်။

တစ်ခါတုန်းက အဖြစ်အပျက်ကလေးကို ကျွန်တော် ရေးရေး သတိရနေ တယ်။ တစ်ညနေမှာ ကျွန်တော့် ညီအစ်ကို ဝမ်းကွဲနဲ့ သူ့အမေ ကျွန်တော်တို့ အိမ်မှာ ညစာ လာစားပါတယ်။ ကျွေးတာက နည်းနည်း နောက်ကျနေတော့ ကောင်လေး က ဆာပြီပေါ့။ စားချင်ဇောနှင့် သူကစပြီး နှိုက်စားပါလေရော။ လူကြီးတွေ မကြိုက်တဲ့ အရိပ်အကဲကိုလည်း သူ ဂရုမစိုက်ဘူး။ သူက ရုတ်တရက် ‘အောင်မယ် လေးဗျ’ လို့ အော်သံ ကြားကြရတယ်။ သူ့အမေက ကြိတ်ပြီး ပေါင်တွင်းကြော လိမ်တာကိုး။ အဲဒါထိရင် အလွန်နာတဲ့ အသားနုပိုင်း။ ဒီကောင် ရိုင်းစိုင်းတဲ့ အပြုအမူကို အမေက ဆုံးမ လိုက်တာပါ။ ဒါမျိုးနှင့် နှိုင်းယှဉ်စရာ အနောက် မှာလည်း ရှိပါရဲ့။ ထမင်းစားပွဲမှာ ဇနီး/ခင်ပွန်းက အမှားမှား လုပ်ကိုင်ပြောဆိုခဲ့ရင် စားပွဲအောက်မှာ ခြေနဲ့ ကြောက်တယ် မဟုတ်လား။

အိမ်မှာ ကျွန်တော်တို့ နေ့စဉ် လုပ်နေကျ တစ်ခုကတော့ ပုံပြင် နားထောင် တာပါ။ ရိုးရာပုံပြင်၊ နိပါတ်တော်ပုံပြင်ကို စာပေ အတော်အသင့် နှံ့စပ်တဲ့ လူကြီး များက ဝေဝေဖြာဖြာ ပြောပြပါတယ်။ ဒီနိုင်ငံမှာ အိပ်ရာဝင်ချိန် ကလေးတွေကို ပုံပြင် ဖတ်ပြတာနဲ့ ဆင်တူပါပဲ။ ပြီးတဲ့အခါမှာ ဒီမှာကလေးများက ဂွတ်နိုက် (အင်္ဂလိပ်က good night, ပြင်သစ်က bon nuit) ဆိုသလို ကျွန်တော်တို့က

အဘွားကို ကန်တော့ပြီး အိပ်ရာဝင်ပါတယ်။

## ၃၊ ၁၊ ၂ ရွာကျောင်း

ကျွန်တော် ငါးနှစ်သားအရွယ်မှာ ရွာကျောင်းမှာ စတင် ပညာသင်ကြားပါတယ်။ အိမ်မှာ အတွေးအမြင်တွေ ရိုက်သွင်းတဲ့ လေ့ကျင့်ခန်းတွေ ကျောင်းကလည်း ဆက်လုပ်ပါတယ်။ စည်းကမ်းကောင်းပြီး စနစ်တကျ စီမံအုပ်ချုပ်တဲ့ ကျောင်းပါ။ အရေး၊ အဖတ်အတွက် အ-သုံးလုံး သင်ရပါတယ်။ အဲဒီ အချိန်အခါက စတုတ္ထ (အ) မပေါ်သေးပါဘူး။ စတုတ္ထ (အ) က ခုခေတ် အနောက်နိုင်ငံတွေမှာ အတော်ခေတ်စားနေတယ်။ အာခံတာ အုပ်စုဖွဲ့ ရမ်းကားတာ။ အဲဒီ စတုတ္ထ (အ) ပညာမျိုးကတော့ ဗုဒ္ဓအဆုံးအမနှင့် ဖီလာကြီး ဖြစ်လိမ့်မယ်။ ဒီကျောင်းသားမျိုး ပေါ်လာရင်လည်း ဆရာတွေက တော်ရိလျော်ရိ ပျော့စိစိ မဟုတ်ဘူး၊ ရေရေလည်လည် ကြိမ်နဲ့ အဆော်ခံရမှာပဲ။

ကျောင်းပညာရဲ့ အဓိက မျှော်မှန်းချက်က စာတတ်ဖို့၊ အတွက်အချက်တတ်ဖို့နဲ့ ကိုယ်ကျင့်သိက္ခာ ပြုပြင်ပေးဖို့ ဖြစ်ပါတယ်။ ဒီ မူဝါဒ ဖြစ်မြောက် အောင်မြင်စေဖို့ ကျောင်းဆရာကြီးက ဒီခေတ်မှာ အသုံးများလာတဲ့ ဆုပေး ဒဏ်ပေး (ကြိမ်နှင့် ကြံသကာ) စနစ်ကို လက်ကိုင်ထားပါတယ်။ ဆရာ-ကျောင်းသား ဆက်ဆံရေး ကဏ္ဍရောက်လျှင် ဒီအကြောင်းကို ချဲ့ထွင်ပြောဦးမှာပါ။ ပြောခဲ့တဲ့ ကြိမ်က ဒဏ်ပေးတာကို တင်စားပါတယ်။ ဆုပေး ဒဏ်ပေး စနစ်ပါ။ စာကောင်းကောင်း မလုပ်သူ၊ အိမ်စာ ပျက်ကွက်သူ၊ နေထိုင်ပြုမူပုံက ဆုံးမမှ ဖြစ်မည့်သူ၊ ဒီလို ကျောင်းသားတွေကို နေ့ခင်း ထမင်းစား ကျောင်းဆင်းချိန် အိမ်ပြန်ခွင့် မပေးဘဲ ထားတတ်တယ်။ ကြိမ်က တကယ့်ကြိမ်လည်း ဖြစ်ပါသေးတယ်။ သိပ်အပြစ်ကြီးတဲ့ သူကိုတော့ ကြိမ် (တုတ်) နှင့် ဆုံးမပါတယ်။

အိမ်မှာရော ကျောင်းမှာပါ လက်နှင့်ဖြစ်စေ တုတ်နှင့်ဖြစ်စေ ရိုက်နှက်ဆုံးမတာကတော့ မိဘဆရာများ လက်သုံးပါပဲ။ တုတ်မပါ ကလေးပျက်စီးတယ်လို့ ယုံကြည်ထားတော့ အသေအချာ ဆုံးမကြပါတယ်။ နာမှ မှတ်တယ်လို့လဲ အစွဲရှိကြတယ်။ ကျွန်တော် မှတ်မိသလောက် ကျောင်းသားဘဝမှာ တစ်ကြိမ်တစ်ခါမျှ အရိုက်မခံရပါဘူး။ အိမ်မှာတော့ တစ်ခါ နှစ်ခါ အရိုက်ခံရပါတယ်။ အဘွားက ကျွန်တော့်ကို ရိုက်နှက်တဲ့ တစ်ခါကိုတော့ ကျွန်တော် မေ့မရနိုင်အောင်ပါပဲ။ အဘွားရိုက်တာ အဲဒီ တစ်ခါပါပဲ။ အဘွားက အလွန် ကြင်နာတတ်သူ နားလည်မှုရှိသူပါ။ ဒါပေမဲ့ ငယ်သူက ကြီးသူကို မထီမဲ့မြင် လုပ်ရင် ကိုယ်အမူအရာကလေး တောင် သည်းမခံဘူး။

ကျွန်တော့်အစ်ကို ဝမ်းကွဲတစ်ယောက်က အကျည်စားသန်တယ်။ တစ်နေ့တော့ သူက ကျွန်တော် စိတ်ဆိုးအောင် စပါတယ်။ ကျွန်တော်က ပြန်ဆဲရော။ အဲဒါ အနီးမှာရှိတဲ့ အဘွားကြားသွားတော့ ချက်ချင်းပဲ ကျွန်တော့်ကို အိမ်နောက်ဖေးခေါ်လာပြီး တုတ်နဲ့ ခြောက်ချက်ရိုက်ပါတယ်။ အဘွားက ဘာမျှ ဒေါသအရိပ်အရောင် မပြပါဘူး။ ရိုက်ရင်းနဲ့ 'ပြောစမ်း၊ နောင် ဆဲဦးမလားဟဲ့' မေးလိုက် ရိုက်လိုက်။ ကျွန်တော်က 'နောင် မဆဲတော့ပါဘူး အဘွား၊ နောင် မဆဲတော့ပါဘူး' နှင့် ရှိုက်ရင်း ရှိုက်ရင်း ပြန်ပြောရပါတယ်။

တချို့ အတော်ရှေးရိုးဆန်တဲ့ မိဘများက အရွယ်ရောက်တဲ့ သားကြီး၊ သမီးကြီးကို ရိုက်နှက်ဆုံးမတာလဲ ရှိတယ်။ လွန်ခဲ့တဲ့ အနှစ်နှစ်ဆယ်ကျော်က လူငယ် မြန်မာဇနီးမောင်နှံ ပညာတော်သင်အဖြစ် ကျွန်တော်တို့ လန်ဒန်တက္ကသိုလ် အရှေ့တိုင်းနှင့် အာဖရိက လေ့လာရေးကျောင်းကို ရောက်လာပါတယ်။ ဘွဲ့လွန်ဒီဂရီ သင်ယူဖို့ လာတာပါ။ အမျိုးသမီးကလေးက မြန်မာအစိုးရအဖွဲ့ဝင် ဝန်ကြီး တစ်ဦးရဲ့ သမီးပါ။ သူ့မိခင်လည်း သူတို့ လိုက်ပို့ရင်း လန်ဒန်ရောက်လာတယ်။ တစ်နေ့မှာ အမေက ကျောင်းလိုက်လာပြီး ကျွန်တော့် ကို တွေ့ပါတယ်။ 'ဆရာကြီး ဒီကလေး တွေ မလိမ်မိုး မလိမ္မာရှိရင် ရိုက်သာ ရိုက်ပါ၊ မကျိုးရင် မပဲ့ရင် ပြီးတာပဲ' ဆိုပြီး ကျွန်တော့်ကို အပ်ပါတယ်။ သူပြောတာက မိဘများ သားသမီးကို ကျောင်းအပ်သည့် အခါတိုင်း ပြောနေကျ စကားပါ။ သူပြောတဲ့ 'ဒီကလေးတွေ' က အနည်းဆုံး အသက် နှစ်ဆယ့်သုံးလေးနှစ် ရှိနေကြပါပြီ။

ကျွန်တော် ပြောခဲ့သည့် 'ကြံသကာ' ဆုပေးသည့် အကြောင်း ဆက်ပါမယ်။ နေ့ထမင်းစားချိန်မှာ သို့မဟုတ် ညနေ ကျောင်းဆင်းပြီးမှာ ကျောင်းအုပ်ဆရာကြီးက ကျွန်တော်တို့ကို စိတ်တွက် သင်္ချာဖြစ်ဖြစ် ဗဟုသုတ မေးခွန်းဖြစ်ဖြစ် မေးတတ်ပါ တယ်။ သူ့မေးခွန်းမျိုးက 'လူတစ်ယောက် တစ်မိုင်လမ်းလျှောက်ဖို့ နာရီဝက်ကြာ တယ်၊ သူ လေးမိုင်လျှောက်ရင် ဘယ်လောက်ကြာမလဲ' သို့မဟုတ် 'မြန်မာနိုင်ငံ မြို့တော်က ဘာလဲ' စသည်ပေါ့။ မေးခွန်းကို အရင်ဆုံး ဖြေနိုင်သူကို အိမ်အရင် ပြန်ခွင့် ပေးပါတယ်။ မဖြေနိုင်တဲ့ ငတုံးတွေတော့ နောက်ပိတ်မှ အိမ်ပြန်ပေတော့။ ဆရာကြီးက ထူးချွန်တဲ့ ကျောင်းသားကို ရွေးထုတ်ပြီး တစ်ကျောင်းလုံးရှေ့မှာ ချီးမွမ်း တာလဲ လုပ်တတ်သေးတယ်။

ကျွန်တော်တို့ ကျောင်းနေစဉ်မှာ ဆုံးမ သွန်သင်စကားတွေလည်း ပြောပါ တယ်၊ များသောအားဖြင့် ဗုဒ္ဓဘာသာတရားတော်က ကောက်နုတ်ပြောတတ်ပါတယ်။ 'ရတနာသုံးပါး ဆည်းကပ်ကိုးကွယ်ကြ၊ အနန္တော အနန္တငါးပါး ရှိခိုး ကန်တော့ကြ၊

အနန္တော အနန္တငါးပါးက ရတနာသုံးပါးနှင့် မိဘ၊ ဆရာ ပေါင်းငါးခုပါ။ အသက်ကြီးသူ၊ ရာထူးဂုဏ်သိန်ကြီးသူ၊ ပညာကြီးသူကို ရိုသေလေးစားကြ။ ဗုဒ္ဓဝင်ပုံပြင်များနှင့်လည်း သင်ခန်းစာ ပေးပါတယ်။ ကောင်းမှုပြုလို့ ကုသိုလ်ရတာ၊ မကောင်းမှုကြောင့် မကောင်းကျိုးပေးတာ၊ ကံကံ ၏ အကျိုးကို ညွှန်းပြီး ဆုံးမသွန်သင်ပါတယ်။

ကျောင်းသုံး ဖတ်စာအုပ်များမှာလည်း ဒီအချက်တွေ ခြိုင်တဲ့ ပုံပြင်တွေ ပါဝင်ပါတယ်။ မြန်မာစာပေကလည်း ဗုဒ္ဓဘာသာ အများကြီး စူးဝင်နေတာဆိုတော့ ဆုံးမသြဝါဒတွေ အလွန် ပေါကြွယ်ဝပါတယ်။ လောဘ၊ ဒေါသ၊ မောဟ ကြီးသူမှာ ဖြစ်တတ်သည့် အကုသိုလ်၊ ခန္တီ၊ မေတ္တာ၊ ကရုဏာ၊ သစ္စာရှိသူ ရသည့် ကုသိုလ်တွေကို အများကြီး ရေးပါတယ်။ ပုံပြင်တွေကို နေ့ကျောင်းချိန်မှာ ဖတ်ကြရပါတယ်။ ညခင်း အေးအေးဆေးဆေး အိမ်မှာ နေတဲ့ အချိန်မှာလည်း လူကြီးများက ပုံပြင်တွေ ဖွဲ့နွဲ့ပြောတာ ကြားရပါတယ်။ ပြီးတော့ ပွဲလမ်းရှိတဲ့အခါ ညဇာတ်သဘင်ပွဲမှာလည်း ကပြတာ တစ်ခါတစ်ရံ တွေ့ရပြန်ပါတယ်။ ကလေးတွေ မကြီးပြင်းမီကတည်းက ဦးခေါင်းထဲကို သည်အသိတရားတွေ ရိုက်သွင်းထားတော့ မြန်မာကလေး တစ်ယောက်မှာ ဒါတွေက စွဲထင်နေပါတယ်။

ဒီပြင် ကျွန်တော်တို့ ဝတ်ငါးသွယ်တွေကိုလည်း အလွတ် ကျက်ထားကြရတယ်။ ဝတ်ငါးသွယ်တွေက ငါးပါးသီလနှင့် ဆင်တူ လိုက်ဖက်အောင် ကျင့်ဝတ်အရေအတွက် စီစဉ်တာဖြစ်မယ်။ မိဘဝတ္တရားငါးပါး၊ သားသမီးဝတ်ငါးပါး၊ ဆရာ့ဝတ်ငါးပါး၊ တပည့်ဝတ် ငါးပါး၊ လင့်ဝတ်ငါးပါး၊ မယားဝတ်ငါးပါးဆိုတဲ့ ဝတ္တရားငါးပါးအသီးသီး ရှိတယ်။ ဒီစာရိတ္တ အခြေခံတွေက ကလေးများကို ပြုပြင်လို့ ရတဲ့အချိန်မှာ သွတ်သွင်းထားတာပါ။ ကျောင်းသားရဲ့ စိတ်နှလုံးမှာ တချို့စွဲကျန်နေမှာပါပဲ။

ကျောင်းဖွင့်ရက်များမှာ ညနေ လေးနာရီ မထိုးမီ လုပ်ကြရတဲ့ တာဝန်တွေက ဒီအရပ် (ပြင်သစ်) မှာ မနက်ကျောင်းတက် ဘုရားရှိခိုးတာနှင့် ဆင်တူပါပဲ။ ကျွန်တော်တို့က ဘုရားရှိခိုး ရွတ်ကြရပါတယ်။ များသောအားဖြင့် ကျောင်းသား သို့မဟုတ် ကျောင်းသူ အကြီးတစ်ယောက် ချပေးတာ လိုက်ဆိုကြရတယ်။ ဒီအစီအစဉ်မှာ ရတနာသုံးပါးကန်တော့ပြီး ငါးပါးသီလ ခံယူရပါတယ်။ သီလငါးပါးက (၁) မသတ်ဖြတ်နှင့် (၂) မခိုးဝှက်နှင့် (၃) လိမ်မပြောနှင့် (၄) ကာမဂုဏ် မဖောက်ပြန်နှင့် (၅) အရက်သေစာ မသောက်နှင့်။ ကျောင်းသားအရွယ်အတွက် အထူးပြောစရာမလိုပါဘူး။ နောက်ဆုံး သီလ နှစ်ပါးကိုတော့ ထိန်းနိုင်တယ်။ သို့သော် တစ်ခါမဟုတ်တစ်ခါတော့ ကျန်သီလသုံးပါးကို တစ်ခုခုသော် လည်းကောင်း အားလုံးသော်လည်းကောင်း ချိုးမိပါလိမ့်မယ်။ သို့သော်လည်း သူ ကြီးပြင်းလာတဲ့အခါ သီလ

အခြေခံတွေက သူ့စိတ်မှာ စွဲကျန်နေပါလိမ့်မယ်။ ဒါကြောင့် သူပြုသမျှ အရာရာမှာ အထိန်းအကွပ်တွေ ဖြစ်နေပါတယ်။

သီလထိန်းကွပ်သည့် အကြောင်းပြောရင်း ကျွန်တော် ကိုယ်တွေ့ဖြစ်ရပ်တစ်ခုကို သတိရလာပါတယ်။ ကျွန်တော် အတော်ကလေး ငယ်တုန်းက အိမ်မှာ အတူနေ ကောင်လေးတစ်ယောက် ရှိပါတယ်။ သူနှင့်ကျွန်တော် တွဲမိတယ်။ သို့သော် တစ်နေ့တော့ ရန်ဖြစ်ကြရော။ အဲဒီနေ့ ညနေမှာ ကျွန်တော်တို့ မြစ်ဆိပ်ဆင်း ရေချိုးကြတယ်။ ကျွန်တော်က အရင် ရေထဲက တက်လာပြီး သူ့အပေါ် မကောင်းကြံစိတ်နှင့် သူလဲဝတ်မယ့် အဝတ်အစားတွေကို ဝှက်ထားလိုက်တယ်။ မြန်မာပြည်မှာက ရာသီပူပြင်းတော့ အဝတ်အစား မကြာ မကြာ လဲဝတ်ဖို့လိုတာ ပရိသတ်ထဲက တချို့တွေ သိမှာပါ။ ပူတော့ ချွေးထွက်တယ် မဟုတ်လား။ ရှပ်အကျႌကိုလည်း ဝတ်လိုက်ရော ကျွန်တော့်ကို ကင်းမြီးကောက် တွယ်ပါရော။ အကောင်က အကျႌကော်လံထဲ အိတ်ကပ်ထဲမှာ အောင်းနေပုံရတယ်။ ကျွန်တော် နာလွန်းလို့ ငိုရတယ်။ ဟိုကောင်ကိုလဲ သူ့အဝတ်အစားတွေ ဘယ်မှာ ရှာယူဆိုတာ ကျွန်တော် ပြောတော့ ရှိုက်ရှိုက်ပြီး ပြောရတယ်။ 'မင်း အကျႌတွေ. . . အီး. . . အီး. . . ဟိုဟို. . . အီး. . . အား. . . အ. . . ဟို. . . ရင်ဘတ်ကို . . . အီး. . . ' ယခုလို သူ့တစ်ပါး မကောင်းကြံမိသည့်အတွက် ကိုယ်ခံရတာ မမေ့ပါ။ သူတစ်ပါးကို 'တွယ်'လိုက်ချင်စိတ်ဖြစ်တိုင်း ကင်းမြီးကောက်တွယ်တာ သတိရနေပါတယ်။

အမျိုးစုံတာက ဘဝကို ဝေဖြာစေပါသတဲ့။ ယခု ကျွန်တော် မြန်မာ ဗုဒ္ဓဘာသာ၏ ဘဝပုံစံ တစ်မျိုးကို ပြောပါဦးမယ်၊ ဒါလေးနဲ့ ကျွန်တော်ရဲ့ ရွာကျောင်းသားဘဝကို မီးမောင်းထိုးပြီး အဆုံးသတ်ချင်လို့ပါ။

## ၃၊ ၁၊ ၂၊ ၁ လိပ်ပြာခေါ်ခြင်း

ကျောင်းစနေတဲ့ နှစ်မှာ အမှောင်ထဲက ရွာလမ်းအတိုင်း လျှောက်သွားတုန်း ကျွန်တော် လန့်သွားဖူးပါတယ်။ လန့်ပြီးဖျားရော။ ရွာက ဆေးဆရာ ကြိုးစားကုသသော်လည်း ကျွန်တော့် အဖျားက မသက်သာပါ။ ကျွန်တော့် အဖျားက သာမန်အဖျား မဟုတ်ဘူး။ အပမှီတာ တစ်ခုခု ပူးတာလို့ တချို့က ပြောလာပါတယ်။ ကျွန်တော့်လိပ်ပြာ လန့်သွားတယ်၊ တချို့ကလည်း ကျွန်တော့်လိပ်ပြာ စင်သွားတယ်၊ ဒါကြောင့် ဖျားတယ်လို့ ပြောကြတယ်။ အဘွားနှင့် အဒေါ်များကတော့ လိပ်ပြာစင်သွားတယ် (ခန္ဓာမှ ပြင်ပလွင့်သွားတယ်) လို့ ယုံကြည်ကြပါတယ်။ ဒီတော့ ရိုးရာအတိုင်း လိပ်ပြာခေါ်ဖို့ လုပ်ကြပါတယ်။

ကျွန်တော့် အဘွားက ပထမ ပစ္စည်းတွေ စုံအောင် စုပြီး သူ့ရှေ့မှာ စီတန်းချ ထားပါတယ်။ (၁) ပန်းကန်ပြား တစ်ချပ်မှာ ထမင်းဆုပ် ၅ ဆုပ် ၆ ဆုပ်ခန့် ထည့်ပြီး ထန်းလျက်ခဲ တစ်ခဲစီ အပေါ်က အုပ်ပေးပါတယ်။ (၂) ရေတစ်ဝက်လောက် ထည့်ထားသည့် အင်တုံ၊ အောက်ခြေမှာက ကွမ်းသီး ၆ ခြမ်း နှစ်လျက်။ (၃) ဇလုံတစ်လုံး ကိုလည်း ရေတစ်ဝက်ပဲ ထည့်ထားတယ်။ ဇလုံပေါ်မှာ အဖြူအနီ ချည်တစ်ခင် ဆွဲထားလို့ လေတိုက်တိုင်း လွှဲနေတယ်။ (၄) လင်ပန်းကလေး တစ်ချပ်မှာ ရွှေလက်စွပ် ထည့်ထားပြီး လက်စွပ်ကို အနီအဖြူ ချည်မျှင်နှင့် ချည်ပြီး ဆွဲသီးပုံ လုပ်ထားတယ်။

ပထမ ကျွန်တော့်အဘွားက ထမင်းဆုပ်နှင့် ပန်းကန်ကို လက်နှစ်ဖက်နှင့် မ ယူပြီး နက်တစ်ပါးပါးကို ပသသည့် ပုံမျိုး တစ်စုံတရာ တိုင်တည် ပြောဆိုပါတယ်၊ ပြီးတော့ ပန်းကန် ပြန်ချတယ်။ ပြီးတော့ အင်တုံအောက်ခြေက ကွမ်းသီးတစ်ခြမ်းကိုယူ လက်စုံထဲမှာ ကိုင်လျက် ပူဇော် ဆက်သပြန်ပါတယ်။ ပသရင်း တစ်ခုခု အာမခံ ကတိပေးပါတယ်။ ပြီးမှ အင်တုံရေထဲ ကွမ်းသီးခြမ်း ပြန်နှစ်လိုက်ပါတယ်။ ဒါကို အကြိမ်ကြိမ် လုပ်ပါတယ်။ နောက်ဆုံး ကွမ်းသီး ၆ ခြမ်းလုံး မျက်နှာပြင်ကို အပေါ်ဘက်လှန်ပြီး စီတယ်။ လက်စွပ်ကို လင်ပန်းမှ ဇလုံထဲမှာ တွဲလောင်း ဆွဲပြီး ခလောက်ပေးပါတယ်။ ချည်ခင်ကို လက်စွပ်ဖက် ပြုလာအောင် မြှုပေးတာပါ။ အချိန်တော့ နည်းနည်း ကြာပါတယ်။ ဒါပေမဲ့ နောက်ဆုံးမှာ ချည်ခင်က လက်စွပ်ရှိရာ လာပူးပါတယ်။ ဒီအခါမှာ အဘွားက ချည်ခင်ကို လက်စွပ်နှင့် တွဲချည်လိုက်ပြီး လက်စွပ်တွဲလောင်းနှင့် ဆွဲကြိုးကို ကျွန်တော့်လည်ပင်း စွပ်ပေးပါတယ်။ ကျွန်တော့် လိပ်ပြာ ကျွန်တော့်ကိုယ်ထဲ ပြန်ဝင်လာပါပြီ။ ဒါက ဗုဒ္ဓဘာသာနှင့် မဆိုင်သည့် လုပ်နည်း လုပ်ဟန်တစ်ခုပါ။ ဒီလိုလုပ်ပြီး မကြာမီ ကျွန်တော် ကျန်းမာလာပါတယ်။ ကျွန်တော် သိသလောက် ယခုလုပ်တဲ့ ရိုးရာက မြန်မာပြည်တစ်လွှား လူမျိုးစု ပေါင်းစုံလုပ်တတ်သည့် အစဉ်အလာ ဖြစ်ပါတယ်။

ဗုဒ္ဓဘာသာအနေနှင့် ဝိညာဉ်ရှိသည်ဟု လက်မခံပါ။ ရုပ်နှင့် နာမ်ကိုသာ လက်ခံပါတယ်။ ရုပ်နှင့် နာမ်အပေါင်းသည် အသက် ဇီဝိန် ဖြစ်တယ်။ တစ်ချိန်ချိန်မှာ မြန်မာတွေ အသက်ဇီဝိန်နှင့် လိပ်ပြာကို ရောထွေးသွားခဲ့တယ်။ ဘယ်တုန်းက ဒီလို ရှုပ်ထွေးခဲ့တယ်၊ ဘာကြောင့်ဆိုတာကို ကျွန်တော် မပြောနိုင်ပါဘူး။ အရာရာတိုင်းမှာ ကိုယ်ပိုင် အစောင့်နတ်ရှိတယ်လို့ ယူတဲ့ အယူ အကြွင်းအကျန် ဖြစ်ဖွယ်ရှိပါတယ်။ လုံးလုံးကြီး ဗုဒ္ဓဝါဒနှင့် မသက်ဆိုင်တာ ဖြစ်နေပါတယ်။ သို့သော်လည်း မြန်မာများက ဒီအယူကို ဖက်တွယ်လျက် ရှိဆဲပါ။

ရွှေရိုး*က သူရေးတဲ့ စာအုပ်မှာ လိပ်ပြာအကြောင်း အတော်များများ ရေးထား ပါတယ်။ (Shwe Yoe, The Burman : His Life and Notions, London 1910 pp 390-5-ရွှေရိုးရေး မြန်မာ၊ သူ့ဘာဝနှင့် အမြင်၊ လန်ဒန် ၁၉၁၀ စာ ၃၉၀ မှ ၅ အထိ)။ သူရေးတာက 'လူ့အသက်က လိပ်ပြာတွင် အောင်းသည်။ လိပ်ပြာ ပျောက်ကွယ်သွားသောအခါ သေ၏။ သေအံ့ဆဲဆဲ လူသည် ပါးစပ်ဟလိုက်သော အခါ လိပ်ပြာသည် ခန္ဓာကိုယ်ထဲမှ ထွက်၏၊ ထွက်ထွက်ချင်း လူလည်းသေသည်'။ နောက် ဆက်လက်ပြီး 'ဤအကြောင်းကြောင့်ပင် မြန်မာများက အိပ်ပျော်နေသူ တစ်ယောက်ကို နှိုးရန် အကြီးအကျယ် စိတ်မပါဖြစ်သည်။ အိပ်မောကျနေသူကို ရုတ်တရက် နှိုးလိုက်လျှင် ထိခိုက်စရာ ရှိကြောင်း အထက်ပါ လိပ်ပြာ ရှင်းလင်းချက် အရ ထင်ရှားပါသည်။ သူ့လိပ်ပြာသည် သူအိပ်ပျော်နေစဉ် ဝေးဝေးခွာကောင်း ခွာနေမည်၊ အချိန်မီ သူ့နေရာသူ ပြန်မရောက်နိုင် ဖြစ်ကောင်းဖြစ်သွားမည်။ ထိုသို့ ဖြစ်လျှင် လူက ဖျားနာတော့မည်၊ အနည်းဆုံး ခဏဖြစ်စေ မအီမသာ ဖြစ်နိုင်သည်။ ထို့ကြောင့် မြန်မာအစေခံ တစ်ယောက်အား အချိန်ရောက်လျှင် ငါ့ကို နှိုးပေးဟု ခိုင်းလျှင် အချည်းအနှီး ဖြစ်၏။ အချိန်ရောက်သော် သူလာမည်၊ သင့်ကို မကြည် မသာနှင့် ကြည့်လိမ့်မည်။ ပြီးတော့ တစ်ခုခု ပြုတ်ကျပြီး အသံမြည်စေချင်စိတ် ဖြစ်သည်။ သူကိုယ်တိုင်ကမူ အိမ်တွင်းဝင်လာသည့် သူခိုးပမာ ဆိတ်ငြိမ်စွာ သွား လာ၏။ ပြင်ပမှ တစ်ယောက်ယောက်က အနှောင့်အယှက် ပေးအောင်လည်း သူ ဆန္ဒမရှိ။ သူ့ကြောင့်တော့ မဖြစ်စေလိုပါ။ နောက်ဆုံးတော့ သခင်ကို အိပ်ရာမှ နှိုးပါ၏။ သူ နှိုးချင်သည့် အချိန်ထက် တစ်နာရီခွဲခန့် နောက်ကျနေတော့မည်။ ပြီးတော့ သူက သနားဖွယ် မြန်မာတပည့်ကို ကြိမ်းမည်။'

တချို့ မြန်မာများက အိပ်နေသူကို မနှိုးချင်ကြဘူး။ အားလုံးတော့ မဟုတ်ပါ။ အထူးသဖြင့် ချစ်ခင်သူဆိုရင် မနှိုးချင်ဘူး ဆိုသည့် ကောက်ယူချက်ကို ကျွန်တော် ထောက်ခံပါတယ်။ ကျွန်တော့် သူငယ်ချင်းတစ်ယောက် ရှိပါတယ်။ သူ့ ချစ်ဇနီးက သူအိပ်နေရင် မနှိုးဘူး၊ အလွန်ကိုအရေးကြီးလို့ မနှိုးမဖြစ်မှသာ နှိုးတယ်၊ အဲဒီအခါ မျိုးမှာလဲ ဇနီးက သူ့အနားသွား လည်ချောင်းရှင်းသံကို တတ်နိုင်သလောက် ကျယ်ကျယ် အရဲစွန့်ပြီး အသံမြည်ပေးတယ်။ သို့မဟုတ် ကုတင်ပေါ် ထိုင်ပြီး သူ့လက်ကို ညင်ညင်သာသာလေးထိ၊ နား နားကပ် အသံတိုးတိုးနှင့် နာမည်ခေါ် သူမနိုး

* ရွှေရိုးအမည်ခံသူမှာ အင်္ဂလိပ်အရာရှိကြီး Sir George Scott ဖြစ်သည်။

မချင်း လုပ်မယ်။ ဒီအမျိုးသမီးက သူ့ယောက်ျားရဲ့ ခန္ဓာနဲ့ လိပ်ပြာ ကွဲသွားမှာ အလွန် စိုးတယ်။ သို့သော်လည်း အခြားဇနီးတွေ ခင်ပွန်းတွေ အများကြီးလည်း ရှိပါသေးတယ်။ သူတို့ကတော့ အိပ်နေသော ဇနီး၊ ခင်ပွန်းကို နှိုးဖို့ နည်းနည်းလေးမှ ဝန်မလေးပါဘူး။

## ၃၊ ၁၊ ၃ အင်္ဂလိပ်ကျောင်း

ရွာကျောင်းမှာ ငါးနှစ်နေပြီးတော့ မော်လမြိုင်က အင်္ဂလိပ်ကျောင်းကို ကျွန်တော် ပြောင်းပါတယ်။ အတော်ကလေး ကျောင်းစားရိတ် ကြီးတဲ့ ဘော်ဒါ ကျောင်းပါ။ ကျွန်တော့်ကို မွေးစားတဲ့ အဒေါ်များက သူတို့ ရှိသမျှ ခြစ်ချုပ်ပြီး ကျွန်တော့်ဘဝ အစကောင်းစေဖို့ လုပ်ပေးတာပါ။ ပညာသင်ရတာ အဲဒီခေတ်က အကုန်အကျ အလွန်များပါတယ်။ သားသမီး ကောင်းစားရေးကို ရှေ့တန်းတင် ထားတဲ့ မိဘများက သူတို့ကို ဇွဲနပဲနှင့် ပညာသင်ပေးပါတယ်။ ကျွန်တော့် အဒေါ် များကလည်း အဲဒီအထဲကပါပဲ။ အခြား အကြောင်းများလည်း ရှိနိုင်ပါတယ်။ တစ် ကြောင်းကတော့ ကျွန်တော်က ပညာရှိ သုခမိန်ဖြစ်ရန် အလားအလာ ရှိလို့၊ နောက် ပိုင်းမှာ အဒေါ်များက အားရပါးရ ပြန်ပြောလေ့ ရှိပါတယ်။ ကျွန်တော် ကလေး ဘဝက စပြီး ပညာတတ် လက္ခဏာတွေ တွေ့မြင်ရတယ်လို့ ပြောပါတယ်။ ကျွန်တော်က စာအုပ်နှင့်သာ နေရလျှင် ဘယ်သူ့ကိုမှ ဒုက္ခမပေးတတ်ဘူး။ ငယ်စဉ် က စာအုပ်ကို ကျွန်တော်က ပြောင်းပြန်ကိုင်ထားပြီး ကိုယ်နည်းနဲ့ကိုယ် ဖတ် နေတယ်။ ပြီးတော့ ကျွန်တော် စာအုပ်တစ်အုပ်ပေါ် ခြေနှင့် မတော်တဆ နင်းမိရင် စာအုပ်ကို ထိုင်ရှိခိုးပါသတဲ့။ နောင်မှ ကျွန်တော် သိရတာ ရှိသေးတယ်၊ အိမ်က ကျွန်တော့်အထက် အစ်ကို အစ်မများက စာအုပ်ကို ကျွန်တော့် ခြေနှင့် တမင် ထိတယ်၊ ကျွန်တော် စာအုပ်ကို ထိုင်ရှိခိုးတာ ကြည့်ချင်လို့ လုပ်တတ်ကြသတဲ့။ မြန်မာအများက စာအုပ်ကို အထွတ်အမြတ် ထားပါတယ်။ စာအုပ်ထဲ ရေးထားတာ အားလုံးကို တိပိဋကက ဗုဒ္ဓစာပေလို့ မှတ်ယူပြီး တန်းတူ ထားကြပါတယ်။ မြန်မာ ဆိုရိုးတစ်ခုက 'စာတစ်လုံး ဘုရားတစ်ဆူ' လို့ ဆိုပါတယ်။

ကျွန်တော့်ကို အင်္ဂလိပ်ကျောင်း ပို့သည့် နောက်အကြောင်းက ကျွန်တော် ဆရာတော် ဖြစ်မယ်၊ မဟုတ်ရင် ပုဂ္ဂိုလ်ကျော် ဖြစ်မယ်ဆိုတဲ့ ဗေဒင်ဆရာ အဟော က ရှိထားသည့်အတွက်ပါ။ အဒေါ်များက ဒီအဟောကို အမျှော်ကြီး မျှော်ပြီး ဖြစ်စေ ချင်ကြတယ်။ တခြား လက်တွေ့ကျတဲ့ အကြောင်းလည်း ဒါနှင့်အတူ ရှိပါသေးတယ်။ ကျွန်တော့် ပညာရေးအတွက် ရင်းနှီးမြှုပ်နှံထားရင် ကျွန်တော် လူတစ်လုံး သူတစ်လုံး ဖြစ်လာမှာမို့ သူတို့ အသက်အရွယ်ကြီးသည့်အခါ အထောက်အပံ့ ပြန်ရမယ်လို့ တွက်တာလည်း ပါမယ်။

ဒါထားပါစို့။ အဲဒီခေတ်က မော်လမြိုင် အစိုးရက အထက်တန်းကျောင်းကို ကျွန်တော် ဝင်ပါတယ်။ မြို့က သံလွင်မြစ်ဝမှာ၊ ကျွန်တော့် ရွာနှင့် မိုင် ၄၀ ခန့် ဝေးပါတယ်။ ကိုးနှစ်သား တောသား လူရိုးကလေး မြို့တက်လာတာ စဉ်းစားကြည့် စမ်းပါ။ မြို့ကြီးက နာမည်ကြီးကျောင်း တက်ဖို့ လာခဲ့တာ။ ကျွန်တော် အိမ်ကို လွမ်းတယ်။ ပထမတော့ ဦးနှောက်တွေခြောက် စိတ်တွေရှုပ် မကြည်မသာပဲ။ သိပ်မကြာပါဘူး။ ကျွန်တော် နေတတ် ထိုင်တတ်လာပါတယ်။ နောက် မကြာပါဘူး ကျွန်တော် အစွမ်းအစနဲ့ စရိုက်လက္ခဏာတွေ ပြတော့တာပါပဲ။ တစ်နေ့ အင်္ဂလိပ် ဘာသာ သင်ချိန်မှာ ကျွန်တော် ဘဝင်မြင့်ပြီး 'လွတ်' သွားပါတယ်။ 'The cat is on the mat'ဆိုတဲ့ ဝါကျကို ကျွန်တော် ဖတ်မယ်ဆိုပြီး ထလိုက်ပါတယ်။ အကြီး အကျယ် ဒုက္ခရောက်ပါရော။ ကျွန်တော်က 'The cat is on the mat' ဖတ်လိုက်တော့ ယောကျ်ားလေး သုံးဆယ်လောက် တစ်တန်းလုံး ဝါးကနဲ ရယ်ကြပါရော၊ ကျွန်တော် က on the ကို *oñ thee* (အုန်းသီး) လို့ ဖတ်တော့ မြန်မာအုန်းသီးနှင့် တစ်သံတည်း ဖြစ်နေတာကိုး။ အဲဒီကစပြီး ကျွန်တော့် နာမည်ပြောင် 'အုန်းသီး' လို့ တွင်ပါတယ်။ နောက်မကြာမီမှာတော့ ကျွန်တော် အခြေအနေကို ပြောင်းပြန်လှန်လိုက်နိုင်ပါတယ်။ ခြောက်လကြာသည့်အခါ ကျွန်တော့်ကို စတုတ္ထတန်း တင်ပေးလို့ ပရိုမိုးရှင်း ရပါတယ်။

ထိုခေတ်က မြန်မာပြည် ပညာရေးစနစ်အရ အထက်တန်းကျောင်းမှာ အနိမ့်ဆုံးအတန်းက တတိယတန်းပါ။ အမြင့်ဆုံး အတန်းက (၁၀) တန်းပါ။ ပြင်သစ် က ဘက္ကလောရီယိုက် (baccalaureate) ကျောင်းထွက်လက်မှတ်ရ အဆင့်နှင့် တန်းတူဖြစ်ပါတယ်။

ကြိုးစားမှု၊ ဉာဏ်နှင့် ကံတို့က ကျွန်တော့်ကို အကျိုးပေးပါတယ်။ ဆရာများ စိတ်တိုင်းကျ ကျွန်တော် တစ်ဆင့်ပြီး တစ်ဆင့် တက်လာပါတယ်။ ကျွန်တော်၏ ကိုယ့်ကိုယ်ကိုယ် ယုံကြည်မှုက ဆင်ခြင်တုံတရား လက်လွတ်သည်အထိ လွန်တက် သွားသေးတယ်။ တစ်ခါက အပတ်စဉ် သင်္ချာ အစမ်းစာမေးပွဲမှာ ဖြေစရာ ၆ ပုဒ် ပေးထားပြီး ခွင့်ပြုချိန်က ၂ နာရီ။ ကျွန်တော်က တစ်နာရီ သာသာလေးနှင့် အားလုံး တွက်ပြီးသွားတယ်။ ကျွန်တော်အခန်းထဲမှ အချိန်မစေ့မီ ဆောင့်ကြွားကြွား ထွက်သွားပါတယ်။ အမှတ်စာရင်းတွေ ထွက်တော့ ကျွန်တော် သုည ရပါတယ်။ ကျွန်တော် မမေ့နိုင်သည့် သင်ခန်းစာပါပဲ။

ရှစ်တန်း ကိုးတန်း ဆယ်တန်းများမှာတော့ မြန်မာစာက လွဲလျှင် ဘာသာရပ် အားလုံး အင်္ဂလိပ်စာနှင့် သင်ရပါတယ်။ စာမေးပွဲတိုင်းမှာ ပထမ၊

ဒုတိယ၊ တတိယ နေရာတွေကို အိန္ဒိယသား ကုလားလေးတစ်ယောက်၊ တခြား မြန်မာလေး တစ်ယောက်နှင့် ကျွန်တော်တို့ပဲ အပိုင်စီးထားပါတယ်။ ကျွန်တော်တို့ထဲက တစ် ယောက်ယောက် ပထမနေရာ ရသွားတဲ့အခါ ကျန်နှစ်ယောက် မကျေမချမ်း ဖြစ်နေ မဲ့ မျက်နှာပေးကို စဉ်းစားသာ ကြည့်ပါတော့။

နောက်ဆုံး ကျောင်းပြီး တန်းဆုံး စာမေးပွဲကြီး ဖြေကြပါတယ်။ ကျွန်တော်တို့ သုံးယောက်လုံး အောင်ပါတယ်။ ကျွန်တော်က ၆ ဘာသာအနက် ၅ ဘာသာ ဂုဏ်ထူးရပြီး စကောလားရှစ် ပညာသင်ဆုလည်း ရပါတယ်။ ဒီစကောလားရှစ် မရခဲ့လျှင် ကျွန်တော် ခုချိန်ထိ ရွာအနီးတစ်ဝိုက်မှာ လယ်ထွန်နေရလိမ့်မယ်။ ကျွန်တော့် ပြိုင်ဖက်များလည်း စာမေးပွဲအမှတ်တွေ အလွန်ကောင်းကြပါတယ်။ ဒါပေမဲ့ မြန်မာလေးက စကောလားရှစ်ကို ကျွန်တော့်နည်းတူ ရသော်လည်း ဆင်းရဲလွန်းလို့ တက္ကသိုလ် ဆက်မတက်နိုင်ရှာဘူး။ ကုလားနှင့် ကျွန်တော်က ကံကောင်းပါတယ်။ ဒီလူငယ် သုံးယောက်အကြောင်းနဲ့အတူ ဘယ်ပုံဘယ်နည်း ကျွန်တော် စွဲစွဲမြဲမြဲ ကံယုံသူ ဖြစ်လာရပုံကို နောက်ပိုင်းမှာ ပြောပါမယ်။ ကျွန်တော့် ကျောင်းသားဘဝကို အဆုံးမသတ်မီ ကျောင်းပြင်ပမှ အဖြစ်အပျက် သုံးခု အကြောင်း ကျွန်တော် ပြောဦးမှ ဖြစ်မယ်။ ပြင်သစ်ဝိုင်တွေ အလျှံပယ်တိုက်ပြီး မပြောပါနှင့်တော့လို့ နှုတ်ပိတ်တောင်မှ ပြောကို ပြောရမည့် အဖြစ်သနစ်တွေပါ။

ရက်ရှည် ကျောင်းပိတ်ရက်အတွင်း ကျွန်တော်ရွာမှာပဲ နေပါတယ်။ ဆူညံ ရှုပ်ထွေးလှတဲ့ မော်လမြိုင်မှ ဝေးရာပါ။ ရွာမှာတော့ ကျွန်တော်က တစ်ရပ်တစ်ကျေး ရောက် သူစိမ်းတစ်ရံဆံ မဟုတ်ဘူး။ ရွာမှာ ကျွန်တော် ဗုဒ္ဓဘာသာမဟုတ်တဲ့ ရိုးရာ တချို့ ကြုံရပါတယ်။ ရိုးရိုးမြင် ရိုးရိုးတွေးတတ်တဲ့ ကောင်ကလေးအတွက် တအံ့တသြ ဖြစ်စရာတွေပါ။

## ၃၊ ၁၊ ၃၊ ၁ နတ်ကိုးပွဲ

ပြောခဲ့ပြီးတဲ့ အတိုင်းပါပဲ၊ မြန်မာများ မသိမသာ ယုံကြည်အားထားတဲ့ အစောင့်နတ်တွေ အများကြီး ရှိတယ်၊ စောင့်ရှောက်တယ်၊ ဖေးမတယ်လို့ ယုံကြ တယ်။ ဒီယုံကြည်မှုကို အစဉ်အဆက် အမွေရခဲ့တာဆိုတော့ နှစ်စဉ် နတ်ကို ပူဇော်ပသကြ တောင်းပန်ကြ ရပါတယ်၊ မေ့လျော့ပျက်ကွက်ခဲ့ရင် သူတို့ရော မိသားစုများပါ ပြဿနာတက်နိုင်တာ မဟုတ်လား။ သည်ပွဲမျိုး နှစ်ပွဲအကြောင်းကို မဖွဲ့မနွဲ့ဘဲနှင့် ကျွန်တော် ပြောပြပါမယ်။

(၁) ဦးရှင်ကြီး

ပထမပွဲက မွန်နတ်ကိုးပွဲ။ ပူဇော်ပသပြီး တောင်းပန် တောင်းခံတဲ့ပွဲ။ မွန်တို့ အစဉ်အဆက် နေထိုင်ရာ အောက်မြန်မာပြည်မှာ လူအများလေးစားတဲ့နတ် ဖြစ်ပါတယ်။

မြစ်ဝကျွန်းပေါ် ဒေသက မွန်လူငယ်လေးတစ်ယောက် သူ့ရွာသား အချို့နှင့်အတူ သစ်သားတိုင်လုပ်စရာ သစ်ခုတ်ဖို့ လှေနှင့် ပယ်လယ်ဖြတ်ပြီး ကျွန်းတစ်ကျွန်းကို ကူးသွားတယ်။ မိန်းမလှကျွန်းလို့ခေါ်တဲ့ ကျွန်းပေါ်ရောက်သွားတော့ သည်ကောင်လေးက ပျော့ချိချိ လူဗလံလေးဆိုတော့ သူ့ကို လှေစောင့်နဲ့ အချက်အပြုတ် ထားခဲ့ကြတယ်။ သူက အဖော်တွေကို စောင့်ရင်း လှေပေါ်မှာ ပါလာခဲ့တဲ့ စောင်းကိုတီးတယ်။ ကံဆိုးသူ ဖြစ်လေတော့ သူက စောင်းလက်စွမ်းထက်လှပြီး အလှအပ နတ်သမီးတွေကလည်း ကျွန်းပေါ်မှာ အလွန်ပေါ။ စောင်းလက်သံ ကြားတော့ နတ်သမီးနှစ်ယောက်က သူ့ကို တန်းတန်းစွဲ ဖြစ်ကြပါရော။ ဒီလိုနှင့် ဒီကောင်က နှစ်ယောက်လုံးနှင့် မေတ္တာမျှတယ်။ လှေသားတွေက သစ်ခုတ်ပြီး တိုင်တွေ လှေတစ်စင်းစာရတော့ အိမ်ပြန်ကြတယ်။ ကျွန်းကနေ နည်းနည်းလှမ်းသည့် နေရာရောက်တော့ လှေက ရုတ်တရက် ရပ်တန့်သွားတယ်။ လှေသားတွေ ဘယ်လိုလုပ်လို့မှ မရ၊ လှေက မရွေ့တော့ဘူး။ လှေသူကြီးက ရိုးရာယုံကြည်သူဖြစ်တော့ လှေပေါ်မှာ ကံဆိုးသူ ပါလာပြီဟော့လို့ ဆိုတယ်။ ဓမ္မဟောင်းကျမ်းစာထဲက ဂျိုနာနှင့် ဝေလငါး အခန်း (Jonah and the whale in Old Testament) ကို သတိရစရာပါပဲ။ လှေသူကြီးက ကံဆိုးသူ ဘယ်သူလဲ ရှာဖို့ လှေသားတွေကို မဲနှိုက်ခိုင်းတယ်။ သုံးကြိမ်ပြန်နှိုက်ကြရတယ်။ သုံးကြိမ်လုံးမှာ စောင်းသမားလေးပဲ ထပ်ပြီး ကံဆိုးမဲ ကျရှာတယ်။ သူ့ကို ရေထဲ ပစ်ချပြီး စတေးလိုက်ရတယ်။ နတ်တွေ ဆွဲထားတယ်ဆိုတဲ့ လှေကို ရွာဘက် ပြန်လော်ခဲ့ကြတယ်။

ဒီမွန်လူငယ်ကို ဦးရှင်ကြီး အမည်နဲ့ နတ်အရာတင်မြှောက်လိုက်တယ်။ ရေငံပိုင် နတ်ပေါ့။ ရှင်ကြီးဆိုတဲ့ အမည်က အရှင် ပိုင်ရှင်ကို ဆိုတယ်။ ဦးတပ်တာက တော့ ၁၉၈၀ ပတ်ဝန်းကျင်လောက်က ဟောပြောသည့် နှစ်ချိန်မှာ ကျွန်တော် တင်ပြခဲ့တဲ့အတိုင်း ရိုသေသမှုနှင့် တပ်တဲ့ စကားပါ။

နှစ်စဉ်နှစ်တိုင်း ဝါမဝင်မီဖြစ်စေ ဝါကျွတ်ပြီးဖြစ်စေ ဇွန်လတွင်း လပြည့်ရက် မှ စက်တင်ဘာလတွင်း လပြည့်ရက်များအကြားမှာ ဦးရှင်ကြီး ပသပွဲ လုပ်ကြ ရတယ်။ မနက် ၄ နာရီနှင့် ၅ နာရီကြား အရုဏ်တက်ဖြစ်ဖြစ် ညနေ ၆ နာရီမှ ၈ နာရီအတွင်း ညနေခင်း ဖြစ်ဖြစ် အိမ်ရှင်များက ဦးရှင်ကြီး ပသရတယ်။ ကျွန်တော် ပါဝင်ခဲ့တဲ့ ရိုးရိုးရှင်းရှင်း ပသပွဲကလေးအကြောင်း ပြောပါမယ်။

တစ်ညနေခင်းမှာ နတ်ပသပွဲ လုပ်ငန်းကျွမ်းတဲ့ ရွာလူကြီး (နတ်ထိန်း) တစ်ယောက် ကျွန်တော်တို့ အိမ်ရှေ့ရောက်လာပြီး ကွင်းပြင်မှာ စားပွဲတစ်လုံး ချပါတယ်။ ညနေ ၆ နာရီလောက်မှာ သူက စားပွဲပေါ် ဖယောင်းတိုင်မီးထွန်းပြီး အုန်းညွန့်တွေ လည်း စားပွဲပေါ်ချတယ်။ ပြီးတော့ နံ့သာဖြူရည် တစ်ဝက်လောက် ဖြည့်ထားတဲ့ ဖန်ခွက်ထဲ သပြေခက် စိုက်ထားတာလည်း စားပွဲပေါ်တင်တယ်။ နောက်ဖန်ခွက် တစ်ခွက်ကတော့ အုန်းရေပါတယ်။ ဒီနောက် ဇလုံထဲက ကောက်ညှင်းပေါင်း သုံးဇွန်းစီလောက်ကို ပန်းကန်ပြား ၅ ချပ်မှာ ထည့်တယ်၊ ပြီးတော့ ဆားမထည့်ဘဲ ကောက်ညှင်းပေါ် ခြစ်ထားတဲ့ အုန်းဆန် ဖြူးပါတယ်။ နောက်ဆုံး ငှက်ပျောသီး အခွံနွှာပြီး တစ်လုံးစီ ပန်းကန်တိုင်း လိုက်ထည့်တယ်။ ပစ္စည်းတွေ အားလုံးကို လင်ပန်းကြီး တစ်ချပ်မှာ ထည့်ပါတယ်။ ကောက်ညှင်းပေါင်းပေါ် အုန်းသီးခြစ်ဖြူးပြီး စားသုံးသည့်အခါ အရသာကောင်းအောင် ဆားဖြူးတာ ပရိသတ် သိကောင်း သိပါလိမ့်မယ်။ ဒီပွဲမှာတော့ ဆားမထည့်ရ။ ဦးရှင်ကြီးက ရေငံပိုင်ဖြစ်လို့။

နတ်ထိန်းလူကြီးက စားပွဲဆီသွား ရှိခိုးဦးချ၊ ဆိုနေကျ နတ်ကန်တော့ကို ရွတ်ဆိုပါတယ်။ ကန်တော့ခန်း ဆုံးတော့ နတ်ထိန်းကြီးက လင်ပန်းကို လက်နှစ်ဖက်နှင့်ယူ မြှောက်ကိုင်ထားပြီး နောက်ထပ် ရွတ်ဖတ်ပြန်တယ်။ ဒီလို ရွတ်ဆိုနေဆဲမှာ ကျွန်တော်တို့ အိမ်ရှိ လူကုန် ထွက်လာပြီး အရှင်ကြီးကို ကန်တော့ကြရတယ်။ သည့်နောက် နတ်ထိန်းကြီးက လင်ပန်းကို ပြန်ချမည့် ဆဲဆဲမှာ ကျွန်တော်တို့- ကျွန်တော်ရယ်၊ ညီအစ်ကိုတွေရယ်၊ ဝမ်းကွဲတွေရော သူငယ်ချင်းများပါ အားလုံး ဒူးတုပ်ထိုင်နေရာက ထတဲ့ပြီး စားပွဲရှိရာ လွှားကနဲ ပြေး၊ စားစရာတွေ လုယူကြစားကြ ပါတယ်။ ဒီလို လုယူစားသောက်တာကို အရှင်ကြီးက အလွန် သဘောကျတယ်လို့ လူကြီးများက ဆိုပါတယ်။ စားပွဲပေါ်က ယူလို့ရတဲ့ သူတွေကတော့ အားရပါးရ လွေးကြတာပေါ့။ မရလိုက်သူတွေကတော့ ဇလုံထဲမှာ ကျန်သည့် ကောက်ညှင်း ပေါင်း၊ ပန်းကန်ထဲက အုန်းသီးနဲ့ အဖီးမှာ ကျန်နေသည့် ငှက်ပျောသီးကို စားကြ ရတယ်။ နတ်ထိန်းဆရာကြီးကတော့ သပြေခက်ကို ကရမက်ရည်ထဲ နှစ်နှစ်ပြီး လူတကာကို လိုက်ဖျန်းပေးနေပြီး ကျန်းမာ ချမ်းသာစေကြောင်း ဆုတောင်းပေး နေပါတယ်။

ဒီပွဲကို နှစ်စဉ်လုပ်ရတဲ့ အကြောင်းက အရှင်ကြီးက ဘေးအန္တရာယ် အသွယ်သွယ်မှ ကာကွယ်စောင့်ရှောက်ပေးပြီး ဥစ္စာပစ္စည်း တိုးပွားအောင်လည်း မှိုင်းမပေး စေရန် ဖြစ်ပါတယ်။ သို့သော်လည်း မြင်တွေ့သမျှ အပြင် အခြားအကြောင်းတွေ

ရှိပါဦးမယ်။ ယခု ကျွန်တော်တို့ မွန်ပြည်နယ် မော်လမြိုင်မှာ နေထိုင်ပါတယ်။ ဒီမှာက ကျွန်တော့်အထင် တခြားမှာထက် ပိုပြီး ဦးရှင်ကြီးကို ပသကြတယ်။ ဒီမြို့မှာ ကုန်သည်တွေကလည်း ပေါတယ်၊ သူတို့က စက်လှေနှင့် ပင်လယ်ဖြတ် ကုန်တွေ သယ်ပို့ကြရတယ်။ ဦးရှင်ကြီး ပူဇော်ပသသည့် အစဉ်အလာကို ပင်လယ်နှင့် အသက်မွေးကြရသည့် ကုန်သည်တွေ၊ တံငါသည်တွေက စတင်ခဲ့တာ အများကြီး ဖြစ်နိုင်ပါတယ်။ အောက်မြန်မာပြည်မှာ ဦးရှင်ကြီးဇာတ်လမ်းကို လူအများ သိပါတယ်။

## (၂) လယ်စောင့်နတ်

နောက်တစ်ကြိမ် ကျွန်တော် ပါဝင်ခဲ့တာက လယ်စောင့်နတ် ပသပွဲပါပဲ။ နှစ်စဉ်လုပ်ရတဲ့ ဒီပွဲကိုတော့ နတ်ကွန်းမှာ ကျင်းပပါတယ်။ နတ်ကွန်းက ရွာပြင် အနီးမှာ ရှိတယ်။ ပွဲရက်က မေလ အလယ်လောက် စိုက်ပျိုးရာသီ စတင်ခါနီးနေ့ တစ်နေ့။ ပွဲလုပ်ရတဲ့ အကြောင်းက သီးနှံအထွက်ကောင်းစေရန်၊ လယ်ယာ လုပ်သား များကို ဘေးဒဏ် ရန်မာန်ခပ်သိမ်းမှ ကာကွယ်စောင့်ရှောက်ပေးရန် လယ်စောင့်နတ် ကို ပူဇော်တောင်းပန်ဖို့ပါပဲ။ ရွာလူကြီးတစ်ဦး၊ ကျွန်တော်နှင့် လယ်လုပ်သား နှစ် ယောက် ပေါင်းလေးယောက် နတ်ကွန်းကို သွားပါတယ်။ ကျွန်တော်တို့နှင့် အတူ သယ်လာတာတွေက ထမင်းတစ်ဇလုံ၊ ကြက်သားဟင်းပွဲကြီး တစ်ပွဲ၊ တောအရက် တစ်ပုလင်း၊ ငှက်ပျောသီး တစ်ဖီး၊ အုန်းသီးတစ်လုံးနှင့် ဖယောင်းတိုင်တွေပါပါတယ်။ ဒါက နတ်တင်ရာမှာ မပါမဖြစ်သည့် ပစ္စည်းတွေပါ။ နတ်ကွန်းရှေ့က စင်ပေါ် မှာ ပစ္စည်းတွေကို လူကြီးက တင်ပါတယ်။ ဖယောင်းတိုင် မီးထွန်းပါတယ်။ ပြီးတော့ ရှိခိုးကန်တော့ပြီး မြန်မာတစ်ပိုင်း ပါဠိတချို့နှင့် ဂါထာတွေ ရွတ်ပါတယ်။ ကျွန်တော် တို့တတွေကတော့ ထိုင်ပြီး နတ်ရုပ်ကို ကန်တော့နေရတယ်။ ကျွန်တော့်စိတ်ထဲမှာ နတ်ရုပ်က ကျွန်တော်တို့ကို ကရုဏာသက်ပြီး ပြုံးပြနေသလိုပဲ။ အားလုံးပြီးတော့ ကျွန်တော်တို့ နတ်ပွဲကျ အစားအစာတွေ ယူစားကြပါတယ်။

နတ်တင်ပြီး အစားအစာ (နတ်ပွဲ) ကို မြန်မာများက မရှောင်ဘူး၊ စားကြပါ တယ်။ သို့သော် ဘုရားဆွမ်းတော်တင်ကိုတော့ မစားဘူး။ ဒီအချက်က လူကြီးမင်းများ အတွက် စိတ်ဝင်စားဖွယ် ဖြစ်မှာပါ။ ဘုရားဆွမ်းတော်တင်တဲ့ အမွှန်အမြတ်ကို မစားတာက မွန်ဘုရင် မနူဟာမင်းပုံပြင်နှင့် ဆက်နွယ်နေပါတယ်။ ကံဆိုးရှာတဲ့ ဒီဘုရင်ကို ၁၀၅၇ ခုမှာ ပုဂံ အနော်ရထာမင်းက တိုက်ခိုက် ပဒိုကတ်သုံးပုံကိုယူ၊ မနူဟာကိုလည်း ပုဂံကို ဖမ်းခေါ်လာခဲ့တာ ရှေ့ပိုင်းမှာ အကျဉ်းချုံး ဖော်ပြခဲ့ပါပြီ။ မြန်မာရာဇဝင်မှာ ဆိုသည့်အတိုင်း မနူဟာ ဇာတ်လမ်းကို ဖော်ပြပါမယ်။

ရေးထားတဲ့အတိုင်း ကျွန်တော် ပြန်ပြောပါမယ်။

"မနူဟာမင်းကိုလည်း မြင်းကပါအရပ်၌ အလုပ်အကျွေးနှင့်တကွ နေရ၏။ ထိုမနူဟာမင်း အာနုဘော်သည်ကား စကားပြောသော် ခံတွင်းမှ စက်ပြောင်ပြောင်ထွက်သောဟူ၏။ အနော်ရထာမင်းလည်း မနူဟာမင်း အဖူးအမြင်လာ၍ ဦးချသောအခါ ကြက်သီးမွေးညှင်းထ၍ ထိတ်ထိတ် လန့်လန့် ရှိတော်မူချေ၏။ ရှည်လတ်သော် မနူဟာမင်း ဘုန်းတန်ခိုး အာနုဘော်ကို ညှံ့စေခြင်းငှာ မုနေလင်ပန်းနှင့် စားတော်ပြင်ပြီးသော် ဘုရားမှာ တင်စေ၍ ထိုစားတော်နှင့် မပြတ် မင်းကို ကျွေးတော်မူ၏။ မနူဟာမင်းလည်း မစုံစမ်း မဆင်ခြင် စားတော်ခေါ်လေ၏။ ရှည်လတ်သော် မိမိခံတွင်းမှ ထွက်သော စက်ရောင်သည် ကွယ်ခဲ့၏ . . . "

(ဖေမောင်တင်နှင့် ဂျီအိပ်(ချ)လု(စ) အင်္ဂလိပ် ဘာသာပြန်သော မှန်နန်း ရာဇ၀င်တော်ကြီး။ Pe Maung Tin and G.H. Luce: the Glass Palace Chronicle of the Kings of Burma, London 1923, PP 79-80)

(အထက်ပါ စာပိုဒ်မှာ မှန်နန်းရာဇ၀င်တော်ကြီးမှ မူရင်းအတိုင်းဖြစ်သည်။)

## ၃၊ ၁၊ ၃၊ ၂ ရှင်ပြုမင်္ဂလာပွဲ

ယခုပြောနေသည့် အစီအစဉ်မှာ ဆက်ပြောမည့် တတိယပွဲက ဗုဒ္ဓဘာသာ ပွဲပါ၊ ရှေ့က နတ်ပွဲများနှင့် တစ်ခြားစီပါ။ ဒီပွဲမှာ မြန်မာဗုဒ္ဓဘာသာ ယောက်ျား ကလေးကို ကိုရင် ၀တ်ပေးပါတယ်။ မြန်မာလို ရှင်ပြုပွဲလို့ ခေါ်ပါတယ်။

ဒီပွဲမှာ ကဏ္ဍနှစ်ရပ် ပါ၀င်ပါတယ်။ ပထမပိုင်းက ရှင်လောင်းလှည့်၊ မောင် ရင်လောင်းကို ပရိသတ်နှင့် စီတန်းလှည့်လည်ပွဲ။ ဒုတိယပိုင်းက မောင်ရင်လောင်းကို သင်္ကန်း၀တ် ရှင်ပြုတယ်။ ရှင်လောင်းလှည့်ပွဲက ဘုရားအလောင်း သိဒ္ဓတ္ထ တော ထွက်ခန်းကို ပြန်လည် တင်ဆက်သည့် သဘောပါပဲ။ မင်းသား မြင်းစီးပြီး နန်းတွင်းမှ ထွက်တော်မူ၊ သမာဒေ၀ နတ်ကောင်းနတ်မြတ်များ လိုက်ပါစောင့်ရှောက်၊ မာရ် နတ်က နှောင့်ယှက်၊ နောက်ဆုံး သဗ္ဗညုတ ရွှေဉာဏ်တော်ရ ဘုရားဖြစ်တဲ့ ဖြစ် တော်စဉ်ကို ပြန်ဖော်ပါတယ်။ ရှင်ပြု (ကိုရင်၀တ်) ပေးတာရဲ့ ရည်ရွယ်ချက်က ဗုဒ္ဓ၀င်မှ အခန်းတစ်ခန်းကို ဇာတ်လမ်း ပြန်ဖော်ရန် ဖြစ်ပါတယ်။ မြတ်စွာဘုရား ဇာတိ ကပိလ၀တ်ပြည် ပြန်လည်ကြွချီတော်မူသည့်အခါ အသက် ခုနစ်နှစ်သား ရှိပြီဖြစ်တဲ့ သားတော်ရာဟုလာက အမွေတောင်းပါတယ်။ မြတ်စွာဘုရားက တခြား ပေးရန် ဘာမျှမရှိ- သာသနအမွေပေးရန် ရှိတဲ့အတွက် ကိုရင်၀တ်ပေးတော်မူတယ်။

သားတော်ကို ရှင်ပြုရန် တပည့်သာဝကများကို တာဝန်လွှဲတော်မူပါတယ်။

ဒီဇာတ်လမ်းနှစ်ခုကို သတိမမူမိသူများအနေနှင့် ရှင်ပြုပွဲရဲ့ ဇာစ်မြစ်ကို တောတွေး တောင်တွေး တွေးပါတယ်။ ပထမတစ်ခုက အတော်များများ လက်ခံတဲ့ အယူ- ဒါက ဘုရားလောင်း တောထွက်တော်မူခန်းကို ပြန်ယူတာ ဆိုတဲ့ အယူ။ အဲဒါ ရှင်လောင်းလှည့်သည့် အပိုင်းအတွက်သာ မှန်ကန်ပါတယ်။ ဒုတိယ အယူကို ကွယ်လွန်သူ ဒေါက်တာထင်အောင်က တင်ပြတာပါ။ သူ့စာအုပ်မှာ ဆိုထားတာ က ရှင်ပြုပွဲသည် ရဟန်းဘောင်ဝင်သည့် ပွဲမဟုတ်၊ လူလားမြောက်ပြီးကြောင်း အမှတ် ပြုသည့်ပွဲ၊ ဤပွဲပြီးမှသာ လူငယ်ဟာ မင်းဖြစ်နိုင်ခွင့် ရှိသည်လို့ ဆိုပါတယ်။ သူက ဝေါဟာရ 'ရှင်' ကို 'မင်း' လို့ အဓိပ္ပာယ်ကောက်ထားတယ်။ ရဟန်းလို့ မယူ ပါဘူး။ သို့သော်လည်း နှစ်ပိုင်းလုံးမှာ သူမှားနေပါတယ်။ မင်းအဖြစ် ရောက်နိုင်ရန် အတွက် လူကလေးတစ်ယောက် လူလားမြောက်ပွဲ မလိုပါဘူး။ 'ရာဇလက္ခဏာ ယောက်ျားတိုင်းမှာပါတယ်' လို့ စကားပုံတစ်ခုက ဆိုပါတယ်။ ပြီးတော့ ဗုဒ္ဓဘုရား ကိုယ်တော်တိုင် သားတော်ကို ရှင်ဝတ်ပေးခဲ့ပါတယ်။ (မင်းဖြစ်နိုင်ခွင့်ရဖို့ ဝတ်ပေးတာ မဟုတ်)။ (ထင်အောင် အင်္ဂလိပ်ဘာသာနှင့်ရေး 'မြန်မာဗုဒ္ဓဘာသာမှ ရိုးရာ ယုံကြည်မှုများ' စာအုပ်- Htin Aung ; Folk Elements in Burmese Buddhism, London, 1962, pp 118-19)။ သမရိုးကျ ရှင်ပြုပွဲမှာ အပိုင်းနှစ်ပိုင်းလုံး ပါဝင်ပါတယ်။ သို့သော် ဒီထဲမှာ တခြား အလုပ်တွေ ထပ်တိုးသေးတယ်။ ဒေသရိုးရာ ထုံးတမ်းများ၊ နတ် အယူ၊ ဟိန္ဒူ ရိုးရာများ ပါဝင်တာကို နောက်ပိုင်း အကျယ်ဖွင့်ပေးပါမယ်။

ရှင်ပြုပွဲရဲ့ အဓိက ရည်ရွယ်ချက်ကတော့ ကုသိုလ်ရဖို့ပါပဲ။ သားများကို ရှင်ပြုရန်အတွက် ဗုဒ္ဓဘာသာ မိဘများက အလွန် ဆန္ဒပြင်းပြကြပါတယ်။ ကိုရင့် မိဘ ဖြစ်လာရတာ ဂုဏ်တက်တယ်လို့လည်း ထင်ကြတယ်။ ကြည်နူးမှုလည်း ရကြ တယ်။ တချို့မိဘများက သူတစ်ပါး သားသမီးကို ကိုယ့်သားသမီးပမာ ရှင်ပြုပေး တာလည်း ရှိသေးတယ်။ အလှူ့ဒကာ အလှူ့အစ်မ စီးပွားရေးပေါ် မူတည်ပြီး လူပရိသတ်နည်းနည်းနှင့် ကျဉ်းကျဉ်း လုပ်သည့် ပွဲမျိုးလည်း ရှိ၊ တခမ်းတနား စည်ကားသိုက်မြိုက်စွာ လုပ်တဲ့ပွဲကြီးလည်း ရှိပါတယ်။ မိဘ အများစုကတော့ လူ့သဘာဝအတိုင်း ဒီပွဲကို အစွမ်းကုန် လှူလိုက်ချင်ကြတယ်၊ တချို့တော့လည်း စည်းမသတ်နိုင်လို့ အလှူလွန်သွားသူတွေ မနည်းဘူး။ ခြုံကြည့်လိုက်တော့ ဒါက တစ်သက်မှ တစ်ခါလှူသည့်ပွဲ၊ ဘဝအဆက်ဆက်အတွက် ကုသိုလ်ပြုသည့် ပွဲပါ။ မိဘများကို ဘုန်းတော်ကြီးများက သွန်သင်ပါတယ်။ ကိုယ့်အိုးနှင့် ကိုယ့်ဆန် တန်ရုံ လုပ်ကြ၊ နိုင်သလောက် လှူလို့ ဆုံးမပါတယ်။ ဒီမှာ ခေတ်အမြင်ရှိသော ဆရာတော်

တစ်ပါး ဟောကြားသည့် တရားတစ်ပုဒ်ကို ဆီလျော်အောင် ပြန်ပြောပါမယ်။

တစ်ခါတုန်းက လူတစ်ယောက်မှာ သားသုံးယောက်ရှိတယ်၊ ရှင်ပြုရမည့် အရွယ်ရောက်နေပြီ။ သို့သော် သူမှာ လှူတန်းရန် ငွေမရှိ၊ မိတ်ဆွေတစ်ယောက်ကလည်း တိုက်တွန်းလေတော့ သူက မစဉ်းစား မဆင်ခြင်နိုင်တော့ဘဲ အလှူပေးပါတယ်။ ဒုက္ခရောက်ပါကရော (ကွေးတင်တော့တာပေါ့။)

မိတ်ဆွေ ။ ။ မင်းမှာ သားသုံးယောက် မွေးထားပြီး ကလေးတွေက ကြီးလာပြီ၊ ရှင်ပြုပေးရမည့် အရွယ်ရောက်နေပြီ။

အလှူရှင် ။ ။ ငါ့မှာ ပိုက်ဆံ မရှိဘူး။ နှစ်နှစ်လောက် စောင့်ပြီးမှ သင်္ကန်းဝတ်ပေးမလားလို့။

မိတ်ဆွေ ။ ။ တစ်လွဲ လျှောက်မတွေးနှင့်၊ ဘဝဆိုတာ မမြဲဘူး။ မင့်သားတွေ ရှင်မပြုရသေးမီ မင်းသေသွားရင် ကိုယ်ကျိုး မနည်းပါ လား။ ဘာမှ တွေဝေမနေနှင့်၊ အလှူလုပ်သာလုပ်။

အလှူရှင် ။ ။ အေး ဒါပေမဲ့ ငါ ကွေးတင်မှာ စိုးသကွာ။

မိတ်ဆွေ ။ ။ ကွေးမတင်ပါဘူးကွာ။ မင်းရှိတဲ့ နွားလေးကောင်ထဲက သုံးကောင် ရောင်းလိုက်စမ်း၊ အလှူကောင်းကောင်းပေးလို့ ရသပေါ့။ မင်းမှာ မိတ်ဆွေကလည်း ပေါတော့ အကူတွေလည်း လာဦးမှာ၊ အကူ ရတာက မင်းနွားဖိုး မကပေဘူး။

အလှူရှင် ။ ။ ကောင်းပြီလေ၊ ငါလှူပါမယ်။
(အလှူမဏ္ဍပ် ထိုးတယ်၊ ဖိတ်စာတွေ ဝေတယ်၊ ပွဲကို ဘယ်သူမှ မလာ၊ တစ်ကောင်တည်းကျန်တဲ့ နွားကတွန် ဝူးဝူး)

အလှူရှင် ။ ။(နွားကိုပြော) နင်က တွန်လိုက်စမ်း၊ အေး အဆွေးကလေးနှင့် တွန် သကိုးကွ၊ နင့်မှာလည်း အဖော်တွေ မရှိတော့ဘူး။ (ဒီနောက် သူက ဒေါမာန်နှင့် ပြောပြန်သည်) ငါ့မှာ နွားတစ်ကောင် ကျန်သေးတယ် ဟော့၊ ဒီတစ်ခါ လှူဖို့ ငါ့လာပြောဦးလေ၊ ခွေးမသား။

(ဂျေအေစတီးဝပ်ရေး 'မြန်မာဗန်းစကား မိတ်ဆက်' ရန်ကုန်၊ ၁၉၃၆၊ စာ ၁၂၇ ပါ 'သိမ်းသွင်းခြင်း' ကဏ္ဍမှ ဆီလျော်အောင် ဖော်ပြပါသည်။ Adapted from JA Stewart: Persuasion: Introduction to Colloquial Burmese, Rangoon, 1936, p 127)

တကယ့် ရိုးရိုးသားသား ကုသိုလ်လိုချင်စိတ် အပြင် အလှူပွဲလုပ်ရသည့် အခြား အကြောင်းများလည်း ရှိပါတယ်။ အိမ်ထောင်ဦးစီး အကြီးအကဲ၊ အသက် အရွယ် ရင့်ပြီဖြစ်တဲ့ အဘွား သို့မဟုတ် အဘိုးတို့ ဆန္ဒဖြည့်ဆည်းပေးချင်လို့ ဖြစ်မယ်။

သို့မဟုတ် လှူတန်းလိုက်တော့ အပါယ်တံခါး ပိတ်တယ်လို့ ယုံကြည်တာလည်း ဖြစ်မယ်၊ သို့မဟုတ် ရှင်မဖြစ်ခဲ့တဲ့ ကလေးဟာ နောင်မှာ လူရာမဝင် ဖြစ်သွားမှာ စိုးတာလည်း ဖြစ်နိုင်တယ်။

မောင်ရှင်လောင်းများရဲ့ အသက်က ငါးနှစ်က ဆယ့်ကိုးနှစ်အထိ ရှိနိုင်ပါတယ်။ သို့သော်လည်း ငွေကြေး အခက်အခဲကြောင့် ဖြစ်စေ၊ မိသားစု အကြီးအမှူးများ စိတ်တိုင်းကျစေဖို့ဖြစ်စေ အခြားအကန့်အသတ် မရှိခဲ့လျှင် ပုံမှန်အားဖြင့် ဆယ့်သုံးနှစ်မှ ဆယ့်ခြောက်နှစ် ကြားမှာ ရှင်ပြုလေ့ ရှိပါတယ်။ ရှေးရှေးတုန်းကလည်း ဒီအတိုင်းပဲ ဖြစ်ခဲ့ပုံ ရပါတယ်။ အထောက်အထားကို ရှေးခေတ်ဟောင်းသီချင်းတွေမှာ တွေ့နိုင်တယ်။ ရှင်လောင်းအတော်များများက ချစ်သူရည်းစားတောင် ရှိနေကြပြီ။ ဒီမှာတော့ သီချင်းနှစ်ပုဒ် ဖော်ပြပါမယ်။ နှစ်ပုဒ်လုံးက ချစ်သူ မိန်းကလေးဆိုတဲ့ သီချင်းတွေ။ ပထမတစ်ပုဒ်က သူ့ချစ်သူ ရှင်လောင်း အလှူရက် မတိုင်မီ ပုံပန်းကို ဖွဲ့ဆိုပါတယ်၊ ဒုတိယအပုဒ်ကတော့ ချစ်သူရှင်လောင်း ရှင်လိင်ပြန် (လူထွက်) ချိန်ကို မျှော်တဲ့ သီချင်းပါ။ ပထမသီချင်းက

(၁) အရှေ့ကို လျှောက်ပါလို့ အနောက်ကိုတဲ့ မျှော်လိုက်ရင်. . .
တံခွန်တိုင် ရွှေကုက္ကားနဲ့ ဘုရား. . . လေးလေး ဘုရား. . . လေးလေး
ဘုရားလေးလေး ဘုရားကိုမြင်။
စာပုလွေ မောင်မှာပိုက်ပါလို့တဲ့။ စာပုလွေ . . . စာပုလွေ
ကိုယ်မှာ ပိုက်ပါလို့။ စာပုလွေ မောင်မှာပိုက်ပါလို့။
ကျောင်းတော်ကိုတဲ့ လိုက်မယ်ပြင်။ ကျောင်းတော်ကိုတဲ့ လိုက်မယ်ပြင်။
ဘယ်စာမောင်သင်မတုံးရယ်လို့၊ ဘယ်စာ ဘယ်နှစ်ဝါ မောင် သင်
မတုံးရယ်လို့။
ဘယ်စာ မောင်သင်မတုံးရယ်လို့၊ မေလေးကို သံချိုနှောလို့ရယ်
ပြော. . . လေးလေး. . ပြော. . . လေးလေး။ ပြောခဲ့ပါဦး။
(မြန်မာမူရင်း)*
(မြန်မာမှ ခင်ဇော် အင်္ဂလိပ်ပြန်ထားသည်)

နောက်သီချင်းတစ်ပုဒ်က

(၂) **ပျိုလေးတို့အိမ်ဦး
ဆပ်သွားဖူးတဲ့ တစ်ရုံ နှစ်ရုံ
ကျေးတွေကအုံ
မအုံပါနဲ့ ကိုရွှေကျေးရယ်

* မြန်မာ့စွယ်စုံကျမ်း စိန်ဗေဒါ ခေါင်းစဉ်းအောက်မှ ယူပါသည်။
** ဘာသာပြန်သူ၏ မိသားစု မှတ်မိသည့်အတိုင်း ပြန်ပါသည်။

ပို့ုတို့မောင် ရှင်လိင်ပြန်တော့

နားပန်ဖို့လေး (မြန်မာမှုရင်း)*

(မြန်မာမှ ထင်အောင် အင်္ဂလိပ်ပြန်ထားသည်။)

ရှင်ပြုပွဲ ကျင်းပတာ အများဆုံး လ က ကောက်သိမ်းပြီးချိန် ဖြစ်တယ်။ ဥတုရာသီ ခြောက်သွေ့တယ်။ လူတွေကလည်း လယ်ထဲမှာ ရုန်းကန်ခဲ့ရာက အနားရလို့ ပျော်ချင်ရွှင်ချင်နေကြတယ်။ နောက်ပြီး သုံးစရာ ငွေရှင်ချိန်လည်း ဖြစ်ပြန်တယ်။

ယခုဆက်ပြီး ကျွန်တော့် ရှင်ပြုပွဲ အကြောင်းဆက်ပါမယ်။

လူကြီးမင်းများ အမှတ်ရပါလိမ့်မယ်။ ကျောင်းပိတ်ရက်ရှည်ကာလမှာ ကျွန်တော် ရွာပြန်နေတာ။ ကျွန်တော့် မွေးစားအမေဖြစ်တဲ့ အဒေါ်လေးယောက်က ကျွန်တော်နှင့် ညီအစ်ကိုနှစ်ယောက်ကို ရှင်ပြုပေးဖို့ ဆုံးဖြတ်ပါတယ်။ ကျောင်းပိတ်ထားတဲ့ နွေတစ်နွေ ဧပြီ-မေမှာပေါ့။ စပါးရောင်းထားလို့ ငွေလည်း အတော်ကလေး စုမိဆောင်းမိထားပြီ၊ ကျွန်တော့် အဘွားကလည်း အသက်တော်တော်ကလေး ရင့်လာပြီ၊ အဘွားကတော့ ခုနစ်ဆယ်တောင် မပြည့်သေးပါဘူး၊ နောက်လည်း ဆယ့်ငါး နှစ်မက ဆက်ပြီး အသက်ရှည်သေးတာ ခင်ဗျားတို့ တွေ့ရပါမယ်။

အလှူပေးတော့ ကျွန်တော်က ဆယ့်လေးနှစ်သား ရှိပါပြီ။ ဒါပေမဲ့ အရေးတကြီး ပြောပါရစေ၊ သီချင်းထဲက ကောင်တွေလို ကျွန်တော့်မှာ ချစ်သူ မရှိသေးပါဘူး။ ကျွန်တော့် ညီများကတော့ အသက် ဆယ့်နှစ်နှစ်နဲ့ ရှစ်နှစ်အရွယ်တွေ၊ ဒီထဲမှာ ကျွန်တော့် ဦးလေးတစ်ယောက်နဲ့ သူ့ဇနီးကလည်း သူတို့ သားဦး ဆယ့်တစ်နှစ်သားကို ကျွန်တော်တို့နှင့် ရောပြီး ရှင်ပြုမယ်လို့ ဆုံးဖြတ်ကြတယ်။

သူတို့အစီအစဉ်က တစ်စိတ်တဒေသအားဖြင့် စီးပွားရေး ခြိုးခြံမှုပါတယ်။ ဒါပေမဲ့ အဓိကကတော့ သူ့အမေ ကျွန်တော့်အဘွား စိတ်ချမ်းသာအောင် မြေးကို ထည့်တာပါ။ သို့သော်လည်း ဒီလိုလုပ်တော့ ပြဿနာတက်ပြန်တယ်။ နေရာတိုင်း မဟုတ်တောင် ကျွန်တော်တို့ ရပ်ရွာမှာ အများအယူရှိတာက ရှင်ပြုပွဲကို ရှင်လောင်း ဦးရေ စုံဂဏန်းနှင့် မလုပ်ကောင်းဘူးတဲ့၊ အဒေါ်များက ဒီကိစ္စ လွယ်လွယ်ရှင်း ပါတယ်၊ ပညာပါတယ်။ ရွာထဲက ဆယ့်သုံးနှစ်သားလေးတစ်ယောက်ကို သူ့မိဘများ ထံကတောင်း (မွေးစား) ပြီး ရှင်ပြုရာမှာ ထည့်ပေးတယ်။ အထူးပြောဖို့တောင် မလိုပါဘူး။ သူ့မိဘများကလည်း သူတို့သားကို ရှင်လောင်းထည့်လိုက်ရတာ အလွန် ကျေနပ်ပေါ့။

အလှူအတွက် နေ့ကောင်းရက်သာကို ဗေဒင်ဆရာက ရွေးပြီး ရက်သတ်ပါတယ်။ ရွာပြင်ပ ဆွေမျိုးမိတ်ဆွေများကို ဖိတ်စာရွက် ကမ်းပြီး ဖိတ်ကြားပါတယ်။ ရွာသူ ရွာသားများကိုတော့ အိမ်ရှိ လူကုန် တစ်ရွာလုံး ပါးစပ်စကားဖြင့်* ဖိတ်ကြားပါတယ်။ ကျွန်တော့် အဘွားက ရွာသူရွာသားများ ချစ်ခင်လေးစားသူပါ။ အဘွားက အလှူမှာ ပါဝင်ကူညီကြမည့်သူ အားလုံးကို တိုင်ပင်ညှိနှိုင်းပါတယ်။ ရွာလူကြီးများက ရိုးရာအစဉ်အလာကို ကျွမ်းပြီးသားပါ။ သူတို့တွေ အချင်းချင်းတိုင်ပင်ပြီး အခမ်းအနားကိစ္စကို တာဝန်ယူပါတယ်။ ကာလသားခေါင်းကလည်း သူ့အဖွဲ့သားများနှင့် ညှိပြီး အလုပ်တွေ ခွဲဝေယူပါတယ်။ သူတို့က မြစ်ရေ၊ တွင်းရေ ခပ်တဲ့ အလုပ်၊ ထင်းခွေ၊ အိုးကြီး ထမင်းချက် စသည် လုပ်ကြမယ်။ မိန်းမခေါင်းကလည်း သူ့အတွင်းလူတွေနှင့် တိုင်ပင်၊ အမျိုးသမီးများဘက်က လုပ်စရာတာ ဝန်တွေ ခွဲဝေကြ၊ သူတို့ကတော့ အချက်အပြုတ်နှင့် အလှပြင်ကိစ္စ စတာတွေပေါ့။ လူလတ်ပိုင်းကလည်း ပွဲမျိုးစုံ အတွေ့အကြုံ ကောင်းကောင်း ရှိပြီးသူတွေဆိုတော့ တစ်ဦးချင်းက နိုင်ရာနိုင်ရာ အလုပ်ကို ခွဲဝေယူကြတယ်။ သံဃာပင့်တဲ့ ကိစ္စ၊ ကပ္ပိယအလုပ်၊ အလှူအတွင်း ဧည့်ခံ စသည်က လူလတ်ပိုင်းအတွက်။ ခြောက်ဆယ့်ငါး ခုနစ်ဆယ့်ငါးနှစ်တန်း လူကြီးများလည်း ပါဝင်ကူညီကြပါတယ်။ ကွမ်းအစ်၊ ဆေးလိပ်ဗန်း အလှပြင်ဆင်၊ ဆေးလိပ် စီးကရက်ကလည်း ပွဲမှာ မပါမပြီးသည့် အရာတွေ ဖြစ်ပါတယ်။ မြန်မာဗုဒ္ဓဘာသာများရဲ့ ကိုယ်ကျိုးမဖက် အများအကျိုးသယ်ပိုးသည့် စိတ်ဓာတ်ကို အထင်ရှားဆုံး တွေ့ရတာ သည်ပွဲမျိုးပါပဲ။

အလှူမတိုင်မီ ရက်အနည်းငယ် အလိုမှာ မဏ္ဍပ်ကြီး တစ်ဆောင်ဆောက်၊ မဏ္ဍပ်ဆင်တွေ ဆင်ပါတယ်။ အလှူမတိုင်မီ ရက်များမှာ ကျွန်တော်တို့ ရှင်လောင်းများက ထိခိုက်အန္တရာယ် ဖြစ်နိုင်တာ ဘာမျှ မလုပ်ရ။ ကျိုးပဲ့မှာ အနှောင့်အယှက်ဖြစ်မှာ စိုးလို့ပါ။ သစ်ပင်မတက်ရ၊ မြစ်ထဲဆင်း ရေမကူးရ။ အလှူလုပ်မည့်အခါမှာ ရှင်လောင်းကို နတ်ဆိုးတွေက ကိုင်တတ်ပြီး အလှူမှာ မပါရအောင် ပွဲပျက်အောင် လုပ်တတ်တယ်လို့လည်း လူကြီးများက မရှင်းမလင်း ပြောပါသေးတယ်။ ဘုရားအလောင်းကို မာရ်နတ်ဖျက်သည့် ဇာတ်လမ်းကို သူတို့ မသိလိုက် မသိပါ ပြန်တွေးမိနေကြတာ ဖြစ်မယ်လို့ ကျွန်တော် ထင်ပါတယ်။

အလှူရက်ကို ချောချောမောမော ရောက်ပါပြီ။ အလှူပွဲကို ရှင်ဥပဂုတ်ပူဇော်ပွဲနှင့် စတင်ပါတယ်။ ရှင်ဥပဂုတ်က မာရ်နတ်ကို အောင်သည့် ရဟန္တာပါ။ ယခု ရှင်ပြုပွဲအကြောင်း ပြောရင်းနှင့် ရှင်ဥပဂုတ် အကြောင်းလည်း နည်းနည်း

---

* အညာမှာတော့ ရွာဟစ်တယ်လို့ သုံးပါတယ်။ အလှူပွဲသို့ ကြွတော်မူကြပါဗျို့ ဟစ်ပါတယ်။ (ဘာသာပြန်သူ)

ထည့်ပြောမှာပါ။ ပြီးတော့ ဒေသခံ နတ်များကို ပင့်ပြီး ရှင်လောင်းပြရပါတယ်။ ကျွန်တော်တို့ကို ရှေးမြန်မာနန်းတွင်း မင်းညီမင်းသားပုံ အတိုင်း ဝတ်ဆင်ထားပြီး ဒီအစီအစဉ်မှာ ကျွန်တော်တို့ ပါဝင်ကြရတယ်။ ပဏာမ အစီ အစဉ်များပြီးတော့ ရှင်လောင်းလှည့်ပါတယ်။ ကျွန်တော်တို့က မြင်းစီး၊ ပရိသတ်က စီတန်းလိုက်ပါပြီး ရွာကိုပတ်တာပါ။ သိဒ္ဓတ္ထတောထွက်ခန်း နန်းကခွာသည့် အမှတ်တရ ပြန်လုပ်တဲ့ အလုပ်ပါပဲ။ ပို့ဆောင်ရေး အမျိုးစုံ သုံးပါတယ်။ ကား၊ ဆင် စသည်ပါမယ်၊ တစ်ခါ တစ်ရံ ရှင်လောင်းကို လူတစ်ယောက်က ပခုံးထမ်း လှည့်တာလည်း ရှိပါတယ်။ တချို့တော့လည်း ပို့ဆောင်ရေး ဘာမျှမရှိလို့ ရှင်လောင်းတွေ ကိုယ်ပိုင်ခြေနှင့် လမ်းလျှောက်လှည့်ရတာ ရှိပါတယ်။[*]

ကျွန်တော်တို့ စီတန်းလှည့်လည်ပွဲ ထွက်ခဲ့ပါပြီ။ ကျွန်တော်တို့ ရှင်လောင်း တွေကို ရွှေထီးတစ်လက်စီ ဆောင်းပေးထားပါတယ်။ နတ်သားပုံ ဝတ်ဆင်ထားတဲ့ နောက်ပါတွေ ရှိသေးတယ်။ ဒါကလည်း သိဒ္ဓတ္ထမင်းသား နန်းက ခွာရာမှာ နတ်ဒေဝါများ လိုက်ပါ စောင့်ရှောက်ခဲ့သည့်အတိုင်း စီစဉ်ထားတာပါ။ ရှင်လောင်း လှည့်ကို စည်ကားစိုပြေအောင် နဲ့ဆရာနှစ်ယောက်နှင့် ဒိုးပတ်အိုးစည်သမား သုံး ယောက်ပါတဲ့ တီးဝိုင်းက မရေမတွက်နိုင်သည့် ကချေသည်များ အကနှင့် တွဲဖက်ဖျော်ဖြေ ပေးပါတယ်။ မြင်းတွေကလည်း မြင်းယဉ်တွေ၊ ကောင်းကောင်းလေး ကျင့်ပေးထားတာ၊ ခြေဟန်ကို စည်းကျကျလျှောက်၊ ခေါင်းခါ ခေါင်းညိတ် ဆိုင်းသံ နှင့် အချက်ကျကျ လုပ်ပြီး ပွဲထဲ မြင်းတွေ ပါပါတယ်။ ပထမရွာဦး ဘုန်းကြီးကျောင်း ဆီ ဦးတည်ထွက်ပါတယ်။ ဘုန်းတော်ကြီးနှင့် သံဃာများကို ရှိခိုးကန်တော့ပြီး ရွာပြန်ပါတယ်။ ဒီအပြန်မှာ အိမ်စေ့နီးပါး အိမ်ရှေ့မှာရပ် အိမ်ရှေ့ခန်း ဘုရားစင်က ဘုရား ဆင်းတုတော်ကို ရှိခိုးရပါတယ်။ အိမ်ရှင်ကလည်း သူ့ တတ်အားသမျှ တစ်မူးတစ်မတ်ကအစ ငါးဆယ် တစ်ရာအထိ ကုသိုလ်ထည့်ဝင်ပါမယ်။ ပထမနေ့ မှာ ရွာအိမ်ခြေ ၃၀၀ အနက် အိမ်ပေါင်း ၁၀၀ ခန့်ကို ဝင်ခဲ့ပါတယ်။

နောက်တစ်နေ့တော့ ရှင်လောင်းတန်း စောစော ထွက်ပါတယ်။ ရွာသား တချို့က မြင်းများနှင့် အတူ လူကိုယ်တိုင် ရှင်လောင်းများပို့ဆောင်ရေး ကူညီကြပါ တယ်။ ကုသိုလ်လိုချင်တာ အဓိကပါ။ ပျော်ချင်တာလည်း ပါမှာပါ။ ကျွန်တော့်ကို တစ်ယောက်က ထမ်းပါတယ်။ ကျွန်တော်က သူ့ ဂုတ်ခွထိုင်၊ ခြေနှစ်ဖက်က တွဲလောင်းချ၊ သူက ကျွန်တော့် လက်နှစ်ဖက် ကိုင်ထား၊ အထမ်းသမားက ဆိုင်းချက်

---

[*] အညာကျေးလက်တွင် 'ဝေါ်ခေါ်' ထမ်းစင်နှင့် ရှင်လောင်းကို ထမ်းလေ့ ရှိပါတယ်။ (ဘာသာပြန်သူ)

ညီညီ ခုန်ဆွ ခုန်ဆွနှင့် လှည့်ပတ်ပါတယ်။ ကျွန်တော်တော့ နေရတာ မသက်သာလှပါ။ သို့ပေမဲ့ ကျွန်တော်ရော သူရော ပျော်ကြပါတယ်။

တတိယနေ့ လှည့်လည်ပွဲမှာ ကျွန်တော်တို့ လှေနှင့် အနီးအနား ရွာနှစ်ရွာ လှည့်ပါတယ်။ ဒုတိယရွာ နာမည်က ကံျူဒိုး၊ ဒီရွာက ကျွန်တော်တို့ ရွာကနေ ခုနစ်မိုင်ခန့် ဝေးပါတယ်။ အဲဒီရွာမှာတော့ ကျွန်တော်တို့ကို ကားနှင့် လှည့်ပါတယ်။ ဖို့ကား၊ ချက်ပလက်နှင့် အိုဗာလင်းကား သုံးစီး။ အကနှင့် တီးဝိုင်းသားများကတော့ နောက်က အမိုးဖွင့် ကားကြီးနှင့် လိုက်လာတယ်။ နေ့ခင်း ၃နာရီခွဲလောက်မှ ရွာပြန်ရောက်ကြတယ်။ ကျွန်တော့်အတွက် အလန့်တကြား ဖြစ်စရာ ပေါ်လာတယ်။ ကျွန်တော့် ဝမ်းကွဲညီနှင့် ကျွန်တော်တို့ နှစ်ယောက်ကို အိမ်တစ်အိမ်မှာ အစောင့်ချပြီး ထိန်းသိမ်းထားတယ်။ ညီနှစ်ယောက်နှင့် ရွာက ကောင်ကလေးကိုတော့ အလှူအိမ်ကို ပြန်ပို့ပါတယ်။ ဒီလို လုပ်တာကို ရှင်လောင်း ဖွက်တယ်လို့ ခေါ်ပါတယ်။ ရွေးယူရမယ်ဆိုပြီး ပြန်ပေးဆွဲတာ ငွေတောင်းကြတာပေ့ါ။ ကျွန်တော့် အဒေါ်များက ငွေကျပ်နှစ်ဆယ် ပေးပြီး ရွေးရတယ်။ ခုခေတ်သုံး ပြင်သစ်ငွေ ၂၀ ဖရင့် လောက်ရှိမယ်။ ဒီကနေ ရယ်ရွှင်စရာ နောက်ဆက်တွဲ ဖြစ်လာသေးတယ်။

ရှင်လောင်းဖွက်သည့် အဖွဲ့သားထဲမှ လူ ၂၀ ခန့်က သူတို့ရတဲ့ ငွေထဲက နည်းနည်း သုံးလိုက်တယ်။ အရက်ဝယ်တာ။ ပြီးတော့ အရက်သောက်ရင်း ထမင်းစားကြပေ့ါ။ ကျွန်တော်တို့ အိမ်မှာပဲ။ သူတို့ထဲမှ ငါးယောက်က အရက် အလေ့အကျင့် မရှိဘူး။ မကြာပါဘူး သူတို့ မြူးတူးလာပြီး မဏ္ဍပ်ထဲမှာ ထကကြပါလေရော။ ဒီအတောအတွင်း ရွာသူကြီး ရောက်လာတယ်။ သူကြီးက မင်းတို့ အိမ်ပြန်အိပ် ကြတော့၊ နက်ဖြန် ငါ့လာတွေ့ရမယ် အမိန့်ချလိုက်တယ်။ နောက်နေ့ သူတို့ သူကြီးထံသွားတော့ သူကြီးက သူတို့ကို ပရိသတ်ရှေ့မှာ မူးကြ ရူးကြရမလားဆိုပြီး ကြိမ်းမောင်း၊ ပြီးတော့ အလှူပြီး နောက်နေ့မှာ ဘုန်းကြီးကျောင်းဝင်းပေါင်းရှင်းရမည် လို့ ဒဏ်ချလိုက်ပါတယ်။

အဲဒီ တတိယနေ့ ညနေ ၅ နာရီခန့်မှာ ခေါင်းရိတ်မင်္ဂလာ စတင်ပါတယ်။ ကျွန်တော့် အဘွားနှင့် အဖေ (အမေက ကျွန်တော် ခုနစ်နှစ်သားမှာ ဆုံးပါတယ်) အဒေါ်လေးယောက်ရယ် ဝမ်းကွဲညီ၏ မိဘများ ရွာသား ရှင်လောင်းကလေး၏ မိဘများက နှစ်ယောက် တစ်တွဲ ပိတ်ဖြူစကိုင်ပြီး ရိတ်ချလိုက်တဲ့ ဆံကို ခံကြပါတယ်။ ရှင်လောင်း သို့မဟုတ် ရဟန်းသံဃာ၏ ဆံကို အထွတ်အမြတ်အဖြစ် မြန်မာ ဗုဒ္ဓဘာသာတို့က မှတ်ယူပါတယ်။ သိဒ္ဓတ္ထမင်းသား ဆံပယ်တုန်းက မြှောက်လိုက်သည့် ဆံတော်ကို သိကြားမင်းက ဖမ်းယူပြီး နတ်ပြည်မှာ ပူဇော်ထားတာ သတိရကြ

ပါလိမ့်မယ်။ ခေါင်းရိတ်ပြီးတော့ ကျွန်တော်တို့ ကင်ပွန်းသီး တရော်ခေါင်းလျှော်ရည်နှင့် ခေါင်းလျှော်ကြရပါတယ်။ ပြီးတော့ ၀တ်ဖြူ၀တ်၊ သံဃာတော်များ ရှေ့မှာထိုင်၊ သံဃာက ဆယ်ပါးခန့် ရှိလိမ့်မယ်။ မဏ္ဍပ်တွင်းက သံဃာစင်ပေါ်မှာ ထိုင်နေတယ်။ သင်္ကန်းတောင်းအတွက် ဘုန်းကြီးများက အသင့်စောင့်နေတာပါ။ ပထမ ပရိသတ်က ရတနာသုံးပါး ကန်တော့၊ ငါးပါးသီလ ခံယူကြတယ်။ ပြီးတော့ ကျွန်တော်တို့ အလှည့်။ ကျွန်တော်တို့က ပါဠိလို သင်္ကန်းတောင်း ရွတ်ဆိုရတယ်။ အလှူမတိုင်မီက သင်္ကန်းတောင်းကို အာဂုံကျက်ထားကြရတာ။ ဆရာတော်ထံမှ သင်္ကန်းတောင်းတာပါ။ သင်္ကန်းက နှစ်ထည်၊ အပေါ်၀တ် ဧကသီနှင့် အောက်ပိုင်းအတွက် သင်းပိုင်အပြင် ခြုံထည်တစ်ထည်။ ဆရာတော်ကြီးက ရှေ့မှာ အသင့်ထားတဲ့ သင်္ကန်းချီးမြှင့်ပါတယ်။ ရွာလူကြီးများက ကူညီပြီး ကျွန်တော်တို့ကို သင်္ကန်း၀တ်ပေးပါတယ်။ ၀တ်နေကျ မဟုတ်ရင် သိပ် မလွယ်ပါဘူး။ အတော်ကလေး အဆင့်များပါတယ်။ ပြီးတာနှင့် ကျွန်တော်တို့ သံဃာတော်များနှင့် အတူ ကျောင်းကို လိုက်သွားရပါတယ်။

နောက်တစ်နေ့ နံနက်ခင်းမှာ ကျွန်တော်တို့ ကိုရင်ငါးပါး သံဃာတော်များနောက်မှ စီတန်းလိုက်လာပြီး အလှူမဏ္ဍပ်ကို ပြန် သွားရပါတယ်။ 'ပရိတ်တရားနာ အလှူရေစက်ချ' ပြီး ပွဲသိမ်းရန် ဖြစ်ပါတယ်။ ဘာသာရေး အလှူအတန်းတိုင်းမှာ သည်ပုံစံအတိုင်းပဲ ပရိတ်နာ ရေစက်ချပြီး ပွဲပြီးလေ့ ရှိပါတယ်။

ယမန်နေ့ ညနေတုန်းက အတိုင်းပဲ၊ ပရိသတ်ကြီးက ရတနာသုံးပါးရှိခိုး၊ ငါးပါးသီလခံယူ၊ နောက် မော်လမြိုင်မှ အထင်ကရ ဆရာတော်ကြီး ချီးမြှင့်ဟောကြားတော်မူသော တရား နာယူကြတယ်။ ဒီဆရာတော်ကြီးကို အလှူအတွက် တကူးတက ပင့်ဖိတ်ထားတာပါ။ ဆရာတော်ကြီးဟောသည့် တရားအချုပ်က ရှင်ပြုပွဲ အကြောင်း ရာဟုလာ ရှင်ပြုသည့် ထုံးနှင့် ယှဉ်ပြ၊ ရှင်ပြုရသည့် ကုသိုလ်အကျိုး တရားများအကြောင်း ဆရာတော်က သုတ္တန်ဒေသနာမှ ဆီလျော်ရာ ထုတ်နုတ် ဟောကြားပါတယ်။ တရားပွဲကို ရေစက်ချ အမျှဝေနှင့် ပိတ်ပါတယ်။ ရေစက်ချ အမျှဝေက လောကပါလနတ်မင်းကြီးများကို ကုသိုလ်ကောင်းမှုပြုရာမှာ သက်သေ တည်တာပါ။ ဒါကလည်း မြတ်စွာဘုရား ပလ္လင်တော်ကို မာရ်နတ်လာလုတုန်းက ဘုရားက ရှေးက ပြုခဲ့သည့် ကောင်းမှုပါရမီကို မြေဝသုန်က သက်သေအရာ တည်ပါ လော့လို့ အဓိဋ္ဌာန်ခဲ့သည့် ဗုဒ္ဓဝင်ခန်းကလာတဲ့ အစဉ်အလာပါပဲ။ ပြီးတော့ သံဃာ အားလုံးက ပါဠိဘာသာနှင့် သံပြိုင် (ပရိတ်) ရွတ်တော်မူပါတယ်။ အဓိပ္ပာယ် ကတော့ "ဘုရား၊ တရား၊ သံဃာ ရတနာသုံးပါးကို ယုံကြည်ဆည်းကပ် ပူဇော်ကြပါ ၏၊ တပည့်တော် ဘ၀အဆက်ဆက် ဒုက္ခအပေါင်းမှ

လွတ်ငြိမ်းပြီး သံသရာမှ လွတ်မြောက်၍ နိဗ္ဗာန်ကို မျက်မှောက်ပြုရပါစေခြင်း အကျိုးငှာ ဤကောင်းမှု အစုစု ကို ပြုစုလှူဒါန်းပါ၏။ အပါယ်လေးဘုံ၌ ကျင်လည်ကုန်သော သတ္တဝါအပေါင်းတို့ ကျွတ်ကြပါစေသတည်း။ မိဘ ဆွေမျိုး ဉာတကာအပေါင်းနှင့် ဤကမ္ဘာ ဤစကြ ဝဠာဝယ် နေထိုင်ကြကုန်သော သတ္တဝါအပေါင်းတို့ ဤကောင်းမှု၏ အဖို့ကို အမျှရကြပါစေသတည်း။ အိမ်စောင့်နတ်၊ ရပ်စောင့်နတ်၊ ရွာစောင့်နတ်၊ သမာဒေဝ နတ်မြတ် နတ်ကောင်း နတ်အပေါင်းနှင့် တကွ ဤမြေဝသုန်သည် ယနေ့ ပြုသမျှ ကုသိုလ်ဒါနအတွက် သက်သေအရာ၌ တည်ပါစေသတည်း' ယခုပြောသည့် ရေစက်ချ အမျှဝေပုံစံကတော့ ယခု အတော်ကလေး ပြောင်းလဲခဲ့ပါပြီ။

ရေစက်ချ ဆိုနေစဉ်မှာ မိသားစု အကြီးအကဲ ကျွန်တော့် အဘွားက ကရား နှင့် ရေကို မြေပေါ်လောင်းချနေပါတယ်။ (များသောအားဖြင့် အိမ်တွင်းမှာလုပ်သည့် ပွဲဖြစ်လျှင် ရေကို ဇလုံတစ်ခုထဲသို့ လောင်းထည့်ပါတယ်။ ) ရေစက်ချ ပြီးဆုံးတာနှင့် တစ်ပြိုင်နက် အဘွားက 'အမျှ၊ အမျှ၊ အမျှ ယူတော်မူကြပါကုန်လော့" လို့ သုံးကြိမ် သုံးခါ ဟစ်ပြီး အမျှဝေပါတယ်။ ဒီလို တစ်ခါဟစ်တိုင်းမှာ ပရိသတ်က 'သာဓု၊ သာဓု၊ သာဓု' (ကောင်းလေစွ၊ ကောင်းလေစွ၊ ကောင်းလေစွ) ဆိုပြီး သာဓုခေါ်ကြပါ တယ်။

ရှင်ပြု အလှူပွဲလည်း ပြီးပါပြီ။ နောက်ဆုံးအကြိမ် အကျွေးအမွေး ညှော်ခံပွဲ စပါ တယ်။ သံဃာတော်များနှင့် ကိုရင်များက ဆွမ်းစား။ ဘုန်းကြီးကျောင်းသားများ ကိုလည်း ကျွေးမွေးပါတယ်။ ပြီးတော့ ဘုန်းကြီး ကိုရင်ကျောင်းသားတွေက ကျောင်းကိုပြန်၊ လှူဒါန်းသည့် ပစ္စည်းဝတ္ထုများကို လှည်းနှင့်တိုက်ပြီး တစ်ပါတည်း ကျောင်းပို့ပါတယ်။ ကြွရောက်လာသည့် ညှော့ပရိသတ်အားလုံး၊ ဝေယျာဝစ္စ လုပ်ဆောင် ကူညီသူ အားလုံး ကို ကျွေးမွေးပါတယ်။ နည်းနည်း ချဲ့ကားပြောတာ ဖြစ်ချင် ဖြစ်ပါလိမ့်မယ်။ လေးရက် လုံးလုံး တစ်ရွာလုံး မီးခိုးတိတ် ဘယ်အိမ်မှာမှ ချက်ပြုတ်ရန် မလိုလို့ ဆိုပါတယ်။

ကျွန်တော့် အဒေါ်များနှင့် သူတို့ အစ်ကိုကြီး၊ ယခု ရှင်ပြုပွဲ အလှူ့ဒကာ ဒကာမများကတော့ ရှေ့ပိုင်းမှာ ဟောပြောခဲ့တဲ့ နွားရောင်းသူ အလှူ့ရှင်လို ဒုက္ခ မရောက်ကြကြောင်း ယခု ပရိသတ်ကို ပြောပါရစေ။

အလှူ အောင်ပွဲခံရန်အတွက် ကျွန်တော့်အဘွားက ရွာသူရွာသားများကို ဇာတ်ငှားပြီး ပွဲနှင့် ဖျော်ဖြေပေးပါတယ်။ တောင်ပိုင်း ဗုဒ္ဓဘာသာ နိုင်ငံတွေဖြစ်တဲ့ သီရိလင်္ကာ၊ မြန်မာ၊ ယိုးဒယားနှင့် ကမ္ဘောဒီးယားတို့မှာ အလှူဒါနပြီးတိုင်း စားသောက် ပျော်ရွှင်ပွဲ ထည့်တာက ကုသိုလ် ကောင်းမှု အထမြောက်သည့် သင်္ကေတပါပဲ။ ယနေ့ထိလည်း သည်အတိုင်းပါပဲ။ ကျွန်တော်တို့ ကိုရင်တွေကတော့ ပွဲမကြည့်ရပါ။ ရှင်ကျင့်ဝတ် (၁၀) ပါးက ပွဲကြည့်ခွင့် မပြုပါ။ ပွဲခင်း ပရိသတ်ကြီးကို အဝေးက

လှမ်းကြည့်ပြီး ဆိုင်းသံ ဗုံသံတွေကိုလည်း ကြားနေရတော့ ကျွန်တော်တို့ မရိုးမရွ ဖြစ်ပါတယ်။ ကျွန်တော်တို့ကို ဖိတ်ခေါ်နေသလိုပါပဲ။

သံဃာတော်များလိုပဲ ကျွန်တော်တို့လည်း ခြိုးခြံစွာ နေထိုင်ရပါတယ်။ မနက်တိုင်း ရွာထဲ လှည့်ဆွမ်းခံရပါတယ်။ နေ့မွန်းမတည့်မီမှာ နေ့ဆွမ်းစားပါတယ်။ တစ်နေ့လေးကြိမ် ပုတီးစိပ်ရပါတယ်။ ဆေး၊ ကျောင်း၊ သင်္ကန်း၊ ဆွမ်း ပစ္စည်းလေးပါး ရှုရတယ်။ ကျောင်းက ဥတု အန္တရာယ်မှ အကာအကွယ်မျှသာ ဖြစ်သည်။ စားသည့် ဆွမ်းက အသက်ရှင် နေထိုင်ရန်အတွက်၊ သင်္ကန်းက ကိုယ်ခန္ဓာ လုံခြုံဖို့ ဆေး ကတော့ ဖျားနာပျောက်ဖို့ တခြား ဘာအတွက်မျှ မဟုတ်လို့ ရှုမှတ်ရပါတယ်။ ကိုရင် များ ဆယ်ပါးသီလ စောင့်ရပါတယ်။ ယခင် ပြောခဲ့တဲ့ ငါးပါးသီလထက် ငါးပါး ပိုတယ်။ ကျောင်းဝင်းကျောင်းတွင်း တံမြက်လှည်း၊ ဖုန်သုတ်၊ တောက်တိုမယ်ရတွေ လုပ်ရသည့်အပြင် ညရောက်လျှင် ဘုရားရှိခိုးရပါတယ်။ ထုံးစံအတိုင်း ကျွန်တော်တို့ သင်္ကန်းခုနစ်ရက် ဝတ်ပါတယ်။ ရှစ်ရက်မြောက်နေ့မှာ ဆရာတော်နှင့် ဘုန်းကြီးများ ကို ရှိခိုးကန်တော့ပြီး ကျောင်းကခွာ ရွာပြန်၊ မူအားဖြင့် ပြောလျှင် ကျွန်တော်တို့ အရွယ်ရောက် လူလားမြောက်ပါပြီ။ ကိုရင်က လူထွက်ချင်လျှင် ကြိုက်သည့်အချိန် ထွက်လို့ ရပါတယ်။ သိမ်ဝင် ရဟန်းခံထားသည့် ရဟန်းလည်း တစ်သက်လုံး ဘုန်းကြီးကျောင်းမှာ မနေချင်တော့လျှင် လူထွက်နိုင်ပါတယ်။ သို့သော် သာမန် အားဖြင့်တော့ ထွက်ချင်တိုင်း မထွက်ပါဘူး။ ဝါတွင်းသုံးလနေပြီး အနည်းဆုံး တစ်ဝါ ရပြီးမှသာ လူထွက်ပါတယ်။

ဒီမှာ ဖြည့်စရာလေးတစ်ခု ရှိပါတယ်။ နှစ်များ မကြာမီက လန်ဒန်မှာ မြန်မာသံရုံးအရာရှိ တစ်ဦးရဲ့သား ရှင်ပြုပွဲ လုပ်ပါတယ်။ ပွဲက ရိုးရိုးလေးပါပဲ။ ဖိတ်ထားတဲ့ သူ့မိတ်ဆွေအချို့နဲ့ ဘုန်းကြီးကျောင်းမှာ လုပ်ပါတယ်။ ဆရာတော်က ကိုရင်များ အစဉ်အလာအတိုင်း လန်ဒန်မြို့အတွင်း ဆွမ်းခံထွက်ရမည့် ထုံးစံကို ကင်းလွတ်ခွင့် ပြုတော်မူပါတယ်။

# (၁) ရှင်ဥပဂုတ်

ရှေ့မှာ နိဒါန်းပျိုးခဲ့သည့်အတိုင်း ရှင်ဥပဂုတ္တခေါ် ရှင်ဥပဂုတ် အကြောင်း ပြောပါမယ်။ သူက မာရ်နတ်ကို ချွတ်သူပါ။ ရှင်ဆိုတဲ့ ဝေါဟာရက ဗုဒ္ဓဘာသာ ရဟန်း သို့မဟုတ် ရဟန္တာကို ခေါ်တာပါ။

ရှင်ဥပဂုတ်က မြင့်မိုရ်တောင်၏ တောင်ဘက်အရပ်၊ တောင်သမုဒ္ဒရာ အောက်မှာ ကြေးဝါဗိမ္မာန်ကြီးနှင့် သီတင်းသုံးတယ်လို့ ဆိုပါတယ်။ မြင့်မိုရ်တောင်က

ကျွန်းလေးကျွန်း (တိုက်ကြီးလေးတိုက်) ရဲ့ ဗဟိုမှာ တည်ရှိတယ်။ အရှေ့ကျွန်း၊ အနောက်ကျွန်း၊ မြောက်ကျွန်း၊ တောင်ကျွန်း။ တောင်ကျွန်းကိုတော့ ဇမ္ဗူဒီပလို့ ခေါ်ပါတယ်။ ကျွန်းအားလုံးထဲမှာ အမြတ်ဆုံးဖြစ်ပြီး ထေရာဝါဒီများက သူတို့နိုင်ငံများ ဒီကျွန်းမှာ တည်ရှိတယ်လို့ အခိုင်အမာ ဆိုကြပါတယ်။ ရှင်ဥပဂုတ်ပေါ်ထွန်းတာက အသောကမင်းကြီး (ဘီစီ ၂၆၉ မှ ၂၃၂) ခေတ်မှာပါ။ အသောကက အိန္ဒိယနိုင်ငံ ယခုခေတ်အခါ ဘီဟာနယ်က ပတ္တနာမြို့ဖြစ်တဲ့ ရှေးပါဋလိပုတ်နေပြည်တော်မှာ နန်းစိုက်သည့် မာဂဓတိုင်းအရှင် ဧကရာဇ်ဘုရင်ကြီးပါ။

မင်းကြီးက မြစ်ကမ်းမှာ စေတီကြီးတစ်ဆူတည်ပြီး ဗုဒ္ဓဓာတ်တော်မွေတော် များကို ဌာပနာပါတယ်။ အလားတူ စေတီတော်တွေကိုလည်း ဇမ္ဗူဒီပါကျွန်း နေရာ အနှံ့ တည်ထားစေတယ်၊ အားလုံး စေတီပေါင်း ရှစ်သောင်းလေးထောင် လှူပါတယ်။ မင်းကြီးက စေတီတော်ကို ခုနစ်နှစ်၊ ခုနစ်လ၊ ခုနစ်ရက်တိုင်တိုင် ပူဇော်ရန် ဆန္ဒ ပြင်းပြစွာ ဖြစ်တယ်လို့ ဆိုပါတယ်။ သို့သော် မင်းကြီးက မာရ်နတ် နှောက်ယှက်မှာကို တွေးပူမိပါသတဲ့။ ဒီတော့ သည်ပွဲသဘင်ကို ပင့်ဖိတ်ထားတဲ့ သံဃာတော်များကို လျှောက်ထားတယ်။ မာရ်နတ်ကို နှိမ်နင်းနိုင်မည့် ကိုယ်တော် ဘယ်သူပါလဲ ဘုရား။ သံဃာတော်တစ်ပါးက ပြန်မိန့်ကြားတယ်။ မာရ်နတ်ကို နိုင်သည့်သံဃာ အခြား တစ်ပါးမျှ မရှိ၊ ရှင်ဥပဂုတ္တ အမည်တွင်သော ရဟန္တာတစ်ပါးတော့ ရှိသည်။ အဲဒီ ရဟန္တာသည် မာရ်နတ်ကို အောင်နိုင်လိမ့်မည်လို့ မင်းကြီးကိုပြော၊ မင်းကြီးက ရဟန်းနှစ်ပါး လွှတ်ပြီး ရဟန္တာကို ပင့်ဖိတ်ခိုင်းပါတယ်။ ရှင်ဥပဂုတ္တက မကြာမီ ကြွလာပါတယ်။ ထင်ထားသည့် အတိုင်းပဲ မာရ်နတ်ပေါ်လာတယ်။ အစွမ်းကုန် ဖျက်လိုဖျက်ဆီး လုပ်ပါတော့တယ်။ ဒါပေမဲ့ ရှင်ဥပဂုတ္တက မာရ်နတ်လုပ်သမျှကို နိုင်ပါတယ်။ ပြီးတော့ မာရ်နတ်ကို ချွတ်ပြီး နတ်သားဘဝ ပြောင်းပေးတယ်။ အသောကမင်းတရားကြီးရဲ့ စေတီတော် ကြည်ညိုကန်တော့သည့် ဘုရားပွဲတော် ကာလတစ်လျှောက်လုံး မာရ်နတ်ရန်မှ တားမြစ်တော်မူတယ်။

ပါဠိ ပိဋကတ်တော်မှာတော့ ရှင်ဥပဂုတ္တကို ဖော်ပြထားခြင်း မရှိပါဘူး။ သို့သော် ရှင်ဥပဂုတ္တနှင့် မာရ်နတ်အကြောင်းကို အတော် ပြည့်ပြည့်စုံစုံ မြန်မာ မဟာရာဇဝင်တော်ကြီး အတွဲ (၁)၊ မန္တလေး ၁၉၀၈ ခုထုတ် စာ ၁၄၁-၁၄၆ မှာ ဖော်ပြပါရှိပါတယ်။ စီအိပ်(ချ) ဒူရွိုက်ဆဲ ရေးတဲ့ အရှေ့ဖျား ပညာရပ်ဆိုင်ရာ ပြင်သစ်သိပ္ပံကျောင်း၏ ၁၉၀၄ ခုထုတ် စာစောင်ကောက်နုတ်ချက်မှ 'ဥပဂုတ္တနှင့် မာရ်နတ်' စာတမ်း (CH Duroiselle : Uppagutta et Mara ; Extract du Bulletin de L'Ecole Franaise d'Extreme Orient, Janvier-Juin 1904) မှာလည်း

ပါဝင်ပါတယ်။ ထို့ပြင် ဖားသားယူဂျင်းဒင်းနစ်က စာပေနှင့် လူမှုရေးသိပ္ပံပါရဂူ (ဒေါက်တာဘွဲ့)အတွက် တင်သွင်းတဲ့ (လောကပညတ္တိကျမ်းနှင့် ရှေး ဗုဒ္ဓဘာသာ၏ စကြဝဠာအကြောင်း တွေးမြင်ပုံ) Father Eugene Denis' thesis : La **Lokkapannatti** et les idees cosmologiques du Bouddhisme ancien, Doctorat d'Etat es Letteres at Sciences Humaines, 1975 စာတမ်းကို ၁၉၇၅ ခုမှာ တင်သွင်းခဲ့ပါတယ်။ သူ့ရဲ့ ဘွဲ့ယူစာတမ်း အကျဉ်းချုပ်ကို ကျွန်တော့်ထံ ပို့ပေးခဲ့တယ်။ အဲဒီက ကောက်နုတ် ဖော်ပြရမယ်ဆိုလျှင် 'ရေအောက်တွင် ကြေးဝါနန်းဆောင်နှင့် သီတင်းသုံးတော်မူသော ရှင်ဥပဂုတ္တ၏ သမိုင်း. . . မာရ်နတ်ကို ချွတ်ပြီး အောင်မြင်စွာ ဘဝ ကူးပြောင်း (ချွတ်) ပေးနိုင်သူ ဖြစ်သည်။ ...Historic du doyen uppagutta qui vit dans un palais de bronze au fond des aux, ... qui resussit a neutraliser Mara et a le convertir ဟု ပါရှိတယ်။ ဤပုဂ္ဂိုလ်က ကျွန်တော့်ကို စာနှင့် ဆက်သွယ်ခဲ့ဖူးပြီး လူကိုယ်တိုင် တစ်ကြိမ် လာတွေ့ဖူးပါတယ်။ သို့သော် ဘွဲ့ယူကျမ်းကို တစ်ခါမျှ မမြင်တွေ့ဖူးပါ။

မာရ်နတ်ကို အောင်သည့် ရှင်ဥပဂုတ် ဘုန်းတန်ခိုးကို မြန်မာတို့က စွဲစွဲမြဲမြဲ ယုံကြည်ထားတော့ လုပ်လာကြတဲ့ အစဉ်အလာ ရိုးရာတွေ အမျိုးမျိုး ပေါ်ပေါက်လာတယ်။ ပိုပိုပြီးတော့လည်း လုပ်လာကြပါတယ်။ ဘေးဆီးရန်ကာ သဘောလုပ်တဲ့ ရိုးရာနှစ်မျိုးနှင့် ဆည်းကပ်ပူဇော်မှု သက်သက်လုပ်တဲ့ ရိုးရာတစ်ခုကို ပြောပြလျှင် လုံလောက်ပါတယ်။

ဘာသာရေးပွဲ တစ်ပွဲ လုပ်တော့မယ်ဆိုရင် မြန်မာတွေက မာရ်နတ် မဖျက်အောင် အတားအဆီးအနေနှင့် ရှင်ဥပဂုတ် ပူဇော်ပါတယ်။ ကျွန်တော်တို့ ရှင်ပြုအလှူမှာလည်း ဒါလုပ်ခဲ့တာ သတိပြုမိမှာပါ။ ကွင်းပြင်မှာ ဇာတ်ပွဲကတဲ့ အခါမှာလည်း မိုးလေကြောင့် ပွဲမပျက်ရအောင် မိုးတားဖို့နဲ့ မာရ်နတ်ရန်ကာကွယ်ဖို့ ဆရာပင့်ပြီး ရှင်ဥပဂုတ် ပူဇော်ပါတယ်။ မာရ်နတ်က ဆဋ္ဌမနတ်ဘုံက နတ်မင်းကြီး။ သိကြားမင်းရော မိုးနတ်မင်းပါ နတ်အားလုံးကသူ့ကို ကြောက်ရွံ့ကြရတယ်။ ဗုဒ္ဓသဗ္ဗညုတဉာဏ်တော် ရအံ့ဆဲဆဲ မာရ်နတ်က အပေါင်းအပါတွေနှင့် ပလ္လင်တော်လာလုတုန်းကလည်း သူတို့အားလုံး ဘာမျှ မတတ်နိုင်၊ ထွက်ပြေးခဲ့ကြတယ်။ ဇာတ်ပွဲတွေကို ခြောက်သွေ့ရာသီမှာ ကျင်းပလေ့ ရှိပါတယ်။ သို့သော်လည်း မြန်မာပြည်မှာ အခါမဟုတ် မိုးက ရွာတတ်ပါတယ်။

ရှင်ဥပဂုတ်က တောင်ပိုင်း ပင်လယ်ထဲမှ ကြေးဗိမ္ဗာန်ကြီးနှင့် သီတင်းသုံးတယ်ဆိုတဲ့ အယူကလည်း မြန်မာများ လုပ်စရာ ရိုးရာတစ်ခု ဖြစ်စေပါတယ်။

နှစ်စဉ် ဝါကျွတ်သည့် အခါတိုင်း မြစ်တွင်းမှာ 'မီးဖောင်' မျှောကြပါတယ်။ ဒါက အလွန်ထူးတဲ့ မီးတွေ ထိန်ဝါနေသည့် ပွဲခင်းပါပဲ။ ညဥ့်မှောင်တာနှင့် တပြိုင်နက် ရွာသားတွေ သို့မဟုတ် မြို့သားတွေက မြစ်လယ်ကို လှေလှော်သွားမယ်။ သူတို့က ဝါးသို့မဟုတ် ငှက်ပျောပင်စည်နှင့် ဆောက်ထားတဲ့ ဖောင်ငယ်ကလေးတွေမှာ ဆီမီး ခွက် ဖယောင်းတိုင်စသည် ထွန်းညှိထားပြီး လှေနှင့်သယ်လာ၊ ရေလယ်ရောက်တော့ ဖောင်တွေ မျှောတယ်။ ဒီဖောင်တွေ ပြင်ပုံဆင်ပုံ၊ ထည့်သည့် ပစ္စည်းတွေရော ရေမျှောသည့် အချိန်ပါ တစ်ဒေသနှင့် တစ်ဒေသ မတူကြပါဘူး။ မော်လမြိုင်ဘက် မှာတော့ ဖောင်တွေက နည်းနည်း ပိုကြီးတယ်။ ဆီမီးဖယောင်းတိုင်အပြင် ကျောင်း ဆောင်ငယ်လေး ဖြစ်စေ သပိတ်ဖြစ်စေ ပါသေးတယ်။ သပိတ်ထဲမှာ မုန့်၊ ယိုမျိုးစုံ၊ အခွံနွှာပြီး လှီးပြီး သစ်သီးဝလံ စတာတွေ ပါမယ်။ ဒါပေမဲ့ ဘာအသားမှ မပါရဘူး။ တချို့လည်း မီးဖောင်မျှောတာကို နံနက်ခင်း အရုဏ်တက်ချိန်မှာ လုပ်ကြတယ်။ မော်လမြိုင်အနီး နယ်တစ်နယ်မှာတော့ ခိုင်ခိုင်လုံလုံ သိရှိသူ ပြောပြတာက ဖောင်ကို သံဃာတော်များ ဆွမ်းခံကြွချိန် မရောက်မချင်း မမျှောသေးဘူး။ အကြမ်းအားဖြင့် နံနက် ၇ နာရီမှ ၉ နာရီကြားမှ မျှောကြပါသတဲ့။ ဒီပွဲကတော့ ရှင်ဥပဂုတ် ပူဇော် တာပါပဲ။ လှူဒါန်းသူတွေ ယုံကြည်တာက မဖြစ်နိုင်စကောင်းကို ယုံကြည်တာ၊ မျှောလိုက်သည့် မီးဖောင်များ ရေလယ်ကြော မျှောပါပြီး ရှင်ဥပဂုတ် သီတင်းသုံးရာ ပင်လယ်အောက်ဌာန ရောက်သွားမယ်တဲ့။

ယခုခေတ်မှာ ရှင်ဥပဂုတ် ပူဇော်သည့် အလေ့အထက ပညာတတ် အသိုင်း အဝန်းကိုပါ ပျံ့နှံ့လာနေကြောင်း သိရလျှင် ပရိသတ်ကြီးအတွက် စိတ်ဝင်စားဖွယ် ဖြစ်မှာပါ။

## ၃၊ ၁၊ ၃၊ ၃ နားထွင်းမင်္ဂလာ

အခွင့်အခါသင့်လျှင် ကျင်းပလေ့ရှိတဲ့ နောက်ပွဲတစ်ခုက နားထွင်းမင်္ဂလာ ပွဲ ဖြစ်ပါတယ်။ ဒါက ရှင်ပြုပွဲကို ဖြည့်စွက်သည့် ပွဲပါ။ နားပေါက်ဖောက်တယ်၊ နားထွင်းတယ်ဆိုတာ ရှေးမြန်မာမင်းများလက်ထက်က နန်းတွင်းပွဲ အစဉ်အလာပါ။ ထိုခေတ်အခါက သာမန် အရပ်သူကလေးများလည်း နားပေါက်ဖောက်ကြတယ်။ သို့သော် သူတို့အတိုင်း လိုက်လုပ်သူ အမျိုးသားက နည်းပါတယ်။ မင်းသမီးကလေး များကတော့ နားပေါက်ဖောက်-နားထွင်းတာကို အခမ်းအနားနှင့် မလုပ်မဖြစ် လုပ်ကြရပါတယ်။ ဒီလိုနားထွင်း မင်္ဂလာပွဲနှင့် နားမထွင်းရသေးတဲ့ မင်းသမီးဟာ ထိမ်းမြားလက်ထပ်ခွင့် မရှိသေးဘူးလို့ အများ လက်ခံထားပါတယ်။ ရှင်ဘုရင် အတွက်လည်း ဒီပွဲက မလုပ်မဖြစ်ပါပဲ။ ဒေါက်တာထင်အောင် အဆိုအရ နားထွင်း

မင်္ဂလာက ရာဇဘိသိက်မခံမီ မလုပ်မနေရသည့် ပွဲပါ။ မြို့ကြီးမှာ အရာရှိကြီး သို့မဟုတ် ချမ်းသာကြွယ်ဝသူများရဲ့ သမီးကလေးများ နားထွင်းမင်္ဂလာကို နန်းတွင်း အစဉ်အလာပုံစံအတိုင်း လုပ်ကြပါတယ်။ သမီးငယ်ရှိသည့် မိဘများက နားထွင်း မင်္ဂလာကို ရှင်ပြုပွဲနှင့် တွဲပြီး လုပ်လေ့ရှိတာ ထုံးစံပါပဲ။ အထူးသဖြင့် မြို့များမှာ လုပ်ကြပါတယ်။ ဒီလိုတွဲပြီး လုပ်ရတာ အကြောင်းနှစ်ရပ် ရှိပါတယ်။ ပထမက စီးပွားရေးပါ။ တစ်ပွဲစီ သီးခြားလုပ်ရတာထက် တစ်ပွဲတည်းမှာ တွဲလုပ်တော့ အကုန်အကျ သက်သာတယ်။ နောက်တစ်ကြောင်း လူ့စိတ်ဓာတ်ရေးရာ။ သားတော့ ရှင်ပြု ပွဲကြီး လုပ်ပေးပြီး သမီးတော့ ဘာမျှ မလုပ်ပေးဘဲ ချန်ထားရာ ရောက်မယ်၊ သမီး စိတ်မကောင်းဖြစ်မှာ စိုးတယ်။ ဒီပွဲက ဘာသာရေးနှင့် ဘာမျှ မပတ်သက် ပါဘူး။

ဗေဒင်ဆရာ သတ်မှတ်တဲ့ သင့်တော်ရာနေ့နှင့် အချိန်မှာ မိန်းကလေးကို နန်းဝတ်နန်းစား ဆင်ပေးထားပြီး အမျိုးသမီးကြီး နှစ်ယောက်က ဝန်းရံလျက် ဖုံကြီး ပေါ်မှာ ထိုင်ခိုင်းထားတယ်။ ဘိသိက်ဆရာက မင်္ဂလာအချိန် ကျရောက်ကြောင်း ကြေငြာတဲ့အခါ နားဖောက်ပညာသည်က မိန်းကလေးအနီးကပ်၊ ရွှေအပ်ကို နားတစ်ဖက်စီမှာ ဖောက်သွင်း၊ လက်နှစ်ချောင်းနှင့် ထိန်းထား၊ ပေါက်ပြီ ဆိုလျှင် ရွှေအပ်ကို ကွင်းကွင်းပြီး အနားပေါက်မှာ သည်အတိုင်း ချန်ထားတယ်။ မိန်းကလေး က နာတော့ တွန့်မယ်၊ အော်မယ်။ ဒီခေတ်မှာ ဆရာဝန်က ထုံဆေးပေးပြီးမှ နားထွင်းပါတယ်။ အနာပျောက်ဖို့ ရက်နည်းနည်း ကြာမယ်။ အဲဒီတော့မှ နားသံသီး ဖြစ်ဖြစ် နားကပ်ဖြစ်ဖြစ် ပန်ပေးလို့ ရပါတယ်။

## ၃၊ ၁၊ ၄ တက္ကသိုလ်

လူလားမြောက်ချိန်ကို သင်္ကေတပြုတဲ့ ရှင်ပြုပွဲအကြောင်း ပြီးပြီဆိုတော့ ယုတ္တိဗေဒအရ ကျွန်တော် ပြောလိမ့်မယ်လို့ မျှော်လင့်စရာတွေက ကဲ လူ့စရိုက် ပုံသွင်းနေတဲ့ အသက်အရွယ် လွန်ခဲ့ပြီ၊ လူပျိုပေါက် အရွယ်လည်း ဖြတ်သန်းခဲ့ပြီ ဆိုတော့ ကျွန်တော် အိမ်ထောင်ရက်သား ကျတယ်၊ မိသားစု ဘဝထဲကို ရောက်လာ ပါပြီပေါ့။ သို့သော်လည်း ဒီလို ပြောလို့ မရပါဘူး။ ဘာကြောင့်လဲဆိုတော့ အဲဒီအချိန် မှာ ကျွန်တော် ဆယ့်လေးနှစ်သား သာသာပဲ ရှိပါသေးတယ်။ နောက်ထပ် ကျောင်း နှစ်နှစ်ထပ်နေပြီး ဘဝနောက်တစ်ဆင့်ကတော့ ရန်ကုန်တက္ကသိုလ်မှာ ဘွဲ့ကြို ကျောင်းသားဘဝပါပဲ။ တစ်ခုသော ကာလတုန်းက ကျွန်တော် ဘယ်တော့မှ ရောက်မည် မထင်ခဲ့တဲ့ တက္ကသိုလ်ပါ။

ကျွန်တော်တို့ သုံးယောက် ဝင်ဖြေခဲ့ပြီး အောင်လာခဲ့သည့် ကျောင်းထွက်

စာမေးပွဲကို ပရိသတ်ကြီး သတိရချင် ရပါလိမ့်မယ်။ စာမေးပွဲ အောင်စာရင်းမထွက်မီမှာ ကျွန်တော်က လယ်ဆင်း အလုပ်လုပ်နေပါပြီ။ တစ်နေ့တော့ ကျွန်တော့် အဒေါ်များက ကျွန်တော့်ကို တစ်နေရာခေါ်ပြီး အတွင်းစကား ပြောပါတယ်။ သူတို့စီးပွားရေး ကျနေတယ်၊ ကျွန်တော် တက္ကသိုလ် ကျောင်းတက်နိုင်ဖို့ အလားအလာ သိပ်မကောင်းလှဘူးပေါ့။ ဒါပေမဲ့ အဒေါ်များက ထပ်ပြောပါတယ်။ နောက်နှစ်လောက်ဆိုရင်တော့ အခြေအနေ ကောင်းလာနိုင်တယ်။ အဲဒီအချိန်ကလည်း တစ်ကမ္ဘာလုံး စီးပွားရေး ကျဆင်းတဲ့အခါ မိသားစုတိုင်းရဲ့ ဝင်ငွေကို ထိခိုက်နေပြီ။ ဒီအခြေအနေက ကျွန်တော့်အတွက် အိပ်မက်ဆိုးကြီး မက်ရသလိုပါပဲ၊ ကျွန်တော် မက်တဲ့ အိပ်မက်လှလှလေးတွေက ပြီးပြီပေါ့။

သို့သော်လည်း ကံက ကျွန်တော့်ဘက်က ရှိနေတယ်။ ပြောခဲ့တဲ့ အတိုင်းပဲ အောင်စာရင်းထွက်တော့ ကျွန်တော်က ခြောက်ဘာသာအနက် ငါးဘာသာ ဂုဏ်ထူး နှင့် အောင်တယ်၊ ရန်ကုန်တက္ကသိုလ်မှာ ပညာဆက်သင်နိုင်ရန် စကောလား ရှစ်လည်း ရတယ်။ စကောလားရှစ်က တစ်လ နှစ်ဆယ်ကျပ်၊ ယခုခေတ် ငွေလဲလှယ် နှုန်းနဲ့ သုံးဒေါ်လာ ကျော်ကျော်လေး၊ ပြင်သစ်ငွေနဲ့တော့ နှစ်ဆယ့်ငါးဖရန့်လောက် ရှိပါတယ်။ ဒီငွေနှင့်ဆိုလျှင် တက္ကသိုလ်က ကျောင်းဆောင်မှာ ဘော်ဒါခ ကာမိပါ တယ်။ ဒီငွေပမာဏက အဲဒီခေတ်က ကျွန်တော်တို့ တစ်မိသားစုလုံး ကောင်းကောင်း မွန်မွန် နေနိုင်လောက်တဲ့ တစ်လအသုံးစရိတ်ပါ။ ကျွန်တော့် အဒေါ်များက ထောက်ပံ့စရာ လိုတာက ကျောင်းလခနှင့် ကျွန်တော့်မုန့်ဖိုး တစ်လ ဖရန့်နှစ်ဆယ်ခန့် (ဆယ့်ခုနစ်ကျပ် ဆယ့်ရှစ်ကျပ်ခန့်) ဖြစ်ပါတယ်။ ခုလို အခွင့်အလမ်း ဖော်ပေးတဲ့ အတွက် ကိုယ့်ကံကိုပဲ ကျွန်တော် အတော်ကျေးဇူးတင်ရပါတယ်။

ကျွန်တော်ရဲ့ ပညာရေးဘဝကိုတော့ ပုံဖော်ငြိမ်းကွက်အဖြစ်သာ တင်ပြပါရစေ။ နောက်မှ မြန်မာဗုဒ္ဓဘာသာရဲ့ ယုံကြည်မှုနှင့် ရိုးရာလုပ်ထုံးတွေကို အသားအဖြစ် ငြိမ်းအဆင်မှာ ဖြည့်ပါမယ်။

ကျွန်တော် ဘွဲ့ကြိုကျောင်းသားအဖြစ် ပထမနှစ်ကတော့ စိတ်ပျက်စရာပါပဲ။ ဒါလျှော့လျှော့ပေါ့ပေါ့ ပြောတာပါ။ ကျွန်တော် ကျောင်းတုန်းကနဲ့ အောင်စာရင်း ထွက်ပြီး ရက်ပိုင်းမှာ ထောင်ထောင်နှင့် မြောက်နေတဲ့ ကျွန်တော့် မာန်တွေ လေလွှာ ပါးပါးထဲ လွင့်မျော ပျောက်ကွယ်ကုန်ပါပြီ။ ကျောင်းနှင့် တက္ကသိုလ်ကြားက အဆင့် ကွာခြားမှုက အလွန်ကျယ်သကိုး။ ဒါထက် ရန်ကုန် တက္ကသိုလ်က အဲဒီ အချိန်မှာ မြန်မာပြည်ရှိ တစ်ခုတည်းသော တက္ကသိုလ်၊ ပညာရေးထိပ်ထိပ်ကြဲတို့သာ ရှိရမည့် နေရာ၊ မြန်မာ့ ပညာတတ် မလိုင်လွှာတို့

အတွက် ထားသည့်နေရာ ဖြစ်နေတယ်။ ကျွန်တော် အကြိမ်ကြိမ် အောင်မြင်ပေါက်မြောက်ခဲ့ပြီး ဒီတစ်ခါတော့ ကွဲပါပြီ။

သို့သော်လည်း မကြာမီမှာ ကျွန်တော် လိုက်နိုင်လာပါတယ်။ ခြေလှမ်းမှန်မှန် နှင့် ဆက်နိုင်လာပါတယ်။ နှစ်နှစ် သင်ရမည့် သင်ရိုးအတွက် ကျွန်တော့်ကို တစ်နှစ်နှင့် အပြီးလုပ်ခွင့် ပေးပါတယ်။ သို့သော်လည်း ဒီအခွင့်အရေးကို ကျွန်တော် လက်လွှတ်လိုက်ရတယ်။ အကြောင်းအရင်း နောက်မှ ပြောပါမယ်။ တက္ကသိုလ်ပညာကြောင့် ကျွန်တော် အမြင်ကျယ်လာပါတယ်။ ဒါက ကျွန်တော်နှင့် ဗြိတိသျှ ပါမောက္ခများ ထိတွေ့ဆက်ဆံရတာရယ်၊ အခြားကျောင်းသားများနှင့် ထိတွေ့ရတာလည်း ပါပါတယ်၊ အဆင့်မြင့် အင်္ဂလိပ် စာအုပ်များ ဖတ်ရသည့် အကျိုးလည်း ပါဝင်ပါတယ်။ တဖြည်းဖြည်းနှင့် ကျွန်တော်က ဝေဖန်ရေး ပိုလုပ်တတ်လာတယ်။ ကိုယ်တိုင် လွတ်လွတ်လပ်လပ် ဆုံးဖြတ်တာလည်း လုပ်လာပါတယ်။ သို့သော် ကျွန်တော် မြန်မာဗုဒ္ဓဘာသာအဖြစ်ပဲ ဆက်ရှိနေပါမယ်။

ဒုတိယနှစ် အကုန်မှာ ကျွန်တော် အရေးကြီးတဲ့ စာမေးပွဲ အောင်ပါတယ်။ ဒီစာမေးပွဲမှာ သုံးဆယ်မှ လေးဆယ်ရာခိုင်နှုန်းလောက်သာ အောင်ပါတယ်။ ဆန်နှင့် ဖွဲ ခွဲထုတ်သည့် စာမေးပွဲပါ။ ကျောင်းတုန်းက ကျွန်တော့် ပြိုင်ဘက် ကုလားကျောင်းသား ကျပါတယ်။ ဒါလည်း သူညံ့လို့ မဟုတ်၊ စာမကြိုးစားလို့လည်း မဟုတ်၊ သူ့ကံပါ။ သူ့အပေါ် အလွန်သြဇာပေးသည့် သူ့ဖခင်က သားကို ဓာတုဗေဒ၊ ရူပဗေဒနှင့် ဇီဝဗေဒ ယူခိုင်းတယ်။ သူ့သား သန်တာက အင်္ဂလိပ်စာနှင့် သမိုင်း။ သူ့အဖေက သားကို ဆရာဝန် ဖြစ်စေချင်တာ။ သူ့ရဲ့ ဆိုးလှသည့် ကုသိုလ်ကံကြောင့် ကျွန်တော့်မှာ အတွေးတွေ တသီကြီး စတင်လာပါတော့တယ်။ လူငယ်သုံးယောက် ပညာ အရည်အချင်း အဆင့်တူကြတယ်၊ တစ်ကျောင်းတည်း အတူတက်ပြီး အခွင့်အလမ်း အတူတူ ရကြတယ်။ သို့ပေမဲ့ ဒီထဲက တစ်ယောက်ဖြစ်တဲ့ မြန်မာကောင်လေးက တက္ကသိုလ်တက်ရန် ငွေကြေးချို့တဲ့လို့ ကျောင်းဆက်မတက်နိုင်ဘဲ ကျန်ရစ်ရှာတယ်။ ယခု ကုလားကျောင်းသားကတော့ သူ မနှစ်သက်တဲ့ ဘာသာတွေ အတင်း ယူခိုင်းတာ ခံရပြီး ကျောင်းထွက်ရပြန်ပြီ။ ဘာကြောင့်ပါလိမ့်၊ ဒီမေးခွန်းကို ဖြေရန် ကျွန်တော် စဉ်းစားပါတယ်၊ ရလာတဲ့ အဖြေကတော့ ဗုဒ္ဓအဆုံးအမပါပဲ။ ဟောကြားသွန်သင်ပုံက ဒီလို။ ဘဝအောင်မြင်ရေးအတွက် ပုဂ္ဂိုလ်တစ်ဦးမှာ သုံးခုလိုအပ်တယ် ကံ၊ ဉာဏ်၊ ဝိရိယ။ ဒီနေရာမှာ ကံ (ကမ္မ) ကို အတိတ်ဘဝတွေကရော မျက်မှောက်ဘဝမှာပါ မိမိ လုပ်ခဲ့သမျှ အလုပ်အားလုံး အကျုံးဝင်တဲ့ အဓိပ္ပာယ်နှင့် သုံးထားပါတယ်။ ဒီအဆုံးအမကြောင့် ကျွန်တော် အဖြေရတာက သူတို့နှစ်ယောက် မအောင်

မမြင် ဖြစ်ကြရတာဟာ ကံကြောင့်ပဲ ဖြစ်တယ်။ ဒီကစတင်ပြီး ကျွန်တော် ကံတရားကို ယုံကြည်လာတာ ကျွန်တော် တက္ကသိုလ်အထိ၊ တတိယနှစ်အစမှာ ထပ်ပြီး ဒီယုံကြည်ချက် ခိုင်မာဖို့ ဖြစ်လာပြန်တယ်။ အဒေါ်များက တောင်းပန်လာလို့ ကျွန်တော့်မှာ အရေးတကြီး ဆုံးဖြတ်စရာ ကိစ္စပေါ်လာတယ်။ လူကြီးမင်းများ ပြန်သတိရပါမယ်၊ ကျွန်တော်က စကောလားရှစ် ကျောင်းသားပါ။ စကောလားရှစ် ကျောင်းသားတိုင်း တတိယနှစ်စက စတင်ပြီး ဂုဏ်ထူးတန်း ဘွဲ့သင်တန်း တက်ရမည့် စည်းမျဉ်း ရှိတယ်။ ရိုးရိုးဘွဲ့ယူရင် နောက်ထပ် နှစ်နှစ်နှင့် ပြီးမယ်။ ဂုဏ်ထူးတန်း တက်လျှင် ပြီးဖို့ သုံးနှစ်ကြာမယ်။ အဒေါ်များက သူတို့ ငွေရေး ကြေးရေး ချင့်ချိန်ရတယ်။ ကျွန်တော် ဂုဏ်ထူးတန်းတက်နေလျှင် သူတို့ ကျောင်းစရိတ် ထောက်ပံ့ရတာ တစ်နှစ် ပိုကြာတော့မယ်။ ဒါကြောင့် အဒေါ်များက ကျွန်တော့်ကို အကြံပေးပါတယ်။ စကောလားရှစ်အစား စတိုင်ပင် (ထောက်ပံ့ကြေး) လျှောက်လိုက်ပါလားပေါ့။ အဒေါ်များ ဆန္ဒ ကျွန်တော် လက်ခံပါတယ်။ ဆင်းရဲတဲ့ ကျောင်းသားများအတွက် ထောက်ပံ့ရန် ရည်ရွယ်သတ်မှတ်တဲ့ စတိုင်ပင်ကို ကျွန်တော် လျှောက်လိုက်ပါတယ်။ စတိုင်ပင်က စကောလားရှစ်ထက် ငွေဆယ့်ငါးကျပ် ပိုပါတယ်။ သို့သော် လူက ဆန္ဒပြုတယ်၊ ဘုရားသခင်က သင့်သလို စီမံတယ်။

လျှောက်လွှာတင်ပြီး မကြာမီ စတိုင်ပင်ဘုတ်အဖွဲ့က ကျွန်တော့်ကို ခေါ်ယူပြီး လူတွေ့ စစ်မေးပါတယ်။ အဖွဲ့ ဥက္ကဋ္ဌက ပါမောက္ခ ဂျီအိပ်(ချ)လု(စ)၊ ကျွန်တော် သူနှင့် မျက်နှာချင်းဆိုင် တွေ့ရပါလေရော။ သူက ကျွန်တော့် လျှောက်လွှာကိုကြည့် လုံးချေလိုက်ပြီး စက္ကူဟောင်းပုံးထဲ ထည့်လိုက်တယ်။ ဒီနောက် သူက ကျွန်တော့်ကို စေ့စေ့ကြီး ကြည့်ပြီး ဘာမျှ မပြောဘဲ ကျောက်ရုပ်ကြီးလို ထိုင်နေတယ်။ နှစ်မိနစ်လောက်ကြာလိမ့်မယ် ထင်တယ်။ ကျွန်တော့် စိတ်ထဲမှာတော့ နှစ်နာရီလောက် ကြာတယ်။ ရုတ်တရက် ဘုတ်အဖွဲ့ဝင်တစ်ဦးက ကျွန်တော် ဒုက္ခသက်သာအောင် သွားနိုင်ပြီလို့ ဝင်ပြောပါတယ်။ ဒီဆရာကြီးက ကျွန်တော်နေတဲ့ ကျောင်းဆောင်က ဒုတိယ အဆောင်မှူး ဖြစ်နေတယ်။ ကျွန်တော်လည်း တံခါးပေါက်ရှိရာကို အမြန်ဆုံးလှမ်းထွက်တော့တာပဲ။ အဲဒီနေ့ ညခင်းမှာပဲ ဒုတိယ အဆောင်မှူး ကျွန်တော့်ကို လာတွေ့တယ်။ ရိုးရိုးဘွဲ့ပဲ ယူပါတော့မယ်ဆိုလို့ ကျွန်တော့်ကို ဆရာလု (စ) အလွန်စိတ်ဆိုးနေတယ်၊ သူက ကျွန်တော့်ကို သမိုင်း သို့မဟုတ် မြန်မာစာနဲ့ ဂုဏ်ထူးတန်းဘွဲ့ပဲ ယူစေချင်တာလို့ ဒု-အဆောင်မှူးက ပြောပါတယ်။ အဲဒီအချိန်မှာ ကျွန်တော်က ဆရာလု(စ) သင်တဲ့ အရှေ့ဖျား ဒေသသမိုင်းနှင့် မြန်မာကျောက်စာ အတန်းတွေ တက်နေတယ်။ ဆရာကြီးက ကျွန်တော့်အပေါ် အမျှော်လင့်ကြီး

မျှော်လင့်ထားတာ ကျွန်တော် သိပါတယ်။ သူက ကျွန်တော့်ကို တရုတ်ဘာသာ တောင် အပို သင်ပေးမယ်လို့ ဆိုထားပါတယ်။ ဒါနဲ့ပဲ ကျွန်တော် မြန်မာစာ ဂုဏ်ထူးတန်းဘွဲ့ယူရန် ဆုံးဖြတ်လိုက်ရပါတယ်။ အဲဒီအချိန်မှာ ပါမောက္ခ လု (စ) က ခေတ္တကောလိပ်ကျောင်းအုပ်ကြီးလည်း ဖြစ်နေတော့ ကျွန်တော့်ကို ပြောပါတယ်။ ကျွန်တော် တစ်နှစ် ပိုကြာမှာ ဖြစ်တဲ့အတွက် အဲဒီရက်က စပြီး ကျွန်တော် ကျောင်းလခ ပေးရန် မလိုဘူးတဲ့။ ကျွန်တော့် အဒေါ်များထံ စာရေးပြီး ကျိုးကြောင်း ရှင်းပြပါတယ်။ ကျွန်တော် တစ်နှစ် ပိုနေရမည့် ကိစ္စကို အဒေါ်များက အင်တင်တင် မလုပ် မကန့်ကွက်ကြတော့ပါဘူး။ ဒီဖြစ်ရပ်တွေက ကျွန်တော့် ဘဝလမ်းကြောင်းကို ပြောင်းပစ်လိုက်တာ ဇာတ်လမ်း ပေါ်လွင်လာပါလိမ့်မယ်။

ကျွန်တော် ဆရာဘဝနှင့် အသက်မွေးရန် ဆုံးဖြတ်လိုက်တာကလည်း တတိယနှစ်အတွင်းမှာပဲ ဖြစ်ပါတယ်။ ဗုဒ္ဓဘာသာကို အလေးအနက် ခံယူထားတဲ့ မြန်မာတစ်ယောက်အတွက် စာသင်တဲ့ ဆရာနဲ့ ဆေးဆရာအလုပ်က အမွန်မြတ်ဆုံး သမာအာဇီဝ အဖြစ်ဆုံး အလုပ်နှစ်ခု ဖြစ်ပါတယ်။ ကျွန်တော်နှင့် ဆေးပညာ မအပ်စပ်ကြောင်း ကျွန်တော် သိပါတယ်။ သွေးမြင်လျှင် ကျွန်တော်က ရွံ့ပါတယ် တွန့်ပါတယ်။ ကျွန်တော့် အဒေါ်များကတော့ ကျွန်တော့်ကို အိုင်စီအက်(စ်) လို့ ခေါ်တဲ့ အိန္ဒိယနိုင်ငံအုပ်ချုပ်ရေး ပဋိညာဉ်ခံ ဝန်ထမ်း ဖြစ်စေချင်ကြတယ်။ အိုင်စီအက် (စ်) ကို "မိုးပေါ်ကျမင်းမှုထမ်း" လို့ လူတွေက နားလည်ထားတယ်။ ဒီအတန်းဝင် အရာရှိများက ထိပ်တန်းလခ ရကြတယ်၊ လူအများကလည်း ရိုသေခဲ့ညားရတယ်။ အဒေါ်များကတော့ ဗေဒင်ဆရာက ကျွန်တော့်ကို ဆရာတော် သော်လည်းကောင်း၊ မင်းစိုးရာဇာသော်လည်းကောင်း ဖြစ်မည်လို့ ဟောထားတာကိုပဲ စွဲနေတာ ဖြစ်နိုင်တယ်။ သို့မဟုတ် လူ့သဘာဝအတိုင်း သူတို့ ဆန္ဒဖြစ်တာလည်း ဖြစ်နိုင်ပါတယ်။ အိုင်စီအက်(စ်) ရဲ့ အဒေါ်ဖြစ်လာရင် သူတို့ သားသားနားနား အိမ်ကြီးနှင့် နေနိုင်မယ်၊ ကားသမားမောင်းတဲ့ ဇိမ်ခံကားကြီး စီးရမယ်၊ ခိုင်းစရာ အစေခံတွေကလည်း ကြိုက်သလိုခိုင်းရန် အသင့် ရှိနေမယ်လို့ တွေးမိတော့ ကျွန်တော့်ကို ဖြစ်စေချင်မှာပေါ့။ ကျွန်တော်က အဒေါ်များကို ကျိုးသင့် ကြောင်းသင့် ရှင်းပြရန် ကြိုးစားပါသေးတယ်၊ ငြင်းခုံကြရတယ်။ ပြဿနာက အတွေးအမြင် မတူကြတာပါပဲ။ ပညာ အဆင့် ကွာခြားတာရယ် အသက်အရွယ် မတူတာရယ် ကွာခြားမှု ရှိနေတော့ လက်ခံတဲ့ စံချိန်စံညွှန်းတွေ တန်ဖိုးတွေက မတူဖြစ်နေတာပါ။ သူတို့ကို အစဉ်ရိုသေ လေးစားတယ်။ သူတို့ ကျေးဇူးတရားကလည်း ကျွန်တော့် အပေါ် ကြီးမားလှတယ် ဆိုတော့ ကျွန်တော်က အဒေါ်များအပေါ် ရိုင်းပြသည့်

လက္ခဏာ မပြပါဘူး၊ ကျွန်တော်က သူတို့ကို 'တုံးလွန်းသူ' သို့မဟုတ် အံမဝင် သူတွေလို့ မဆိုရဲပါဘူး။ ယခု ရင်ဆိုင်ရတဲ့ ပြဿနာက အဆုံးမှာ နှစ်ဦးနှစ်ဘက် ပြေပြေလည်လည် ဖြစ်သွားတာ နောက်ပိုင်းမှာ ပေါ်လာပါလိမ့်မယ်။

ကျွန်တော် မြန်မာစာ ဂုဏ်ထူးတန်း လိုက်မိတာကို ကျေနပ် ပျော်ရွှင်နေပါတယ်။ ဒီသင်တန်းကြောင့် ကျွန်တော် မကြုံဘူးသေးတဲ့ စိတ်ဝင်စားဖွယ် ကြည်နူးဖွယ် မြန်မာဘာသာစာပေနှင့် ယဉ်ကျေးမှုနယ်ထဲ ရောက်လာရတယ်။ ပါမောက္ခ လု(စ)က ပျူ ၊ ရှေးမြန်မာနှင့် ရှေးဟောင်းနှင့် ခေတ်လယ် မွန်ကျောက်စာများ ဘာသာရပ် သင်ကြားပါတယ်။ ဘာသာစကား ဖွံ့စည်းပုံနှင့် တိုးတက် ပြောင်းလဲမှု လေ့လာတဲ့ Philology နဲ့ အသံထွက် လေ့လာတဲ့ သဒ္ဒဗေဒ (Phonetics) ကို ဆရာကြီး ဖေမောင်တင်က ပို့ချပါတယ်။ မြန်မာရှေးဟောင်း စာပေကိုတော့ မြန်မာကထိကများ သင်ပါတယ်။ နောက်ဆုံး တန်းဆုံးနှစ် ရောက်လာပါတယ်။ စာမေးပွဲကြီးက ၁၉၃၆ ခု မတ်လမှာ ကျင်းပရန် ဖြစ်ပါတယ်။ ဒါပေမဲ့ ဖေဖော်ဝါရီ ၂၅ ရက်နေ့မှာ တက္ကသိုလ် ကျောင်းသားခေါင်းဆောင်များက သပိတ်မှောက်ရန် စည်းရုံးပါတယ်။ ကျောင်းသား ၇၀၀ ကျော် တစ်ကျောင်းလုံးရဲ့ ထက်ဝက်ကျော်က သူတို့ စည်းရုံးရာ ပါကြတယ်။ အဲဒီထဲ ကျွန်တော်လည်း ပါသွားပါတယ်။

ကျွန်တော်တို့ကို ရွှေတိဂုံကုန်းတော်ပေါ် ခေါ်သွားပါတယ်။ ကျောင်းဆောင် ရှစ်ဆောင်က ကျောင်းသားတွေကို အဆောင်အလိုက် ဘုရားပတ်ပတ်လည်မှာရှိတဲ့ ဇရပ်တစ်ဆောင်စီမှာ နေရာချပေးတယ်။ ဇရပ်မှာ ကျွန်တော်တို့ ရက်သတ္တ သုံးပတ် လောက်ကြာ နေခဲ့ရပါတယ်။ တက္ကသိုလ်အာဏာပိုင်များက တောင်းဆိုချက် အများစုကို လိုက်လျောတဲ့အတွက် ခေါင်းဆောင်များက သပိတ်လှန်လိုက်ပါတယ်။ ကျွန်တော်တို့ မဖြေလိုက်ရသည့် စာမေးပွဲကို အဲဒီနှစ် မေလမှာ ကျင်းပမယ်လို့ ပြောပါတယ်။ ကျွန်တော်တို့ အိမ်ပြန်သွားကြရတယ်။

ကျွန်တော် အိမ်ပြန်ရောက်တော့ မြင်ကွင်းက အလွန်စိတ်ပျက်စရာ ဖြစ်နေတယ်။ အဒေါ်များက မျက်ရည်ကျလုလု ဖြစ်နေပြီ။ သူတို့စိတ်ထဲမှာ ဒီနှစ်တွေ အတွင်း ကျွန်တော့်အတွက် အကုန်ကျခံထားတဲ့ ငွေတွေ သဲထဲရေသွန် ဖြစ်ကုန်ပြီ။ ကျွန်တော် သပိတ်ထဲ ပါခဲ့လို့ အလုပ်ကောင်းကောင်းရမယ့် အလားအလာလည်း ပျက်ပြီလို့ ထင်ကြတယ်။ သူတို့ ဒီလို ခံစားရတော့ ကျွန်တော်က 'ဒေါ်လေးတို့ ဖြစ်စရာရှိတာ ဖြစ်မှာပဲ' လို့သာ ပြန်ပြောလိုက်ပါတယ်။ ကျွန်တော် လာမည့် စာမေးပွဲ အတွက် စာကျက်ပါတယ်။ စာမေးပွဲက တစ်လတောင် မလိုတော့ဘူး၊ မေလမှာ ကျွန်တော် တက္ကသိုလ်ပြန်လာ၊ စာမေးပွဲ ဖြေပါတယ်။ ဝိဇ္ဇာဂုဏ်ထူးတန်းဘွဲ့ BA (Honours) ကို ပထမတန်းဂုဏ်ထူးအဆင့်က အောင်ပါတယ်။ အံ့ဖွယ်ဖြစ်ရပ်

လေလား။ သို့မဟုတ် ကျွန်တော့်ကံက စီမံထားတာများလား။

ကျွန်တော် မဟာဝိဇ္ဇာ (MA) တန်း ဆက်တက်ပါတယ်။ တက္ကသိုလ်က ကျွန်တော့်ကို မြန်မာစာနည်းပြဆရာ ခန့်ပေးတယ်။ ဒါ ကျွန်တော် ဆရာဖြစ်ချင်တဲ့ ဆန္ဒပြည့်တော့မယ်ဆိုတဲ့ အရိပ်လက္ခဏာပါပဲ။ နှစ်နှစ်ကြာ ကျွန်တော် အချိန်ပိုင်း နည်းပြနဲ့ ကျောင်းသား တစ်ပိုင်း နေခဲ့ရတာ ပျော်ပျော်ရွှင်ရွှင်ပါပဲ။ ဒီလို ဘ၀နှစ်ခု ကပြနေတဲ့ ဒုတိယနှစ်မှာ မမျှော်လင့်ထားတဲ့ နားမလည်နိုင်တဲ့ ဖြစ်ရပ်တစ်ခု ပေါ်လာပါတယ်။ အဲဒါက ကျွန်တော့်ဘ၀မှာ အလှည့်အပြောင်းတစ်ခု ဖြစ်လာပါတယ်။

တစ်နေ့လယ်မှာ ကျွန်တော် ရန်ကုန်မြို့ထဲက လက်ဖက်ရည်ဆိုင်တစ်ဆိုင်မှာ လက်ဖက်ရည်သောက်နေတုန်း မိတ်ဆွေတစ်ယောက် ဝင်လာတယ်။ သူက လူအုပ်ထဲမှာ ကျွန်တော့်ကို မြင်သွားတယ်။ ပြီးတော့ ဗြိတိန်နိုင်ငံမှာ သင်ကြားရန် ပညာသင်ဆု တစ်ဆု လျှောက်ထားနိုင်ကြောင်း ကြော်ငြာပါတဲ့ အင်္ဂလိပ်သတင်းစာကို သူက ပြပါတယ်။ ကြော်ငြာက ပထမတန်းဂုဏ်ထူးတန်း ဘွဲ့ရများ လျှောက်ထားရန် လျှောက်လွှာခေါ်ထားတယ်။ လျှောက်လွှာပိတ်ရက်က နက်ဖြန်။ မိတ်ဆွေကို အများကြီး ကျေးဇူးတင်ကြောင်း ပြောလိုက်ပါတယ်။ နောက်တစ်နေ့မှာ သက်ဆိုင်ရာ ဌာနကို ကျွန်တော်သွား ဆိုင်ရာအရာရှိထံမှာ စကောလားရှစ် လျှောက်လွှာတင်တယ်။ များမကြာမီမှာ အဲဒီ ပညာသင်ဆုအတွက် ကျွန်တော် စာမေးပွဲ ဖြေရတယ်။ ပြီးတော့ ဆန်ကာစစ် ရွေးထားတဲ့ လက်ရွေးစင် အခြားနှစ်ယောက်နှင့် ကျွန်တော် လူတွေ့မေးခံရတယ်။ အဆုံးမှာ ကျွန်တော် အရွေးချယ်ခံရပါတယ်။

ရန်ကုန်မြို့မှာ လက်ဖက်ရည်ဆိုင် ရာပေါင်းများစွာ ရှိမှာပါ။ သို့ပေမယ့် သတင်းကောင်း ဆောင်လာတဲ့ ကျွန်တော့် မိတ်ဆွေက တစ်ခြားဆိုင် မသွားခဲ့၊ ကျွန်တော် ထိုင်နေသည့် ဆိုင်ထဲမှ ဝင်လာခဲ့တယ်။ သူ ကျွန်တော့်ကို မြင်တွေ့တယ်၊ နောက်ထပ် ဖြစ်လာတာတွေ ပရိသတ်ကြီး သိပြီးပါပြီ။ ဒါ မထူးဆန်းဘူးလား ခင်ဗျာ။

ကျွန်တော် အင်္ဂလန်သွားရန် ရွာမှ ထွက်ခဲ့တဲ့ နံနက်ခင်း အိမ်မြင်ကွင်းက ဝမ်းသာ ဝမ်းနည်းစရာကြီး ဖြစ်နေတယ်။ ကျွန်တော် ထွက်ခွာမည့် ဆဲဆဲမှာ တန်းစီထိုင်နေတဲ့ လူကြီးဆယ်ယောက်ရှေ့ ကျွန်တော် ဒူးတုပ်ထိုင်ပြီး ရှိခိုးကန်တော့ပါတယ်။ ဆယ်ယောက်က အဘွားက အလယ်မှာ၊ သူ့တစ်ဖက်မှာ သားလေးယောက် ကျွန်တော့် ဖခင် အပါအဝင်၊ တခြားတစ်ဖက်မှာ သူ့သမီး ငါးယောက်။ သည်ထဲက လေးယောက်က ကျွန်တော့် မွေးစားမိခင်တွေ။ သူတို့အားလုံးက ဆုမွန်ကောင်းတွေ ပေးကြတယ်၊ ကျွန်တော် တိုင်းတစ်ပါးမှာ ပျော်ရွှင်အောင်မြင်ပါစေကြောင်းနဲ့ အခြား ဆုမျိုးစုံပေါ့။ ဦးကြီးတစ်ယောက်က ကျွန်တော် ခွဲခွာပွဲ လက်ဆောင်အဖြစ် မှာကြား

ဆုံးမပါတယ်။ ကျွန်တော် ရပ်ဝေးမြေခြားမှာ ဗုဒ္ဓဘာသာ မြန်မာလက္ခဏာတွေ မပျောက်အောင်ထိမ်းဖို့၊ ငါးပါးသီလမြဲဖို့ မှာကြားဆုံးမပါတယ်။ ကျွန်တော် 'သွားတော့ မယ်' လို့ သူတို့ကို နှုတ်ဆက်စဉ်က သူတို့ထဲမှ အများစုကို ကျွန်တော် ပြန်တွေ့တော့ မှာ မဟုတ်ဘူးဆိုတာ နည်းနည်းကလေးမှ မတွေးမိပါ။ ၁၉၅၇ ခုမှာ မြန်မာပြည်ကို လေ့လာရေးခွင့်နှင့် ကျွန်တော် ပြန်လာတဲ့အခါ ပြန်တွေ့ရတဲ့ အဒေါ်သုံးယောက်က လွဲပြီး အခြားသူအားလုံး ဒုတိယကမ္ဘာစစ်အတွင်းက ကွယ်လွန်ကြပါတယ်။

ယခုအထိ ကျွန်တော့်ရဲ့ ပညာရေးဘဝခရီးကို ရိုးသားမှန်ကန်စွာ ပြောခဲ့ပါပြီ၊ ပြောရင်း ပေါ်လာတဲ့ ခံစားချက်များကို ဟန်လုပ် ဖုံးကွယ် မပြောပါဘူး။ ဒီစိတ်ထား နှင့်ပဲ ကျွန်တော့် ပညာရေးဘဝ ဖြစ်ရပ်များထဲမှ မှတ်သားဖွယ် ဖြစ်ရပ်များကို ပြောပါဦးမယ်။

## ၃၊ ၁၊ ၄၊ ၁ စတိ ထိမ်းမြားခြင်း

ကျွန်တော် ရန်ကုန်တက္ကသိုလ်မှာ စာသင်တန်းတွေ စတက်ပြီး မကြာမီမှာ အာဏာပိုင်များက ပထမနှစ်ကျောင်းသားများ တက်သည့် သင်တန်းများ တက် ရောက်ခြင်းမှ ကင်းလွတ်ခွင့် ကျွန်တော့်ကို ပေးပါတယ်။ ကျွန်တော်က ဒီကင်းလွတ် ခွင့်ကို မြန်မြန် လက်ခံလိုက်တယ်၊ ဘာကြောင့်လဲဆိုတော့ ကျွန်တော် ကျောင်းတက် ကာလ တစ်နှစ်လျော့သွားမှာကိုး။ သို့ပေမဲ့ ဒီအတိုင်း ဖြစ်မလာဘူး။ 'တစ်နှစ်တန်း' လို့ အများခေါ်တဲ့ အတန်းလိုက်တက်လို့ အတော်ကလေးကြာတော့ ကျွန်တော် ဖျားပါတယ်။ ကျွန်တော် အိမ် ပြန်သွားရတယ်။ မော်လမြိုင်က ဆရာဝန်နှင့် ကြွက် မတ် ကုသပေးပါတယ်။ ရက်အနည်းငယ်ကြာတော့ ပူပင်နေတဲ့ ကျွန်တော့် အဒေါ် များက ရွာဆေးသမားနှင့် တိုင်ပင်ကြတယ်။ ဆရာက ကျွန်တော့် ရောဂါ စိစစ်တယ်၊ သူ့အဆိုက ကိုယ်ရောဂါမဟုတ်၊ စိတ်ရောဂါလည်း မဟုတ်။ ရောဂါ လက္ခဏာက ပယောဂဝင်တာလို့ သူက ဆိုတယ်။ ကုသရန်လည်း တစ်နည်းပဲ ရှိတယ်။ ကျွန်တော့် ကို ထိမ်းမြား လက်ထပ်ပေးရမယ်။ ဒါပေမဲ့ အဲဒီ ကုထုံးက ကျွန်တော့်အတွက် မဖြစ်နိုင်ကြောင်းလည်း သမားက သိပါတယ်။ အခက်အခဲများ ကျော်လွှားမယ့် နည်းလမ်း သူကပဲ ပေးပါတယ်။ ကျွန်တော် ကြက်ဖြူမနှင့် စတိ လက်ထပ်လိုက်တဲ့။

ကျွန်တော့်ရောဂါက နောက်ထပ် ဆယ်ရက် တန်းခံနေတယ်။ ဒီကြားထဲမှာ ဆရာဝန်က ကျွန်တော် သွေးအားနည်းရောဂါ ဖြစ်နေတယ် ဆိုပြီး အဲဒီအတိုင်း ဆက်ကုသနေပါတယ်။ ရွာကဆေးသမား ညွှန်ကြားချက်ကို ပြောပြတော့ ဆရာဝန် က ပြုံးတယ်။ အဲဒီတတ်ယောင်ကား (ရမ်းကု) ကျွန်တော့်ကို ဘာဆေးမှ မတိုက်လျှင်

ပြီးတာပဲ၊ ကျန်တာ သူကြိုက်သလို လုပ်ပါစေလို့ ဆရာဝန်က ပြောတယ်။ လယ်လုပ်သားတစ်ယောက်က ကြက်ဖြူမတစ်ကောင် ရှာပေးတယ်။ ဆေးသမားက ကြက်မခြေမှာ ကြိုးဖြူတစ်စချည်ပြီး ကျန်ကြိုးစကို ကျွန်တော့် ညာလက်မှာ ချည်တယ်။ ပြီးတော့ သူက ကျွန်တော်တို့ လင်မယားဖြစ်ပြီလို့ ပြောပါတယ်။ ပြီးတော့ သူက ကြိုးဖြေ၊ ကြက်မကို လွှတ်လိုက်တယ်၊ ထိမ်းမြားပွဲရိုးရာ ပြီးသွားပါပြီ။ ကျွန်တော့် ဝမ်းကွဲ ညီငယ်များကလည်း လူကြီးများနှင့်အတူ လက်ထပ်ပွဲမှာ ရှိနေကြတယ်။ သူတို့က 'ကြက်မလင်' လို့ ကျွန်တော့်ကို အမည်ပြောင် တပ်ကြတယ်။ လက်ထပ်ပြီး သိပ်မကြာဘူး၊ ကျွန်တော် နေထိုင်ကောင်းလာလို့ တက္ကသိုလ်ကို ပြန်လာပါတယ်၊ ကျွန်တော့်ရောဂါ ပျောက်ကင်းတာ ဆရာဝန်ရဲ့ ဆေးတွေ စွမ်းလို့လား၊ ဒါမှမဟုတ် ဆေးဆရာပေးတဲ့ ယတြာကောင်းလို့လား ကျွန်တော် မဝေခွဲနိုင်ပါ။

## ၃၊ ၁၊ ၄၊ ၂ ဥစ္စာစောင့်

ပြန်ပြီး သတိရမယ်ဆိုရင် ကျွန်တော့် တက္ကသိုလ်က ကျောင်းအိပ် ကျောင်းစား တက္ကသိုလ်ပါ။ ကျောင်းသားအများစုက အဆောင်မှာ နေကြတယ်။ အဆောင်တွေကို မြန်မာမြို့တော်ဟောင်းများ အမည်ပေးထားတယ်။ တကောင်း၊ ပြည်၊ ပုဂံ၊ သထုံ၊ ပဲခူး၊ စစ်ကိုင်း၊ ပင်းယ၊ အင်းဝ အဆောင်တွေ။ ကျွန်တော်နေတာက ပုဂံဆောင်မှာ၊ တစ်ယောက်တစ်ခန်း နေရပါတယ်။

တစ်ည ၉နာရီခန့်မှာ ကျွန်တော် စာလုပ်နေတုန်း ဝရံတာက ဆူဆူညံညံ အသံကြောင့် အာရုံပျက်သွားပါတယ်။ မေးမြန်း ကြည့်လိုက်တော့ အတန်းကြီး ကျောင်းသားတစ်ယောက်၊ မကျန်းမမာရုပ်နဲ့ ပျော့ချိချိလူ၊ ကယောင်ကတမ်း ဖြစ်နေတာ တွေ့ရတယ်။ ကျောင်းသားတချို့က သူ့ကို ထိန်းသိမ်းထားကြတယ်။ သူ့မိတ်ဆွေရင်း တစ်ယောက်က သူ့ရောဂါ အဖြစ်သနစ်ကို ကျွန်တော့်အနားကပ် ဘယ်သူမှတော့ မပြောနှင့်ဆိုပြီး ပြောပြပါတယ်။ ဒီလူက ရည်းစားရှိတယ်တဲ့၊ ရည်းစားက ဥစ္စာစောင့်မ ဖြစ်နေလို့ အခု အဲဒီ ဥစ္စာစောင့် ပူးနေတာတဲ့၊ မိတ်ဆွေ ဆက်ပြောတာက ဥစ္စာစောင့် နှင်ဖို့က တစ်နည်းသာ ရှိတယ်။ သိုက်ဆရာ ရှာရမယ်။ ကျွန်တော်တို့ သိုက်ဆရာ ရှာမတွေ့ပါ။ သိုက်ဆရာအစား အင်္ဂလိပ်အိန္ဒိယကပြား တက္ကသိုလ်ဆရာဝန် ရောက်လာတယ်။ ဒုတိယအဆောင်မှူးက လူလွှတ်ပြီး ဆရာဝန် ပင့်လိုက်တာကြောင့် ရောက်လာတာ။ ဒုတိယအဆောင်မှူးက မွတ်စလင် ဘာသာဝင်။ ဆရာဝန်က သူ့ကို သေသေချာချာ စမ်းသပ်ကြည့်၊ ခဏစဉ်းစားပြီးတော့ ကြက်ဆူဆီ တိုက်လိုက်လို့ ခိုင်းပါတယ်။ လူနာလေးရဲ့ သူငယ်ချင်းများကတော့

တစ်မျိုးတွေးတယ်။ ဆရာဝန်နှင့် ဒုတိယအဆောင်မှူး ထွက်သွားကြတော့ သူတို့ ဘာသာ သူတို့ လူနာလည်ပင်းနဲ့ လက်ကောက်မှာ စိပ်ပုတီးတွေ စွပ်ပေးတယ်။ တစ်ယောက် နှစ်ယောက်က ဘုရားဂုဏ်တော်ကိုးပါး (ဣတိပိသော ဘဂဝါ) ရွတ်ကြတယ်။ ဒါက မြန်မာများ ပရလောကသားများနှင့် ကြုံဆုံလေတိုင်း လုပ်နေကြအတိုင်း လုပ်တာပါပဲ။

လူနာ အိပ်ပျော်သွားပါပြီ။ နောက်မနက်မှာ ပုံမှန်ပဲ။ သူ့စားပွဲပေါ်က ကြက်ဆူဆီပုလင်းက တို့တောင် မတို့ရသေးဘူး။ ပြီးတော့ ညက အဖြစ်သနစ်ကို သူဘာမှ မမှတ်မိတဲ့ ပုံမျိုး။

## ၃၊ ၁၊ ၄၊ ၃ အင်္ဂရိတ်နှင့် မှော်အတတ်

လောကဆိုတာ အမျိုးစုံတာပါပဲ။ ဒီ 'အမျိုးစုံ' တွေထဲမှ တချို့ကို ခုပြောမည့် ဇာတ်လမ်းမှာ တွေ့ရပါမယ်။

မြန်မာဗုဒ္ဓဘာသာတစ်ယောက်အနေနှင့် ကျွန်တော်က ဖခင်ကို တစ်နှစ်သုံးကြိမ် ကန်တော့တဲ့ အလေ့အထ ရှိပါတယ်။ ဖခင်က ကျွန်တော် ခုနစ်နှစ်သားမှာ အမေဆုံးသွားလို့ မုဆိုးဖို ဖြစ်နေရှာတယ်။ သူက ကျွန်တော်တို့ရွာမှ မိုင်နှစ်ဆယ်ခန့် ဝေးတဲ့ မြို့ကလေးမှာ နေပါတယ်။ သူက ကြင်နာတတ်တဲ့ နားလည်မှုရှိတဲ့ ဖခင်ပါ။ သူ့အားနည်းချက် ကျွန်တော်တွေ့တာ တစ်ခုပါပဲ။ အဲဒါက အင်္ဂရိတ်ကို သူ အစွဲကြီးစွဲနေတဲ့ ဝါသနာပါ။ အင်္ဂရိတ်ပေါက်ချင်နေတာ၊ ကျွန်တော်က အဖေ့ကို မဖြစ်နိုင်တာတွေ လုပ်နေတယ်လို့ ကောင်းကောင်းမွန်မွန် ပြောတော့ လက်မခံပါဘူး။

အဖေက အင်္ဂရိတ် လိုက်စားတယ်၊ မှော်အတတ်လည်း စပ်စပ်လုပ်တယ်။ သူ့အလုပ်က ပြဒါးပြာချပြီး အာယုဒီဃ အသက်ရှည်ဆေး ဖော်ဖို့။ သူစိတ်အားထက်သန်တာက အသက်ရှည်ဆေးပဲ။ သတ္တုတွေ ရွှေဖြစ်မဲ့ နည်းထက် စိတ်ဝင်စားတယ်။ ရောဂါ ခပ်သိမ်း ပျောက်ငြိမ်းမယ့် ဆေးတော့ ပြောမနေနှင့်တော့။ သူက အသက်ရှည်ပြီး နောက်ပွင့်မည့် အရိမေတ္တေယျဘုရားကို စောင့်ဖူးချင်တာ၊ ဒီကမ္ဘာမှာ ပွင့်မည့် ဘုရားငါးဆူမှာ နောက်ဆုံးအဆူကို စောင့်မှာ။ ရှေးက ပုဂံမှာ ရဟန်းရှင်အဇ္ဈဂေါဏက ဓာတ်လုံးရပြီး ပုဂံတစ်ပြည်လုံး ရွှေတွေ ငွေတွေ အလျှံပယ် ပေါ်ကြွယ်ဝအောင် လုပ်နိုင်သည်အထိ အင်္ဂရိတ် ပေါက်ခဲ့တယ်။ မျက်လုံး တစ်ဖက်က နွားမျက်လုံး၊ တခြား တစ်ဖက်က ဆိတ်မျက်လုံး (အဇ္ဈ-ဆိတ်နဲ့ ဂေါဏ-နွား) မို့ အဇ္ဈ ဂေါဏ တွင်တာလို့ ဆိုတယ်။ (ထင်အောင် အင်္ဂလိပ်ဘာသာနှင့်ရေး 'မြန်မာ ဗုဒ္ဓဘာသာမှ ရိုးရာအယူများ' စာအုပ် စာ ၅၁ နှင့် အခြား။ Htin Aung: Folk

မြန်မာဗုဒ္ဓဘာသာတစ်ယောက်၏ ဘဝ ပုခက်အတွင်းမှသည် ဂူတွင်းအထိ 
Elements in Burmese Buddhism p51 & passim ရှုပါ။) ကျွန်တော့် အဖေကလည်း အခြားမြန်မာ အင်္ဂလိပ်အိုးများလိုပါပဲ၊ ရဟန်းကြီးအဇ္ဈဂေါဏကို အားကျတယ်၊ သို့သော် အဲဒါကြီးက ဒဏ္ဍာရီပဲ ဆိုတာတော့ သူ သတိမမူမိဘူး။ သူက ဇွဲနှင့် ကြိုးပမ်းသော်လည်း ပြဒါးက ပြာမဖြစ် သွားပါဘူး။ အဆုံးမတော့ အဖေသာလျှင် လူမွဲ ဖြစ်သွားရပါတယ်။

ကျွန်တော့်အဖေ အိမ်က လူလိမ်လူကြွားတွေ စုရပ်ဖြစ်နေတယ်။ အင်္ဂလိပ် သမား၊ ဘိုးတော်၊ မှော်ဆရာနဲ့ အဲဒီလို ခပ်ကြောင်ကြောင်လူတွေ သူ့အိမ် လာစု တယ်။ ကျွန်တော် သူတို့ထဲက အများကြီး တွေ့ခဲ့ဖူးပါတယ်။ သူ့ကိုယ်သူ အင်္ဂလိပ် သမားဆိုတဲ့သူက အင်္ဂလိပ်ကျမ်းမှာပါတဲ့ အဓိပ္ပါယ်ဝှက်ထားတဲ့ အင်္ဂလိပ်အဆာ တွေကို အမည် မဖော်တတ်ပါဘူး။ အဲဒါတွေက စကားဝှက်နှင့် ရေးထားတာဆိုတော့ သူ မဖော်တတ်ဘူး။ ကျွန်တော်က ကူညီပေးမယ်လို့ ပြောပါတယ်။ စကားဝှက်တွေ၊ သင်္ကေတရာဇ်အမှတ်အသားတွေ၊ အတိုမှတ်ဆောင်ပုဒ်တွေ မြန်မာလိုရှိနေတာကို ကျွန်တော်က အတော်ကြီး ထိတွေ့ထားသူပါ။

ကျွန်တော် ကူညီပေးမှာ သူလက်မခံပါ။ သူ့အထင်က အင်္ဂလိပ်တက္ကသိုလ် ကျောင်းသားဆိုတာ ဒီလို နက်နဲတဲ့ ဝိဇ္ဇာလမ်းနဲ့ မအပ်စပ်သူပေါ့။ သူက ကျွန်တော့် အဖေနှင့်သာ တိုင်ပင်တော့ အဖေက သူ့ကို ကျွန်တော့်ထံ ညွှန်ပြရော။ ဖြစ်မှ ဖြစ်ရလေ။

မှော်ဆရာတစ်ယောက်က သူ့အတတ်ပညာနဲ့ ဆိုင်တဲ့ နတ်တချို့ရဲ့ အမည်ပညတ်ကို ကောင်းကောင်းမသိရှာဘူး။ သူ့ပညာကို ကျွန်တော် မယုံကြည် တော့ စိတ်ဆိုးသေးတယ်။ တစ်နေ့တော့ သူက ကျွန်တော့်အဖေကို ပြောပါတယ်၊ သည်အင်္ဂလိပ်ပညာတတ် မယုံသက်ာနဲ့ (ငွစာ) ကို မြန်မာမှော်အတတ်ရဲ့ အစွမ်း ပြပြီး တစ်ခါတည်း ချွတ်လိုက်မယ်ပေါ့။ 'လုပ်ပါ၊ ကျွန်တော် သူ့အစမ်းခံပါမယ်' လို့ ပြောလိုက်တယ်။ သူက ကျွန်တော့် ညာလက်ဝါး ဖြန့်ခိုင်းတယ်၊ လက်ဝါးဖြန့် လိုက်တော့ သူက လက်ဖွဲ့ကြိုးကလေး လက်ထဲထည့်တယ်၊ ဂါထာမန္တာန်ရွတ်တယ်၊ မှော်သွင်းတယ်၊ ကျွန်တော့် လက်ဝါးဆုပ်မရစေဘူးလို့ ကြိမ်းဝါးတယ်၊ ကျွန်တော်က ဆုပ်ပြ လိုက်တာပေါ့။ သူကတော့ တအံ့တဩ ဖြစ်ရှာတယ်။ ဒါတောင် မလျှော့သေး။ သူက လက်ဖွဲ့ကို ဆက်ဆုပ်ထားဆိုပြီး နောက်ဂါထာ ရွတ်လိုက်သေးတယ်။ ပြီးတော့ ကျွန်တော့်လက်ဝါး မဖြန့်နိုင်စေရဘူးလို့ ကြုံးဝါးပြန်တယ်။ ကျွန်တော်က လက်ဝါးဖြန့် လိုက်ရော၊ နောက်ဆုံး သူ လက်မြှောက်ပါတယ်။ ကျွန်တော့် စိတ်တန်ခိုး ထက်လွန်း လို့ လုပ်မရတာလို့ ဆိုပါတယ်။

## ၃၊ ၁၊ ၄၊ ၄ ပြီးဆေး

မြန်မာစာ ဂုဏ်ထူးတန်းကျောင်းသားတစ်ယောက် ဖြစ်လေတော့ ကျောင်းပိတ်ရက်ရှည်မှာ ကျွန်တော် မန္တလေးနဲ့ အနီးအနား ယဉ်ကျေးမှုဌာနများမှာ ဖြစ်စေ၊ ပုဂံမှာ ဖြစ်စေ နေလေ့ရှိပါတယ်။ ဒီနေရာတွေမှာ မြန်မာ့အနုပညာနှင့် ဗိသုကာလက်ရာတွေကို လနှင့်ချီပြီး လေ့လာမှတ်သားစရာ ရှိပါတယ်။ တစ်ကြိမ် ကျောင်းအပိတ်မှာတော့ ဘာကြောင့်ရယ်မသိ၊ ကျွန်တော် ရွာပြန်နေလိုက်တယ်။ မြန်မာ သင်္ကြန်ရေသဘင် ရောက်လာတယ်။ သင်္ကြန်အကြောင်း ပြောခဲ့ပြီးပါပြီ။ ဒီပွဲက မူလ ဟိန္ဒူရိုးရာကို မြန်မာကယူပြီး ဗုဒ္ဓဘာသာရေး ပွဲလုပ်ထားတာပါ။ သင်္ကြန်ရက် သုံးလေးရက်ကိုလည်း ရက်ထူးရက်မြတ်လို့ အမှတ်ထားကြတယ်။ မြန်မာလူကြီး အများစုကတော့ သင်္ကြန်တွင်း ဥပုသ်သီလ စောင့်ကြတယ်။

သင်္ကြန်အတက်နေ့မှာ ရွာထဲ လူစိမ်းတစ်ယောက် ရောက်လာတယ်။ သူက ရွာသူကြီးဖြစ်တဲ့ ကျွန်တော့် ဝမ်းကွဲ အစ်ကိုကို တွေ့ချင်တယ်လို့ ဆိုတယ်။ သူက ကျွန်တော်တို့ ပုဂ္ဂိုလ်ကြီးကို ပစ္စည်းတစ်ခု ပြပါတယ်။ သူ့အဆိုက တောဝက်စွယ်လုံး ပိတ်တဲ့။ ဒီပစ္စည်းက ပြီးဆေးပါတယ်လို့လည်း အခိုင်အမာ ဆိုသေးတယ်။ မြန်မာ အများစုကတော့ သူပြောတဲ့ ပြီးဆေးဆိုတာကို ယုံတယ်။ သူကြီးကတော့ သူပြောတာ တစ်လုံးမှ မယုံပါဘူး။ ဒီတော့ လူစိမ်းက ငွေငါးကျပ် အလောင်းအစားလုပ်မယ်။ ဝက်စွယ် ဆောင်ထားသူဟာ ပြီးကို ပြီးရမယ်လို့ ဆိုတယ်။ သူကိုယ်တိုင် အစွယ် ဆောင်ပြီး သေနတ်နဲ့ အပစ်ခံမယ်လို့ စိန်ခေါ်တယ်။ ကျွန်တော့် အစ်ကိုကတော့ အဲဒါ လူသတ်မှု ဖြစ်မှာပဲ၊ သူကြီးအနေနဲ့ ဒါတော့ မလုပ်နိုင်ဘူးလို့ ပြောလိုက်တယ်။ ဒါပေမဲ့ သူက လောင်းမယ် တကဲကဲ လုပ်နေလို့ ဝက်စွယ်ကို ပုလင်းတစ်လုံးမှာကပ် ကြိုးနှင့်ချည်တယ်။ သူကြီးက နှစ်လုံးပြူးသေနတ်နဲ့ ဆယ်ကိုက်အကွာကနေ ပစ်ထည့် လိုက်တယ်။ ပုလင်းထိ၊ အစိတ်စိတ်ကွဲတာ ဝက်စွယ်က အစအနတောင် ရှာမရ တော့ဘူး။ ကျွန်တော့် အစ်ကို သူကြီးက သူနိုင်တဲ့ လောင်းကြေးငွေကို သူငယ်ချင်း တွေပေး၊ သူ့ခွင့်ပြုချက်အရ ချက်အရက် ပုလင်းထောင်ပြီး သူတို့လူစု အောင်ပွဲ ခံကြပါတယ်။ သောက်တာနည်းနည်း လွန်သွားတယ်။ မှုးပြီး ရန်ဖြစ်တော့ လူကြီး သူမတွေ၊ ကျွန်တော့် အဘွား အပါအဝင်က နေ့ထူးရက်မြတ်မှာ အရက်သောက်လို့ ဒီလိုဖြစ်တာ ဆိုပြီး ဝေဖန်ပြစ်တင်တာ ခံကြရတယ်။

## ၃၊ ၁၊ ၄၊ ၅ ဆေးဖယောင်းတိုင်

ကျွန်တော် သင်ကြားရတဲ့ တက္ကသိုလ်သင်ရိုး ဘာသာများမှာ ရှေးဟောင်းနှင့် အလယ်ခေတ် မွန်စာပေ ပါဝင်တာ မှတ်မိပါလိမ့်မယ်။ ဒီဘာသာရပ်အတွက် ခေတ်ပေါ် မွန်စာပေ ဗဟုသုတ ဖြည့်ချင်တဲ့အတွက် ကျွန်တော့်ကို မွန်စာပေတတ် ဘုန်းကြီးတစ်ပါးနှင့် ဆက်သွယ်ပေးရန် ဦးလေးတစ်ယောက်ကို ပြောပါတယ်။ သူက စီစဉ်ပေးပါတယ်။ ဦးလေးက ကျွန်တော်တို့ ရွာမှ ၂၅ မိုင်ခန့်ဝေးတဲ့ အရပ်မှာ နေတယ်။ ကျွန်တော် သူ့အိမ်မှာ သွားနေပြီး ဘုန်းကြီးထံမှ ခေတ်သစ် မွန်စာ သင်ယူပါတယ်။

ဦးလေးအိမ်မှာ နေသူ လူငယ်တစ်ယောက်က မိန်းမ ချောချော လှလှလေး တစ်ယောက်ကို အရူးအမူး ကြိုက်နေတယ်၊ ကောင်မလေးက လက်မခံဘူး။ သူက မိန်းကလေးကို အခွင့်ရတိုင်း ချစ်ရေးဆိုတယ်။ ရည်းစားစာတွေ ရေးတယ်၊ အကြောင်းက မထူးလာပါဘူး။ သူလည်း အရူးအမူးဖြစ်နေတော့ သူငယ်ချင်းတွေက အကြံဉာဏ်ပေးပြီး ရွာသား ဓာတ်ရိုက်ဓာတ်ဆင် ဆရာနဲ့ သူ့ကို တွေ့ပေးတယ်။ တစ်ညနေတော့ သူက ကျွန်တော်နဲ့အတူ သူငယ်ချင်းတချို့ကို ဓာတ်ဆရာအိမ် ခေါ်သွားတယ်၊ အဲဒီမှာ ဓာတ်ဆရာက ဆေးဖယောင်းတိုင် စီရင်နေတာ တွေ့တယ်။ ဖယောင်းတိုင်က အချင်း ၃ စင်တီမီတာလောက်၊ အမြင့် ၃၀ စင်တီမီတာလောက် ရှိမယ်။ ဖယောင်းတိုင်ပေါ်မှာလည်း အင်းကွက်တွေချ၊ ရုပ်ပုံတွေဆွဲပြီး ဖယောင်းတိုင် အလယ်လောက်မှာ အဝတ်စ ချည်ထားတယ်။ အဝတ်စက အမျိုးသမီးဝတ်တဲ့ အင်္ကျီ အစပြတ် သူ့အိမ်က ဖြစ်တဲ့နည်းနဲ့ ခိုးထုတ်လာတာတဲ့။ အဲဒါ ကျွန်တော် နောက်မှ သိရတာ။ ဓာတ်ဆရာက သူရဿတီ မယ်တော်ကြီးကို ရှိခိုးဂုဏ်တော်ဖွင့်၊ သူက အချစ် မယ်တော်ကြီးလေ။ ဆရာက ရွတ်ဖတ်ပြီးတော့ ကာယကံရှင်ကို မီးထွန်းပြီး လိုသောဆု တောင်းလို့ ညွှန်ကြားတယ်၊ သူ့အဆိုက ဖယောင်းတိုင် တောက်လောင် နေချိန်မှာ သည်ကောင်မလေး သူ့လူထံ အပြေးကိုလိုက်လာလိမ့်မယ်။ ဖယောင်းတိုင် ကုန်သည်အထိ ကျွန်တော်တို့ စောင့်နေတာပေါ့။ ဘာမျှ ဖြစ်မလာပါဘူး။ ဆရာ ကတော့ ဒီလို မအောင်မမြင် ဖြစ်ခဲပါသတဲ့။ မိန်းကလေးက အခြားတစ်ယောက်နှင့် လက်ထပ် သွားပါတယ်။

## ၃၊ ၄၊ ၁၊ ၆ အတိတ်နိမိတ်

### (၁) လင်းတ

ကျွန်တော် ရွာမှ ရန်ကုန် သွားချီ ပြန်လှည့်ခရီးမှာ မော်လမြိုင်မှာ တစ်ထောက် နားရတယ်။ ခရီးတစ်ခေါက်မှာတော့ မော်လမြိုင်မှာ ဖိမ်ယူပြီး နှစ်ည နားလိုက်တယ်။ ခါတိုင်း တစ်ညသာ နားနေကျ။ ဒါက ရွာအပြန်မှာပါ။

ကျွန်တော် လမ်းမကြီးအတိုင်း လျှောက်အသွားမှာ လူမနေတဲ့ အိမ်ပျက်ကြီး တစ်လုံး တွေ့တယ်။ သည်တစ်အိမ်ပဲ ဟောင်းနွမ်း ပျက်စီးနေတာ၊ အနီးအနား အိမ်တွေက သေသေသပ်သပ်ပါ။ ဒီအိမ်ကြီးက ယခင် နှစ်အနည်းငယ်မှာ စီးပွားရေး လုပ်ငန်းကြီး တစ်ခုရဲ့ ရုံးချုပ်ဆိုတာ ကျွန်တော် သတိရတယ်။ ကျွန်တော် အိမ်ရှင်ကို စုံစမ်းကြည့်တော့ ဒီအိမ်ဇာတ်လမ်း ပြောပြပါတယ်။ အိမ်က ကုလား သစ်စက်သူဌေးတစ်ယောက်ပိုင်၊ တရုတ်ကုန်သည်တစ်ယောက်က ငှားထားတာ။ တစ်နှစ်ကျော်ကျော်လောက်က အိမ်ကြီးပေါ် လင်းတနားတယ်။ အိမ်ရှင်ရော အိမ်ငှား နှစ်ဦးစလုံးက မြန်မာ့အတိတ်နိမိတ် ကောက်ယူပုံတွေ နားမလည်ကြဘူး။ လင်းတနားတာ ဘာမျှ မလုပ်ကြဘဲ သာမန်ငှက်တစ်ကောင် မှတ်နေကြတာ။

တရုတ်ကုန်သည်ရဲ့ စီးပွားရေး ကျဆင်းလာတယ်။ ဆိုးသည်ထက် ဆိုးလာတယ်၊ ပြီးတော့ သူ့အိမ်သားထဲက နှစ်ယောက် ဖြုတ်ခနဲ ဖြုတ်ခနဲ သေတယ်။ ဒီတော့မှ တရုတ်ကြီးကို သူ့မြန်မာမိတ်ဆွေတွေက ပြောလို့ လင်းတနားရင် ဖြစ်တတ်တဲ့ ဆိုးကျိုးတွေ သိလာတာ။ သူ့မိသားစု အဲဒီအိမ်က တခြားပြောင်းသွားတယ်။ နောက်ဘယ်သူမှ ဒီအိမ်ကြီးမှာ မနေရဲတော့ဘူးလို့ ကျွန်တော့် အိမ်ရှင်က ပြောပြပါတယ်။

ဒီတစ်ကြိမ်သာ ကျွန်တော့် ကိုယ်တွေ့ကြုံတာပါ။ အလားတူ အဖြစ်မျိုးတွေ ကြားရတာ အများကြီး ရှိပါတယ်၊ ဟုတ်မဟုတ် မလေ့လာနိုင်ခဲ့ပါဘူး။ အဲဒီနောက် ကျွန်တော် အတိတ်နိမိတ်အကြောင်း၊ တဘောင်အကြောင်း စာအုပ်တွေ ဖတ်ပါတယ်။ စာအုပ် အများအပြားက လင်းတကို အမင်္ဂလာအကောင်လို့ မှတ်ယူတယ်။ ကျွန်တော့် အထင် အကောင်က အရုပ်ဆိုးတယ်။ အကျင့်က ညစ်ပတ်တယ်။ သို့သော် တချို့ စာအုပ်တွေကတော့ လင်းတနားထားတဲ့ အိမ်တိုင်း အပြီးအကုသိုလ်ဝင်၊ မင်္ဂလာ ပိတ်သွားတာ မဟုတ်ပါဘူးလို့ ဆိုတယ်။ အိမ်ကို ဘယ်လို ထိခိုက်မယ်ဆိုတာ လင်းတ ပျံလာသည့် အရပ်၊ ပျံထွက်သွားသည့် ဦးတည်ရာနှင့် အချိန်အပေါ်မှာ မူတည် ပါသတဲ့။ အခုတော့ ကျွန်တော် ပြောခဲ့တဲ့ အိမ်ဟောင်းကြီးမှာ လူတွေနှင့် ပြန်ပြီး စည်စည်ကားကား ဖြစ်နေပါပြီ။

(၂) ဖွတ်

မြန်မာများက လင်းတနှင့် တစ်တန်းတည်း တစ်စားတည်းထားတဲ့ အမင်္ဂလာ နောက်တစ်ကောင် ရှိပါသေးတယ်။ ဖွတ်ပါ။ အကောင်က အရုပ်ဆိုးတယ်၊ အရောင်က ပြာမွဲတယ်။ ဖွတ်ရဲ့ မွဲမည့် အတိတ်နိမိတ်ကို မြန်မာတွေ ယုံတယ်။ ပြောခဲ့ပြီး ပြန်ပြောရရင် သူ့ကိုယ်ရောင် 'မွဲ' တာက စီးပွားဥစ္စာ မရှိဆင်းရဲတဲ့ 'မွဲ' နဲ့ အတူတူ ဖြစ်နေတာကြောင့် ဒီအယူ ဖြစ်လာတာ နေမှာပါ။ ၁၉ ရာစုက ရှေးမြန်မာ ကဗျာများ အထူးသဖြင့် ပြဇာတ်နဲ့ တရားစာများမှာ စီးပွားဥစ္စာ ဆင်းရဲသူကို ဖွတ်နှင့် နှိုင်းတာတွေ ပါတယ်။

အိမ်ကို ဖွတ်တက်လျှင် မွဲမည့် နိမိတ်ဆိုတာ မြန်မာများ စွဲနေတဲ့ အယူပါ။ ဒီအဖြစ်မျိုးတွေ ပြောနေကြတာ အများကြီးပါပဲ။ သို့သော် ကျွန်တော် တစ်သက်လုံးတော့ တစ်ခါသာ ကြုံဖူးပါရဲ့။ အဲဒီဖြစ်ရပ်မှာလည်း နိမိတ်အတိုင်းဖြစ်သည် မဖြစ်ဘူး ဘာမျှ အသေအချာ သက်သေမပြပါဘူး။

တစ်နှစ် ခရစ္စမတ် ကျောင်းပိတ်တုန်း ကျွန်တော် အနီးရွာက လယ်သမားတစ်ယောက်နှင့် ကြုံရပါတယ်။ သွားတာက သူ့ထံမှ နွားမတွေ ဝယ်ဖို့ပါ။ ကျွန်တော်နှင့်အတူ လယ်လုပ်သားတစ်ယောက် လမ်းလျှောက်သွားတယ်။ ကျွန်တော်တို့ ရွာထဲလည်း ဝင်ရော ဖွတ်တစ်ကောင်က တဲအိုလေးတစ်လုံးထဲ ဝင်သွားတာ တွေ့လိုက်ရတယ်။ တဲရှင်က အရက်သမား၊ လူပျင်း၊ လက်လုပ်လက်စား၊ ဘာမျှ အပိုအလျှံမရှိသူ။ သူက မလိုချင်သည့် ငွေ့သည်ကို ရိုက်သတ်ချက်စားလိုက်တယ်လို့ နောက်မှ ကြားရတယ်။ ဒီလူက ကုန်းကောက်စရာ မရှိတဲ့လူ။ သူ့အိမ် လင်းတနားနား၊ ဖွတ်တက်တက် နောက်ထပ် မွဲစရာ ဘာရှိပါ့မလဲ။

(၃) ငှက်ဆိုး

အတိတ်နိမိတ်အကြောင်း ပြောရင်းနှင့် ငှက်ဆိုးအော်သံနှင့် တစ်ပါတည်း လူတစ်ယောက်သေတဲ့ ကိစ္စ ပြောပါဦးမယ်။ အသည်းအသန် မမာနေသည့် လူနာ အိမ်အနီးအနား ငှက်ပုပ်သံ (ငှက်ဆိုးထိုးသံ) ကြားရလျှင် လူနာသေတော့မည့် နိမိတ်ဆိုတာ မြန်မာတွေ အယုံကြီး ယုံတယ်။ သူတို့ ယုံကြတာကို ဟုတ်သလိုလို ထင်စရာ အဖြစ်တစ်ခု ကျွန်တော် ကြုံဖူးပါတယ်။ တိုက်ဆိုင်တာလည်း ဖြစ်နိုင်တယ်၊ တကယ်လည်း ဖြစ်နိုင်တယ်။

ရန်ကုန်တက္ကသိုလ်မှာ စတုတ္ထနှစ်အရောက် ခရစ္စမတ် ကျောင်းမပိတ်မီ နည်းနည်းစောပြီး ကျွန်တော် ရွာပြန်ခဲ့တယ်။ အမျိုးထဲက တစ်ယောက် အသည်း

အသန် မမာနေတယ်လို့ အဒေါ်တစ်ယောက်က ကြေးနန်းရိုက်လိုက်လို့ စောစော ပြန်လာတာပါ။ အဘွားမောင်ဖြစ်လို့ ကျွန်တော်က 'အဘိုးလေး' လို့ ခေါ်ပါတယ်။ ရွာရောက်ရောက်ချင်း 'အဘိုးလေး' ထံ သွား လူမမာ မေးပါတယ်။

အဖိုးလေးကို အိမ်သားများနှင့်အတူ ရွာဆေးသမားပါ တွေ့ပါတယ်။ သူ့ အသက်က ၆၅ နှစ်လောက်ပါ။ နေမကောင်းတာက လအတော်ကြာပြီ။ ယခုတော့ နေ့လား ညလား ဖြစ်နေပြီ။ ဆေးဆရာက သူ့ဇနီးကို ပြောနေတယ်။ မနေ့က သူ့ ပဋိသန္ဓေနေ့၊ ဒီနေ့က မွေးနေ့တဲ့။ သူက နိမိတ်ဖတ်တယ်။ တကယ်လို့သာ အဘိုးလေး ဒီည သန်းခေါင်ကျော်တဲ့အထိ နေခဲ့ရင်တော့ ဘာမျှ မဖြစ်တော့ဘူး၊ ပြန်ကောင်း မယ်ပေါ့။ အချိန်က ည ၉ နာရီလောက် ရှိနေပြီ။ ကျွန်တော်တို့အားလုံး ညဥ့်လုံး ပေါက် လူနာစောင့်ကြမယ်ဆိုပြီး ထိုင်စောင့်နေကြတာ။ ည ၁၀ နာရီလောက် ရောက်တော့ အိမ်အနီး သစ်ပင်ပေါ်က ငှက်ဆိုးထိုးသံ ကြားရပါလေရော။ အသံစူး စူးနှင့် ဆက်ခါဆက်ခါ တွန်နေတာ။ ကျွန်တော်တို့အားလုံး မျက်စိမျက်နှာ ပျက်ကြ ရော။ ဟုတ်ပဲ့ဗျာ။ အဘိုးလေးလည်း သန်းခေါင် မကျော်ရှာပါဘူး။ ဆေးသမား ကတော့ အစွမ်းကုန် အသက်ကယ်ပါသေးရဲ့။

အနည်းငယ် ဆွေးနွေးစရာ နှစ်ချက်ရှိပါတယ်။ တစ်ခုက ဆေးဆရာရဲ့ ပဋိသန္ဓေနေ့နှင့် မွေးနေ့နှင့်ဆိုင်တဲ့ အယူ၊ နောက် ငှက်ဆိုးသံနှင့် လူသေတာ ဆက်စပ်သည့် ကိစ္စ။ ဆေးဆရာ ပြောတဲ့ ပဋိသန္ဓေနေ့နှင့် မွေးနေ့ဆိုတာက တစ် ကမ္ဘာလုံးလက်ခံတဲ့ သားဖွားဆရာဝန် သတ်မှတ်သည့် ပဋိသန္ဓေရက်တို့ ဖွားသေ စာရင်းထဲက ရက်တို့နှင့် မတူပါဘူး။ အသည်းအသန် လူမမာကို ကုသတဲ့ ဆေးဆရာ က ဒီနေ့ နှစ်နေ့ကို အလွန်အရေးစိုက်ပါမယ်။

မယုံတတ်သူ အတော်များများကတော့ ငှက်ဆိုးသံနှင့် လူသေတဲ့ ကိစ္စ အဆက်အစပ်ရှိတယ်ဆိုတာ ဘာမှ အခြေအမြစ်မရှိဘူးလို့ ဆိုမှာပါ။ ဒီအဖြစ်မျိုးက ရွာတွေမှာ မြို့ထက် အဖြစ်များတယ်။ ရွာမှာက မြို့ထက် ငှက်ဆိုး ပိုများများ ရှိမှာပေါ့။ လူနာ့အိမ် အနီးမှာ ငှက်ဆိုးထိုးသံ ကြားသော်လည်း လူနာ မသေတာ လည်း ရှိမှာပါလို့ သူတို့က ဆိုပေလိမ့်မယ်။ ယုတ္တိ၊ ယုတ္တာရှိတဲ့ စကားပါပဲ။ သို့သော် လည်း ဒီအယူက အစဉ်အလာ စွဲနေတဲ့ ရိုးရာ။ ရိုးရာဆိုတာ ကွယ်ခဲပါတယ်။

## ၃၊ ၁၊ ၄၊ ၇ ဗေဒင်ဆရာ

ကျွန်တော် ဗြိတိန်နိုင်ငံမှာ ဆရာအတတ်သင်ဖို့ ပညာတော်သင်ဆုရတာ မှတ်မိပါလိမ့်မယ်။ ဒါက အပြိုင်ဖြေရတဲ့ စာမေးပွဲ စစ်ပြီး ဘုတ်က လူတွေ့စစ်ဆေးပြီးမှ ရွေးတာပါ။ စာမေးပွဲနှင့် လူတွေ့ပွဲ ကြားမှာ အံ့ဩဖွယ် အဖြစ်တစ်ခုကို ကျွန်တော် ကြုံရပါသေးတယ်။

စာမေးပွဲဖြေအပြီး လူတွေ့မည့်နေ့ မတိုင်မီမှာ ၁၄ ရက်လောက် ခြားနေတယ်။ ကျွန်တော်လည်း တထိတ်ထိတ်နှင့် သည်အပြီးသတ်ပွဲကို စောင့်မျှော်နေ တာ။ ရက်တွေက ကုန်ခဲလိုက်တာ။ အင်တာဗျူးမတိုင်မီ တစ်ရက်အလိုမှာတော့ ကျွန်တော် ရန်ကုန်မြို့ထဲက သူငယ်ချင်းအိမ်ကို အလည်သွားပါတယ်။ အချိန်ဖြုန်းဖို့ ပါပဲ။ အဲဒီနေ့က တနင်္ဂနွေနေ့ပေါ့။ သူငယ်ချင်းက ကျွန်တော် အင်တာဗျူးအတွက် ပူပန်မနေအောင် ထင်ပါရဲ့ ထွေရာလေးပါးတွေ စကားရှာတယ်။ အဲဒီအခိုက် အော်သံကြားတယ်။ ‘ဗေဒင်၊ ဗေဒင်’ နဲ့ အော်တယ်။ သူငယ်ချင်းက ဗေဒင်ဆရာကို အိမ်တွင်းခေါ်လိုက်တယ်။ ဗေဒင်ဆရာက မွတ်စလင်၊ လမ်းလျှောက် အိမ်တကာ လှည့် ဗေဒင်ဟောနေတာ။ သူငယ်ချင်းက ကျွန်တော့်အတွက် ဟောပေးပါလို့ ခိုင်း တယ်။ သူက အပျော်ဟောခိုင်းတာလို့ပဲ ကျွန်တော် အသေအချာထင်တယ်။ ဗေဒင် ဆရာက ကျွန်တော့် လက္ခဏာကို အရင်ကြည့်တယ်။ ပြီးတော့ မွေးနေ့ မွေးရက် မေးတယ်။ သူက တွက်ချက် ဂဏန်းတွေ အကွက်ချပြီး ဟောပါတယ်။ ‘ဆာဟစ်(ဆရာ) ဆရာ အနောက်တိုင်း သွားရမယ်လို့မြင်တယ်။’ ကျွန်တော်က ဝင်ထောက်လိုက်တယ်။ ‘ဘုံဘေ* ဖြစ်မယ် ထင်တယ်’။ သူက ခေါင်းခါပြီး ‘မဟုတ်ဘူး၊ မဟုတ်ဘူး၊ မက္ကာဟိုဘက် အဝေးကြီးနေရာ။ အဲဒီမှာ ခင်ဗျားကို စောင့်ရှောက်မယ့် လူကြီး သုံးယောက် တွေ့မယ်။ တစ်ယောက်က ခင်ဗျားကို သားလိုထားလိမ့်မယ်။ ကျွန်တော် ဟောတာ ယုံပါ။ ဆရာ ခင်ဗျားဟိုမှာ ကြီးပွားမယ်’။ သူတခြားတွေ ဆက်ဟောပါသေးတယ်။

သူငယ်ချင်းနဲ့ ကျွန်တော်တို့ကတော့ သူဟောတာ အပျော်အပျက်ပဲ မှတ်လိုက်ပါတယ်။ ဗေဒင်ဆရာကိုလည်း သူတောင်းတဲ့ ဟောခ သူငယ်ချင်းက ပေးလိုက်ပါတယ်၊ သိပ် မများပါဘူး။ သို့သော် မကြာပါဘူး၊ သူဟောပြောခဲ့တာတွေ မှေမှေပျောက်ပျောက် ဖြစ်ပြီးခါမှ ကျွန်တော် အတော်ကလေး အံ့ဩရတယ်။ ဒီဆရာက ကျွန်တော် ပညာတော်သင် စာမေးပွဲဖြေတာ၊ အင်တာဗျူးစောင့်နေတာ မသိပါဘူး။ ဒါပေမဲ့ သူက ကျွန်တော် မက္ကာထက်ဝေးရာ သွားရမည် ဟောတာ။ ထူးတော့ ထူးဆန်းတယ်။ အထက်မှာပြောခဲ့တဲ့အတိုင်း သူဟောသမျှတွေက မှန်လာတယ်။

---

* ယခု မွမ်ဘိုင်းဟု အမည် ပြောင်းထားသည်။

နောက်ပိုင်း တွေ့ပါလိမ့်မယ်။ သူ တခြားဟောတာတွေက တက်တက်စင်လွဲတာလည်း ရှိပါသေးတယ်။

ကျွန်တော်ကတော့ ပေဒင်ဆရာ လက္ခဏာဆရာထံ သွားမေးလေ့ မေးထ မရှိပါဘူး။ ဒါပေမဲ့ ဒီတစ်သက်မှာ ယခုထိ နှစ်ကြိမ် ရှိပါပြီ၊ တခြားလူက ကျွန်တော့်အတွက် မေးပေးတာ။ ပထမတစ်ကြိမ်က အထက်မှာ ပြောခဲ့တဲ့ ကိစ္စ။ ဒုတိယအကြိမ်က ၁၉၆၉ ခု ကျွန်တော် အင်္ဂလန်မှာ နေထိုင်တုန်း။ မြန်မာပြည်က ကျွန်တော့်ညီငယ် ပို့လိုက်တဲ့ စာအိတ်အထူကြီး တစ်အိတ် ရပါတယ်။ ဒီထဲမှာ ကျွန်တော့်အတွက် ဟောစာတမ်း ဖူးစကက်စက္ကူသုံးရွက်နဲ့ ရေးထားတာ ပါတယ်။ သူ့ထံမှာ ကျွန်တော့် ဇာတာက ရှိနေတယ်။ ပြန်မလာတာ အတော်ကြာနေတော့ စိုးရိမ်တယ် ထင်ပါရဲ့။ ရန်ကုန်က နာမည်အကြီးဆုံး ပေဒင်ဆရာကို သွားမေးတယ်။ ဟောလိုက်တဲ့အထဲက တစ်ချက်က ကျွန်တော် ၁၉၇၀ ပြည့်နှစ်အတွင်း အိမ်ထောင်ကျလိမ့်မယ်တဲ့။ အဲဗျာ အဲဒီနှစ်ထဲ ကျွန်တော် အိမ်ထောင်ကျပါတယ်။

## ၃၊ ၁၊ ၄၊ ၈ ကပ်ရောဂါ

ကျွန်တော် အင်္ဂလန်မသွားမီ နွေမှာ ကျွန်တော်တို့ ရွာမှာ အတော်အသင့် ကူးစက်တဲ့ ဝမ်းရောဂါ ဆိုက်ပါတယ်။ ရွာသူကြီးက မော်လမြိုင်မှ ကျန်းမာရေးမှူးတွေ ပင့်ပါတယ်။ ရွာသားတွေကိုလည်း အစာနှင့်ရေ ဂရုစိုက်ကြရန် သတိပေးတယ်။ လန့်ဖျပ်နေတဲ့ ရွာသူ ရွာသားတွေကလည်း သူကြီး ပြောသမျှ နားထောင်ပါတယ်၊ ခိုင်းတာ လုပ်ပါတယ်၊ ဒါပေမဲ့ တစ်ပြိုင်တည်းမှာပဲ သူတို့က ဘုန်းကြီးပင့် ရွာလမ်းဆုံမှာ ညနေခင်း ပရိတ်နာကြတယ်။ ပရိတ်က အရေးကြီးတဲ့သုတ် ခုနစ်သုတ် ရှိပါတယ်။ တစ်ဦးချင်းအတွက်ရော၊ တစ်နိုင်ငံလုံးအတွက်ပါ ဖျားနာလျှင် ဖြစ်စေ အန္တရာယ်ရှိလျှင် ဖြစ်စေ၊ ပရိတ်ရွတ်ရန် ဘုရားရှင် ခွင့်ပြုတော်မူပါတယ်။ မြန်မာဘုရင်များ လက်ထက်က ဒီအစဉ်အလာအတိုင်း တစ်ဦးချင်းအတွက်ဖြစ်စေ နိုင်ငံအတွက်ဖြစ်စေ အရေးရှိရင် ရွာမှာ လူစု ဘုန်းကြီးပင့် ပရိတ်ရွတ်ပါတယ်။

ပရိတ်ပွဲကြီး ပြီးတဲ့အခါမှာ ရွာသားတွေက သူတို့ ရိုးရာတွေ ဆက်လုပ်တယ်။ သံပုံးတီးပြီး ခွက်တွေ လင်ဗန်းတွေခေါက် မကောင်းဆိုးဝါးနဲ့ ရောဂါကပ်ဘေးတွေ ရွာက နှင်တယ်။ တိုက်ဆိုင်မှုတစ်ခုက လငါးပုပ်ဖမ်းတဲ့ အချိန်မှာလည်း သံပုံးတီးကြ တယ်။ ဒီမှာလည်း မြန်မာတွေက အယူရှိတယ်။ ထူးထူးခြားခြားဖြစ်တဲ့ လငါးပုပ် ဖမ်းတာက လကို ရာဟု (ဂြိုလ်ဆိုး) က မျိုဖို့ ကြိုးစားနေတဲ့ အခါမှာ ဖြစ်ပေါ်တာ။ ဆူဆူညံညံ အသံပေးပြီး ဟစ်ထုတ်လိုက်ရင်

လကို ဖမ်းမည့် ရာဟု လွှတ်ပေးလိမ့် မယ်။ မျိုလျက်တန်းလန်း ဆိုလျှင်လည်း ထွေးထုတ်လိမ့်မယ်လို့ ယုံကြည်ကြတာ ကြောင့် သံပုံးတီးတာပါ။

## ၃၊ ၁၊ ၅ အင်္ဂလန် (၁)

အဘွား၊ ဦးကြီး၊ ဦးလေး၊ အဒေါ်များကို ကန်တော့ပြီးနောက် အင်္ဂလန်ခရီးအတွက် ရန်ကုန်ကို သွားပါတယ်။ ကျွန်တော် မြန်မာပြည်ကို နှုတ်ဆက်တော့နောက် ဆယ့်ကိုးနှစ်လုံးလုံး ကိုယ့်နိုင်ငံကို ပြန်တွေ့မှာ မဟုတ်ကြောင်း နည်းနည်းမှ မတွေးမိ ပါဘူး။ ၁၉၃၈ ခု ဩဂုတ်လမှာ ကျွန်တော် မြန်မာပြည်က ခွာပါတယ်။ လန်ဒန် တက္ကသိုလ်က ပညာရေးကောလိပ်မှာ ပညာဆည်းပူးရန် ဖြစ်ပါတယ်။ ဒါပေမဲ့ ကောလိပ်က စက်တင်ဘာလဆန်းမှာ ဖွင့်မှာ၊ အချိန်မီ ရောက်နိုင်ရန် သွားရိုးသွားစဉ် သင်္ဘောခရီးနှင့် မဖြစ်တော့ပါဘူး။ အဲဒီခေတ်က အာရှနဲ့ ဥရောပကြားခရီးက သင်္ဘောနှင့်သာ သွားကြရတာပါ။ လေယာဉ်ခရီးက ၁၉၆၀ လွန်အထိ ခေတ်မစား သေးပါဘူး။ ကျွန်တော့် ခရီးက ကာလကတ္တား* ကို သင်္ဘောနှင့်သွား၊ အဲဒီကမှ မီးရထားနှင့် အိန္ဒိယတိုက်ငယ်ဖြတ် ဘုံဘေ (မွမ်ဘိုင်း) သွား။ ခရီးသည်တင် သင်္ဘော ကြီးကို ပြောင်းပြီး မာဆေးကို ခရီးဆက်တယ်။ အဲဒီမှာ ညအမြန် မီးရထားနှင့် ကယ်လေသွား၊ ထပ်ပြီးကူးတို့ သင်္ဘောနှင့် ဒိုဗာကူး၊ ဒိုဗာက မီးရထားနှင့် လန်ဒန်ကို ဆက်။ လန်ဒန်ကို ကျွန်တော် စက်တင်ဘာ ၃ ရက်နေ့ ရောက်သွားပါတယ်။

ဒီခရီးက စုစုပေါင်း (၁၈) ရက်ကြာတယ်။ သင်္ဘော မီးရထား အတန်တန်နဲ့ မရောက်ဖူးတဲ့ နိုင်ငံတွေရောက်၊ ပင်လယ်ပြင်တွေ ဖြတ်ကျော်သွားခဲ့ရတာ အတော် ဒုက္ခကြုံရတဲ့ ခရီးပါပဲ။ အတွေ့အကြုံတွေလည်း ရပါရဲ့။ စက်တင်ဘာ ၃ ရက်နေ့ နံနက်ခင်းမှာ ပါရီမြို့ကို မီးရထားပြူတင်းမှ မြင်ခဲ့ရပါတယ်။ မြို့ကို သေသေချာချာ ကြည့်ပါတယ်၊ တစ်ချိန်မှာ ဒီမြို့တော်က ပညာရှင်ကြီးတွေ ကျောင်းတော်သားတွေ နှင့် အကျိုးရှိရှိ ကူးလူးဆက်ဆံရလိမ့်မယ်ဆိုတာတော့ နည်းနည်းမှ မသိခဲ့ပါဘူး။ လှပတဲ့ ဒီမြို့တော်ကို ကျွန်တော် ရောက်တာ ၁၉၆၅ မှ စပြီး ငါးကြိမ်ရှိပါပြီ။

ကျွန်တော်ရဲ့ အင်္ဂလန်ခရီးက အထူးသဖြင့် ဘုံဘေ-မာဆေးအပိုင်းမှာ အတော်ခံရပါတယ်။ လှိုင်းမူးတာအပြင် ထမင်းစားခန်းမှာ စားသောက်ရတာ အခက်အခဲ ရှိပါတယ်။ အဲဒီအချိန်က ကျွန်တော် သက်သတ်လွတ် စားပါတယ်၊ အရက် မသောက်ပါ။ အသားစားရာမှ သက်သတ်လွတ် ဖြစ်လာတာက တဖြည်းဖြည်းပါ။ စတင်တာ မော်လမြိုင်မှာ ကျောင်းနေတုန်း ရွာမှ မော်လမြိုင်ကျောင်း မပြန်မီ တစ်ညနေမှာ ကျွန်တော့်ညီများက နှုတ်ဆက်ပွဲဆိုပြီး အုန်းထမင်း၊ ကြက်သားဟင်းနဲ့ (မြန်မာ

* ယခု ကိုး(လ်)ကွတ္တားဟု အမည်ပြောင်းပြီး။

စားကောင်းသောက်ဖွယ်) ကျွေးပါတယ်။ ပထမတော့ စားကောင်းပါတယ်။ ဒါပေမဲ့ တဖြည်းဖြည်းနဲ့ ကြက်သားစားရတာ စိတ်မသန့် ဖြစ်လာတယ်။ အိမ်က မွေးထားတဲ့ တိရစ္ဆာန်တွေ-နွား၊ ကျွဲ၊ ဝက်၊ ကြက်၊ ဘဲ စသည်ပေါ့။ အကောင်တွေကို သနား စိတ်ကြောင့် ဖြစ်ပါလိမ့်မယ်။ ကြက်သားစားလေတိုင်း ကျွန်တော့်မှာ အတွေးဝင်လာ ပါတယ်။ ငါ မနေ့က အစာကျွေးတဲ့ ကြက်ဖြူမလေး လေလား၊ တစ်နေ့က ငါ လိုက်ဖမ်းတဲ့ ကြက်ဖ အညိုကောင်ကလေးများလား တွေးတာပေါ့။ တွေးမိတော့ စားမဝင်တော့ဘူး။ မကြာမီမှာ တခြား သတ္တဝါများအတွက်ပါ စိတ်ခံစားမှု ဖြစ် လာတယ်။ ကိုယ့်စိတ်ကို အတော်ကြီး ထိခိုက်လာတော့ ကျွန်တော် အသားလုံးဝ ရှောင်လိုက်ပါတော့တယ်။ ကျွန်တော် တက္ကသိုလ်ကျောင်းသားဘဝ တလျှောက်လုံး ပါပဲ။ ဗုဒ္ဓဘာသာက အသားစားတာနှင့် ပတ်သက်လို့ မည်သို့မျှ မဆိုပါ။ ဟိန္ဒူ ကတော့ ပွင့်ပွင့်လင်းလင်း ဆိုပါတယ်။ မြတ်စွာဘုရားက လောင်းလှူသမျှ အကုန် ဘုဉ်းပေးတော်မူပါတယ်။ ဒါကြောင့် သံဃာများလည်း ခုခေတ်မှာ အကုန် ဘုဉ်းပေး ပါတယ်။ မြန်မာလူဝတ်ကြောင်တွေထဲမှာတော့ သက်သတ်လွတ်သမား အများကြီး ရှိသော်လည်း အသားစုံကို ဘာမျှ တွေးမနေဘဲ စားကြသူတွေ များပါတယ်။

သင်္ဘောပေါ်မှာ အစာစားတိုင်း ကျွန်တော် အင်္ဂလိပ်ကြီး တစ်ယောက် ဘေးမှာ ထိုင်တယ်။ ညစာအတွက် ဟင်းခွက်အမယ် (မီနူး) ပေးပါတယ်။ အမယ် သုံးဆယ် လေးဆယ်လောက် ပါမယ်။ အများစုက ပြင်သစ်အစာ၊ ကျွန်တော်က ဒီအစားအစာတွေအကြောင်း ဘာမျှ မသိသလောက်။ စားပွဲအဖော်က အကြံပေး သည့်အတိုင်း ကျွန်တော် သက်သက်လွတ် အစာမှာပါတယ်။ နောက်တော့ သက်သတ် မလွတ်တလွတ် စပြီးစားတယ်။ ချိ(စ) နဲ့ ချက်တဲ့ဟင်းတွေ၊ ပုဇွန် နည်းနည်း သို့မဟုတ် ငါးနည်းနည်းကို သီးနှံများများနှင့် စားပါတယ်။ စားပွဲထိုးများက ကျွန်တော့်ကို လူထူးလူဆန်းအဖြစ် ကြည့်ကြတယ်၊ သူတို့ ငှဲ့ပေးမည့်အရက် ကျွန်တော် မသောက်သည့်အခါ ကြည့်ပုံက ပိုဆိုးသေးတယ်။

ရပ်ဝေးမြေခြားရောက် မြန်မာဗုဒ္ဓဘာသာ တစ်ယောက်အကြောင်းတော့ မပြောတော့ပါဘူး။ မြန်မာပြည်နှင့် ရေမြေသဘာဝမှ မတူတာပဲ။ အဲဒါ ပြောမယ် ဆိုရင်လည်း မြန်မာဗုဒ္ဓဘာသာ၏ ဘဝပုခက်ထဲမှ ဂူတွင်းထိ ဟောပြောမှုအတွက် ယုတ်လျော့ကုန်လိမ့်မယ်၊ ဒါကြောင့် အဲဒါအစား အင်္ဂလန်မှာ ကျွန်တော့် ကျောင်းသားဘဝနောက် ဆရာအဖြစ်ကို အကျဉ်းချုံးပြောပါမယ်။ ကျွန်တော့်ဘဝ အတွေ့အပြောင်းများကို ဖြစ်ပေါ်ရာမှာ ပါခဲ့တဲ့ အကြောင်းအရာ အဖြစ်အပျက်များ ကို မီးမောင်းထိုးပြောပါမယ်။

ပညာရေး ကောလိပ်ရောက်ပြီး လအနည်းငယ်ကိုတော့ ကျွန်တော် မေ့ရလျှင် မေ့ပစ်ချင်တယ်။ အိပ်မက်ဆိုး မက်ခဲ့ရသလိုပါပဲ။ သင်ရတာတွေ အများကြီးမှာ ပညာရေးအခြေခံ သဘောတရား၊ အခြေခံ အဆင့်မြင့်နှင့် စက်မှုလုပ်ငန်းဆိုင်ရာ စိတ်ပညာ၊ နောက် အင်္ဂလန်နှင့် ဝေလနယ်မှ အင်္ဂလိပ်ပညာရေးစနစ်အကြောင်း တွေပါတယ်။ ကျွန်တော့်အတွက် ဂရိစာ (အားလုံးအသစ်) ပါပဲ။ ဒါတင်မကသေး၊ လန်ဒန်က အင်္ဂလိပ်ကျောင်း တစ်ကျောင်းမှာ သင်ကြားမှုလေ့ကျင့်ရသေးတယ်။ သို့သော် နှစ်ဆုံးတော့ ကျွန်တော် စာမေးပွဲ အောင်ပါတယ်။ သင်ကြားရေး ဒီပလိုမာ လက်မှတ် ရတယ်။ အမ်အေဘွဲ့အတွက် ဆက်တက်ခွင့်ရတယ်။ ဒီလို ဖြစ်လာတာ အံ့ဖွယ်ပါပဲ။ ဘဝ ဘဝက ကုသိုလ်ကံကြောင့်လေလား။ ထားပါတော့ နောက်ဆယ် နှစ်ကာလမှာ အံ့ဖွယ်တွေ ထပ်ဖြစ်ဦးမှာပါ။

စာမေးပွဲပြီး ကျောင်းပိတ်ရက်ရှည်မှာ ကျွန်တော် အားလပ်နေတုန်း မြန်မာမိတ်ဆွေ ပညာတော်သင်တစ်ယောက် ကျွန်တော့်ထံ ပေါက်လာပါတယ်။ ဒေါက်တာဂျေအေစတီးဝပ်က ကျွန်တော့်ကို အလွန်တွေ့ချင်ကြောင်း သူက ပြောပါတယ်။ ဒေါက်တာစတီးဝပ်က မြန်မာပြည်မှာ နှစ်များစွာ တာဝန် ထမ်းဆောင်ခဲ့တဲ့ အိုင်စီအက်(စ) အရာရှိဟောင်းကြီးပါ။ သူက ၁၉၃၃ ခုမှာ အငြိမ်းစားယူခဲ့ပြီး မြန်မာအင်္ဂလိပ် အဘိဓာန် ပြုစုစရာ စာအုပ်စာတမ်းတွေ အင်္ဂလန်ကို သယ်လာခဲ့ တယ်။ အရှေ့တိုင်းပညာကောလိပ်က သူ့ကို မြန်မာစာကထိက ခန့်ထားပါတယ်။ ဒီကောလိပ်အမည်ကို နောင်အခါမှာ အရှေ့တိုင်းနှင့် အာဖရိကလေ့လာရေး ကောလိပ် လန်ဒန်လို့ အမည် ပြောင်းပါတယ်။ ၁၉၃၈ မှာ ဒေါက်တာစတီးဝပ် ဒုတိယပါမောက္ခဖြစ်ပြီး ၁၉၄၄ မှာ မြန်မာစာပါမောက္ခ ဖြစ်လာပါတယ်။ ဒေါက်တာ စတီးဝပ်က ကျွန်တော်နှင့် အလ္လာပ သလ္လာပ ပြောပြီးနောက် ပညာရေးမဟာဘွဲ့ (MA) အတွက် ဘွဲ့ယူစာတမ်းရေးနေမည့် အစား မြန်မာစာပါရဂူ (Ph D) ဘွဲ့ယူရန် လိုင်းပြောင်းဖို့ တိုက်တွန်းပါတယ်။ ၁၉၃၉ မှာ ဘွဲ့လွန်ကျောင်းသားအဖြစ် ကျွန်တော် ကောလိပ် ဝင်ပါတယ်။

အဲဒီနှစ် စက်တင်ဘာလမှာ ဒုတိယကမ္ဘာစစ် ဖြစ်ပါတယ်။ ဗြိတိန်ရောက် မြန်မာပညာတော်သင် အားလုံး ကိုယ့်နိုင်ငံ ပြန်ချင်သပဆို ပြန်၊ မပြန်ချင်ရင် ဆက်နေ၊ ဆက်ပညာသင်။ ကြိုက်ရာ ရွေးခွင့်ပေးပါတယ်။ ကျွန်တော်က ပညာ ဆက်သင်ရန် ဆုံးဖြတ်ပါတယ်။ ဒေါက်တာစတီးဝပ်က ကြီးကြပ်သူအဖြစ် ကျွန်တော် (Ph D) ဘွဲ့ယူစာတမ်းရေးမည့် သုတေသန လုပ်ပါတယ်။ ၁၉၄၂ ခု တစ်ညနေခင်း မှာ လများမကြာမီအတွင်းက ဖြစ်ခဲ့တဲ့ ကျွန်တော့်ကံနှင့် ဘဝအကွေ့အပြောင်းတွေ

ပြန်တွေးရင်း လန်ဒန်မြို့ လမ်းတစ်လမ်းမှာ လမ်းလျှောက်နေတယ်။ လမ်းလျှောက်နေတုန်း ဂျာမန်ဗုံးကြဲလေယာဉ်တွေက ဗုံးမိုးရွာချပါရော။ ကျွန်တော့် ပတ်ပတ်လည်မှာ ဗုံးတွေ။ ကျွန်တော် နီးရာ မြေအောက် ဘူတာဆီ ပြေးတာပေါ့။ ဗုံးခိုရအောင်။ မြေအောက် ဥမင်ထဲရောက်တော့ လန်ဒန်အရှေ့ချောင်သား* ကော့ကနီ** တစ်ယောက်တွေ့တယ်။ သူတို့ အမျိုးတွေက ဟာသဉာဏ်ကောင်းတယ်လို့ ထင်ရှားတယ်။ သူက အားရပါးရ ပြုံးပြီး 'ကိုယ့်လူ၊ ဒီလောက် မြန်မြန်ပြေးစရာ မလိုပါဘူးကွာ။ ဗုံးပေါ်မှာ မင်းနာမည် မပါလို့ကတော့ အဲဒီဗုံးနဲ့ မင်းမသေပါဘူးကွ'။ ဒီတော့ ကျွန်တော်က ပြန်မေးပါတယ်။ 'ခင်ဗျားကော ဘာလို့ ဒီလာ ဗုံးခိုရတာလဲ'။

သူက 'ငါ ဗုံးကို မကြောက်ဘူး၊ ပေါက်ကွဲတာကို ကြောက်တာကွ' တဲ့။ သူ ဗုံးအကြောင်းနဲ့ ဗုံးပေါ်က နာမည်အကြောင်း ပြောလိုက်ပုံက လောကမှာ ဖြစ်စရာတွေကို စီမံပြီးမို့ ဖြစ်ကို ဖြစ်မှာပဲ၊ ဘာမှ တားမရလို့ သူယုံကြည်ရာ (ဖြစ်သမျှကုန်းခံ) ဝါဒကို ပြသနေပါတယ်။ ကံယုံသူနှင့်တော့ တခြားစီပါပဲ။

၁၉၄၄ ခုမှာ ကျွန်တော် Ph D ဘွဲ့ရပါတယ်။ ဒေါက်တာစတီးဝပ် ပါမောက္ခအရာချီးမြှင့်ခံရသည့် နှစ်ပါပဲ။ ဥရောပစစ်ပွဲကြီး ပြီးတဲ့အခါ စတီးဝပ်က သူ့ မြန်မာ-အင်္ဂလိပ် အဘိဓာန်ပြု လုပ်ငန်းမှာ ဝင်ကူပေးဖို့ ကျွန်တော့်ကို ပြောပါတယ်။ ဘီရှော့စတော့ဖို့ မြို့က သူ့ခြံကြီးထဲမှာ ရုံးဖွင့်ပြီး လုပ်နေတာ၊ ၁၉၄၆ ခုမှာ အဲဒီအလုပ် ဝင်လုပ်ပါတယ်။ သူ့ လုပ်ဖော်ကိုင်ဘက် မစ္စတာစီဒဗလျူဒန်း ဆိုသူလည်း လုပ်ကိုင်နေတယ်။ စတီးဝပ်နှင့် မြန်မာပြည်မှာ လုပ်ကိုင်ခဲ့တဲ့ အိုင်စီအက်(စ) ဟောင်းပဲ။ စတီးဝပ်က ၁၉၄၈ ခုနှစ် အသက် ၆၆ နှစ်အရွယ်မှာ နှလုံးရပ်ပြီး ကွယ်လွန်ရှာတယ်။ လုပ်လက်စ အလုပ်ကို ဒန်းနှင့် ကျွန်တော် ဆက်လုပ်ပါတယ်။ ၁၉၄၈ ခု အောက်တိုဘာလမှာ အရှေ့တိုင်းနှင့် အာဖရိကပညာကောလိပ်က ကျွန်တော့်ကို ကထိက ခန့်ပါတယ်။ အကန့်အသတ် တစ်ခုက သုံးနှစ် ကြာလျှင် ကျွန်တော် ရာထူးစွန့်ရမည်၊ သို့သော် ထိုအတိုင်း မဖြစ်လာပါ။ ကျွန်တော် သင်ပေးရမည့် မြန်မာစာဂုဏ်ထူးတန်းက ကျောင်းသား တစ်ယောက်ပြီးတစ်ယောက် မပြတ်ဘူး။ ဒီ့ပြင် နိုင်ငံခြားရေးရုံး၊ ဘီဘီစီနှင့် အခြားမှ မြန်မာစာလာသင်သူတွေလည်း ရှိသေးတယ်။ စတီးဝပ်နှင့် ဒန်းတို့ရဲ့ မြန်မာပြည်မှာ လုပ်ဖော်ကိုင်ဘက်

---

* East End သည် ယခု လန်ဒန်မြို့ ကူးသန်းရောင်းဝယ်ရေး စည်ကားရာ ရပ်ကွက်ဖြစ်သည်။ East-Ender သည် East-End ရပ်ကွက် (အရှေ့ချောင်) သားဖြစ်သည်။

** ကော့ကနီသည် ရှေးရှေး အစဉ်အဆက် East End တွင် နေခဲ့သော ဇာတိမြို့ခံ အနွယ်ဖြစ်သည်။ သူတို့ ပြောစကားက အင်္ဂလိပ်ပင် ဖြစ်သော်လည်း ဗန်းစကားနှင့် အသံဝဲမှုကြောင့် 'လန်ဒန်အင်္ဂလိပ်' နှင့် များစွာ ကွာခြားသည်။

ဖြစ်ခဲ့တဲ့ မစ္စတာ အိပ် (ချ) အက် (ဖ) ဆား (လ်) ဆိုသူကို ယာယီ မြန်မာစာ ကထိက ခန့်ပါတယ်။ သူ့ကို အဘိဓာန်အယ်ဒီတာ အဖြစ်လည်း တွဲဖက်တာဝန် ပေးပါတယ်။ ၁၉၅၅ ရောက်တော့ လန်ဒန်တက္ကသိုလ်က ကျွန်တော့်ကို ဒုတိယ ပါမောက္ခဖြစ်တဲ့ (ရီဒါ) ဘွဲ့ ပေးအပ်ပါတယ်။ ဒီပုဂ္ဂိုလ်များနှင့် ကျွန်တော် တွဲဖက် လုပ်ခဲ့ရတာ အကျိုးကျေးဇူး များလှပါတယ်၊ မစ္စတာဆား(လ်)က ၁၉၆၅ မှာ၊ မစ္စတာ ဒန်းက ၁၉၆၆ ခုမှာ ကွယ်လွန်ရှာကြတော့ သူတို့နှင့် ကျွန်တော် တွဲရတဲ့ကဏ္ဍ ဆုံးခန်းတိုင်သွားပါတယ်။

ဒီမှာ လူကြီးမင်းများ ပြန်သတိရစရာ ပြောပါရစေဦး။ ၁၉၃၈ ခုက ကျွန်တော် အင်္ဂလန်မလာမီ မွတ်စလင်ဗေဒင်ဆရာ ဟောခဲ့တာ။ 'ဆရာ အနောက် နိုင်ငံသွားရမယ်. . . မဏ္ဍာထက်ဝေးတဲ့ နေရာ။ အဲဒီမှာ လူကြီးသုံးယောက် တွေ့ မယ်။ ခင်ဗျားထက် အများကြီး အသက်ကြီးသူတွေ၊ ခင်ဗျားကို အလွန်ချစ်ခင် ကြမယ်၊ တစ်ယောက်က ခင်ဗျားကို သားလိုထားမယ်။ ကျွန်တော် ဟောတာ ယုံပါ။ . . . ခင်ဗျား အဲဒီမှာ ကြီးပွားအောင်မြင်မယ် ဆရာ' ကျွန်တော် စတီးဝပ်၊ ဒန်းနဲ့ ဆား(လ်) တို့နှင့် တွေ့ပါတယ်။ သူတို့တွေက ကျွန်တော့်ကို အလွန်ချစ်ခင်ကြတယ်။ အထူးသဖြင့် ပါမောက္ခ စတီးဝပ်၊ သူက ကျွန်တော့်ကို သားလို စောင့်ရှောက်တယ်။ သူ့သား အကြီးဆုံးက ကျွန်တော်နှင့် ရွယ်တူ၊ စစ်ကြီးအစပိုင်း အီတလီ စစ်မျက်နှာမှာ ကျဆုံးရှာတယ်။ သူနဲ့ အဘိဓာန်လုပ်ကြတာ တစ်နှစ်ကြာတော့ သူ့စိတ်ထဲမှာ ကျွန်တော်ဟာ သူတွေ့ခဲ့သမျှ မြန်မာပညာရှင်များအနက် ယုံကြည်အားထားရဆုံး ပဲလို့ သူတွေးမိတယ်။ ဒါကို သူ့ဇနီး မြန်မာအမျိုးသမီးကြီးကို ကျွန်တော့် ရှေ့မှာ ပြောပါတယ်။ ကျွန်တော် အင်္ဂလန်မှာပဲ နေပြီး ကောလိပ်မှာ ဆက်လုပ်သင့်တယ်လို့ ဆိုတယ်။ စတီးဝပ် မကွယ်လွန်မီ တစ်ရက်အလိုက အဖြစ်အပျက်ကလေး ကျွန်တော် ယခုထိ မှတ်မိနေတယ်။ ရန်ကုန်တက္ကသိုလ် ပါမောက္ခချုပ်က အင်္ဂလန်ရောက်နေလို့ အဲဒီနေ့က ဘိရှော့စတော့ဖို့ လာပြီး ကျွန်တော်တို့ အဖွဲ့နှင့် တွေ့ပါတယ်။ သူက ကျွန်တော့်ကို မြန်မာစာ ဒုတိယပါမောက္ခအဆင့် ကမ်းလှမ်းပါတယ်။ စတီးဝပ်က စိတ်ဆိုးတယ်။ ဒီလောက်နှင့် ဘာရမလဲပေါ့။ ကျွန်တော် ဒီကောလိပ်မှာ ဆက်လုပ် ခဲ့ရင် လန်ဒန်တက္ကသိုလ် ပါမောက္ခဖြစ်နိုင်တာပဲလို့ စတီးဝပ်က ပြန်ပြောလိုက်တယ်။

## ၃၊ ၁၊ ၆မြန်မာပြည်၊ (၁၉၅၇-၅၈)

ကျွန်တော် တောင်းခံတဲ့အတွက် ကောလိပ်က ကျွန်တော့်ကို ပညာ လေ့လာရေး ခွင့်ဆယ်လနှင့် မြန်မာပြည် ပြန်ခွင့်ပေးပါတယ်။ အိမ်ပြန်ခရီးက

လွန်ခဲ့တဲ့ ၁၉ နှစ် အလာခရီးထက် ငြိမ်သက်အေးချမ်းပါတယ်။ ကျွန်တော် လီဗာပူးမှ သင်္ဘောစီး၊ တစ်လအကြာမှာ ရန်ကုန်ရောက်ပါတယ်။ ကျွန်တော့်ဆုံးရှုံးမှုတွေ အောင်မြင်မှုတွေကို ပြန်သုံးသပ်ရန် သင်္ဘောပေါ်မှာ အချိန်ရတယ်။ ကျွန်တော်တွေ့ရမည့် မြန်မာပြည်ကြီး ဘယ်လိုနေမလဲ တွေးကြည့်တယ်။ ကျွန်တော် ကိုယ့်ပြည်ကိုယ်ပြန်ရောက်တော့ အသားစားသူ ဖြစ်နေပြီ၊ အရက်လည်း သောက်ပြီ၊ ဒါတင်မက စီးကရက်ကလည်း သောက်လိုက်သေးတယ်။

ကျွန်တော့်ကို မြန်မာပြည် ပြန်ခွင့်ပေးလိုက်တာက မြန်မာဘာသာစာပေနှင့် ယဉ်ကျေးမှု လေ့လာရန်ပါ။ ဒီ ပညာပိုင်းလုပ်ငန်းကိုင်ငန်းတွေနဲ့ ပရိသတ်ကို ဒုက္ခ မပေးတော့ပါဘူး။ ဒီအစား ပိုပြီးစိတ်ဝင်စားဖွယ်ဖြစ်မည့် မြန်မာဗုဒ္ဓဘာသာဝင် ရဲ့ လူမှုဘဝအကြောင်း ပြောပါမယ်။

ကျွန်တော် ပြန်တွေ့ရတဲ့ မြန်မာများမှာ ဗုဒ္ဓဘာသာနှင့် အခြားအယူများနှင့် ပတ်သက်ပြီး အမြင်ပြောင်းလဲတာ သိပ်မရှိပါဘူး။ အရင်အတိုင်း ဗုဒ္ဓဘာသာနှစ်နှစ်ကာကာ သက်ဝင်ယုံကြည်သူတွေကို မမြင်မဖြစ် မြင်တွေ့ရပါတယ်။ ၁၉၅၆ ခုမှာ ကျင်းပခဲ့တဲ့ ဆဋ္ဌသင်္ဂါယနာပွဲကလည်း သူတို့ရဲ့ ဘာသာကိုင်းရှိုင်းစိတ်ကို အားဖြည့်ထားပါတယ်။ မြန်မာများက ယခင်ထက် ပိုပြီး ဝိပဿနာအလုပ်ကို အချိန်ပိုပေးလာပါတယ်၊ ပိုလုပ်လာကြတယ်။ သို့ပေမယ့် ပင်မတာဝန်နှစ်ရပ် ဖြစ်တဲ့ ဒါနအမှုနဲ့ သီလဆောက်တည်မှုကို လစ်လျူရှုမထားပဲ လုပ်နေပါတယ်။ တစ်ပြိုင်တည်းမှာ မှော်ဆရာသိဒ္ဓိဆရာတွေ ဘိုးတော်တွေက တစ်ဦးချင်းရောဂိုဏ်းဂဏနှင့်ပါ တိုးပွားလာနေတယ်။ သူတို့ ခံယူတဲ့ ဘွဲ့အမည် တွေကလည်း အမြင့်သား။ သိဒ္ဓိ ဘယ်လောက် စွမ်းတယ်တော့ မသိဘူး။ ကိုယ်တွေ့ဖြစ်လို့ တချို့များ သူတို့ အားထားတဲ့ နတ်တွေကို နာမည်တောင် မှန်မှန် ကန်ကန် မသိ။ နတ်အချင်းချင်း ဆက်နွယ်ပုံကိုလည်း မသိကြကြောင်းကိုတော့ ကျွန်တော် အသေအချာ ပြောနိုင် ပါတယ်။ ဒီ အနေအထားမှာ ထပ်ပြီး တွေ့ရတာကတော့ ကျွန်တော် ရန်ကုန် ရောက်ပြီး သုံးရက်မြောက်မှာ ညစာစား သွားခဲ့တဲ့ ပါမောက္ခတစ်ယောက်အိမ်က ဆီးကြိုတဲ့ မြင်ကွင်းပါပဲ။ သီးသန့် စီမံထားတဲ့ ဘုရားခန်းမှာ ဗုဒ္ဓဆင်းတုတော်များ နှင့်အတူ နတ်ရုပ်ထု များစွာ ယှဉ်လျက် တွေ့ပါတယ်။ နတ်တချို့ရဲ့ ရုပ်ထုအများ ပါတယ်။ နတ်တွေက စီးပွားကုန်သွယ်သူကို ကြီးပွားအောင် 'မ' တဲ့အကြောင်း ကျွန်တော့်ကို ပြောပြပါတယ်။ ပါမောက္ခကတော်က စီးပွားရေးလုပ်ငန်းရှင် ဖြစ် နေသူကိုး။

ဆက်ပြီး မြန်မာပြည်မှာ ကျွန်တော် ကြုံတွေ့ခဲ့တဲ့ ယုံကြည်မှုများနဲ့ ရိုးရာလုပ်လေ့လုပ်ထကို လက်လီဖောက်သည် ချပါမယ်။ ပထမအကြောင်းအရာက ရောမ ညောင်ပင်ကြီးကို ပူဇော်တဲ့ အကြောင်းပါပဲ။

## ၃၊ ၁၊ ၆၊ ၁ ညောင်ပင်ကြီး

ကျွန်တော့် မိတ်ဆွေများက ဗုဒ္ဓဘာသာ ဂူတစ်ဂူကို ခေါ်သွားပါတယ်။ တောတောင်တွေဖြတ် ဘတ်စ်ကားနှင့် သွားကြတာပါ။ ကားပေါ်မှာလည်း အလွှာစုံ လူတန်းစား အမျိုးစုံ ပါဝင်ပါတယ်။ ညောင်ပင် အကြီးကြီး တစ်ပင်ကို ရောက်တော့ ကားဆရာက ကားရပ်၊ အားလုံး ကားပေါ်က ဆင်းပြီး ညောင်ပင်ကို ကန်တော့ကြတယ်။ ဒီညောင်ပင်မျိုးက မြန်မာပြည်အနှံ့အပြားမှာ အလွန်ပေါပါတယ်။ မြန်မာတွေကလည်း ဒီအပင်တွေကို ရိုသေလေးစားကြတယ်။ မိတ်ဆွေများရောဒရိုင်ဘာက ပါ ကျွန်တော့်ကို အသေအချာ ပြောပါတယ်။ ဒီလမ်းကို လာသူအများစုက ဒီညောင်ပင် ကြီးကို ကားပေါ်ကဆင်းလို့ ဖြစ်စေ ကားထဲကပဲ ဖြစ်ဖြစ် ကန်တော့ကြပါသတဲ့။ ဒီထဲ မပါတာကတော့ ခရစ်ယာန်များနဲ့ အခြားယုံကြည်မှုလက်ခံထားသူများပဲ ဖြစ်တယ်။ အဲဒီက ဆက်ပြီး ဂူရှိရာ ခရီးဆက်ပါတယ်။ ဂူထဲက ဆင်းတုတော် တွေ ဖူးမြော်ဖို့နဲ့ အနုပညာ ပန်းပုလက်ရာများကို လေ့လာကြရန် ဖြစ်ပါတယ်။

ညောင်ပင်က မျိုးစိတ်မျိုးနွယ် အမျိုးမျိုးရှိတာ သိတော်မူကြသည့် အတိုင်းပါပဲ။ သို့သော်လည်း သာမန် မြန်မာများကတော့ ညောင်ပင်ဆိုလျှင် ဗုဒ္ဓပွင့်တော်မူတဲ့ ဗောဓိပင်နဲ့ နွယ်ပစ်လိုက်မယ်။ သို့မဟုတ်ရင် နတ်နေပင် လုပ်လိုက်မယ်။ ညောင်ပင်ကို ရိုသေရတယ်။ မထီမဲ့မြင် မလုပ်ရဘူး။ စိတ်ဝင်စားဖွယ် ညောင်ပင်ပုံပြင်တွေ အများကြီး ရှိပါတယ်။ ဒီမှာတော့ ကျွန်တော် ဘိရှော့စတော့ဖို့မှာ နေစဉ်က ဆရာသမား ပါမောက္ခစတီးဝပ်နှင့် မြန်မာဇနီးတို့ ပြောပြခဲ့တဲ့ ညောင်ပင်ပုံပြင်ပဲ ပြန်ပြောပါမယ်။

ပထမကမ္ဘာစစ်ကာလမှာ စတီးဝပ်က အထက်မြန်မာပြည်ခရိုင်တစ်ခုမှာ အရေးပိုင် (အုပ်ချုပ်ရေး အကြီးအကဲ) လုပ်ရတယ်။ သူက စစ်တပ်ထဲမှာလည်း ဗိုလ်ကြီးအဆင့်နှင့် သူ့လက်အောက်မှာ မြန်မာနှင့် အိန္ဒိယတွေပါတဲ့ ဆပ်ပါးမိုင်နာ တပ် ရှိတယ်။ ဒီတပ်က ဘုရင့် အင်ဂျင်နီယာတပ်ရဲ့ ရှေ့ဦးတပ်ဖွဲ့ပါ။

စတီးဝပ်ရုံးစိုက်ရာမြို့က မြို့လယ်မှာ ရောမညောင်ပင်ကြီး ရှိတယ်၊ ညောင်ပင်အောက်မှာလည်း နတ်ကွန်းရှိတယ်။ ညောင်ပင်နဲ့ နတ်ကွန်းက လမ်းလယ်မှာဆိုတော့ ယာဉ်သွား ယာဉ်လာ လမ်းဆို့နေတယ်။ ဘယ်သူမှလည်း မထိဝံ့ဘူး။

နောက်ဆုံးတော့ မြို့မျက်နှာဖုံးတွေက စတီးဝပ်ကို လာချဉ်းကပ်ကြတယ်။ သူက စစ်သားတွေ ဆင့်ခေါ်၊ ညောင်ပင်ကို ယမ်းစိမ်းဒိုင်းနမိုက်တွေ ကပ်ပြီး စက္ကန့်ပိုင်း အတွင်း ဖြိုပစ်လိုက်တယ်။ ရက်သတ္တ သုံးပတ်လည်းကြာရော စတီးဝပ်နဲ့ သူ့တပ် သားတွေ မက်ဆိုပိုတေးမီးယား (ယခု အီရတ်နိုင်ငံ) စစ်မြေပြင်သွားရန် အမိန့် ထွက်ပါရော။

မြို့သူမြို့သားများနဲ့ မစ္စစ်စတီးဝပ်အပါအဝင် မြန်မာစစ်သားကတော်တွေ ကတော့ သူတို့ ယောက်ျားတွေ အိမ်ပစ် ယာပစ် စစ်ထွက်ကြရတာ နတ်ကွန်းနှင့် ညောင်ပင်ကြီးကို ဖျက်ဆီးပစ်တဲ့အတွက် နတ်ကိုင်တာလို့ အကြောင်း ပြကြပါတယ်။

(လှဘေရေး အရှေ့တောင်အာရှမှ သဘာဝအထိမ်းအမှတ်များ အယ်ဒီတာ ဂျီဘီမိ (လ်)နာ၊ လန်ဒန် ၁၉၇၈ စာ ၁၀၁။)

## ၃၊၁၊ ၆၊၂ ခဲပုံကြီး

အထက်ပါ ဂူက ပြန်ထွက်သွားတဲ့အခါမှာ ကားသမားက အတော်ကလေး ကြီးတဲ့ ခဲပုံကြီးတစ်ခုရှိရာ ကားမောင်းခေါ်ပါတယ်။ ရောက်တော့ ခရီးသည်တွေ အားလုံး ဆင်းပြီး ခဲလုံးလေးတွေ သစ်ကိုင်းတွေ အပုံပေါ် ပစ်ကြပါတယ်။ ကျွန်တော် လည်း ဝင်ပါတာပေ့ါ။ အင်္ဂလန်မှာ ၁၉ နှစ် နေခဲ့ပေမယ့် ဝင်ပြီး ဆင်နွှဲချင်စရာကြီးမို့ မနေနိုင်ဘူး။ ဝင်နွှဲလိုက်တယ်။

ဒီအလုပ်ကလည်း ရှေးမင်းသားတစ်ပါးရဲ့ တပည့်နောက်ပါတွေလုပ်ခဲ့တဲ့ အတိုင်း ရိုးရာမပျက်ဆက်လုပ်ခဲ့တဲ့ ကိစ္စပါပဲ။ မင်းသားက ပုဂံမင်းဆက် (၁၀၄၄- ၁၂၈၇) မှာ နောက်ဆုံးစိုးစံတဲ့ မင်း၊ သူ့ကို အမည်ပြောင်နဲ့ 'မင်းခွေးချေး' လို့ ခေါ်ကြတယ်။ ရာဇဝင်လာ စာမူရင်းမှ ကောက်နှုတ် ပြောပါမယ်။

> "မင်းခွေးချေး မင်းဖြစ်တော်မူလိုသော် သူငယ်တော်များနှင့် ခုံညင်း ကစား ရာ တလင်းတွင် ခွေးချေးစစ်ထည့်သည်ကို မြင်လေသော် သူငယ်တော်များ ယူ၍ ပစ်ပြီးလျှင် မြေဆုပ်သစ်ခက် တစ်ယောက်တစ်လက်စီ ဖုံး၍ ဖိ၍ ပုဆစ် တုပ်ကာ ပူဇော်ကုန်၏၊ ထိုသို့ ပူဇော်သော အပုံကြီးများစွာကို မြင်လေသော် 'ဤမင်းသားသည် မကြာမတင် မင်းဖြစ်လတ္တံ့.' ဟူ၍ ပညာရှိတို့ ဆိုကြကုန်၏။"

(ဖေမောင်တင်နှင့် ဂျီအိပ်(ချ)လု(စ) အင်္ဂလိပ်ဘာသာပြန်သော မှန်နန်း ရာဇဝင်တော်ကြီးမှ Pe Maung Tin and GH Luce: The Glass Palace Chronicle of Burmese (Myanmar) Kings, London, 1923, p 158)

(အထက်စာပိုဒ်မှာ မှန်နန်းမှ မူရင်းအတိုင်းဖြစ်သည်။)

## ၃၊ ၁၊ ၆၊ ၃ ရိုးရာနတ်

၁၉၅၈ ခု နွေရာသီမှာ ဥတုကလည်း အလွန်ပူပြင်း၊ ၃၆ စင်တီဂရိတ်ထိ တက်လာတယ်။ မိတ်ဆွေတစ်ယောက်က ကျွန်တော့်ကို ကလော ခေါ်သွားပါတယ်။ ကလောက ရှမ်းပြည်နယ်တောင်ပိုင်းက တောင်စခန်းမြို့၊ ရာသီဥတုက သာယာအေးမြလို့ အင်္ဂလိပ်အရာရှိများ နွေရာသီ အနားယူအပန်းဖြေစခန်းတွေထဲက မြို့တစ်မြို့ ဖြစ်ပါတယ်။ ကျွန်တော်တို့ တည်းခိုအိမ်က ထင်ရှူးတောထဲမှာ၊ အိမ်ရှင်က ကျွန်တော့် မိတ်ဆွေရဲ့ ဦးလေး။ သူက အုပ်ချုပ်ရေး အရာရှိတစ်ယောက်ပါ။ ပြီးတော့ သူ့ကို ဘိုးတော်အဖြစ် လူသိများ ထင်ရှားတယ်။ သူကတော့ သူ့အစွမ်းကို ကုသိုလ်ဖြစ်သာ သုံးပါတယ်။

တစ်ညနေခင်း ကျွန်တော်တို့ လည်ပတ်ရာက ပြန်ရောက်ပြီး မကြာမီမှာ အိမ်ရှင်ရဲ့ ကားမောင်းသမား ဂေါ်ရခါး အပြေးအလွှားရောက်လာတယ်။ သူကလည်း အနီးအနားမှာ နေသူပါ။ အိမ်ရှင့်ထံ အမောတကော ပြေးလာတယ်။ သူပြောတာက သူ့ အိမ်ပြန်အရောက်မှာ သူ့မိန်းမက ထိန်းမနိုင် သိမ်းမရ အော်လိုက်ရယ်လိုက်၊ လူတွေ ရိုက်လိုက် ပုတ်လိုက် လုပ်နေပါတယ်။ မနိုင်ဘူး လိုက်ကြည့်ပေးပါ။ ဘိုးတော်ကိုပင့်တယ်။ ကျွန်တော်တို့ အိမ်ရှင်ဘိုးတော်က ရှမ်းလွယ်အိတ် တစ်လုံး ကောက်လွယ်ထည့်ပြီး စားပွဲပေါ်က ကြိမ်တုတ်လေးတစ်ချောင်း ကောက်ကိုင်၊ သူ့ကားသမားနဲ့ ထွက်သွားတယ်။ ကျွန်တော်တို့လည်း လိုက်သွားတယ်။ မိန်းမက ပိန်သွယ်သွယ်လေး၊ အိပ်ရာထဲမှာ လှဲနေတယ်၊ တုန်တုန်လှုပ်လှုပ်နဲ့ လှဲနေတာပါ။ ဘိုးတော်က မိန်းမကို ကြည့်ရှု စစ်ဆေးပြီး ချေထားတဲ့ ကွမ်းရွက်ပေး၊ သူ့ကို ဝါးခိုင်းတယ်။ ပြီးတော့ ဘယ်လို အရသာလဲလို့ မေးတယ်။ မိန်းမက ခါးတယ်လို့ ဖြေပြီး အိပ်ရာကထဖို့ ကြိုးစားတယ်။ အတော်တောင့်တဲ့ သူ့ယောက်ျားနဲ့ သန်မာတဲ့ သူ့မောင်နှစ်ယောက်သား မနည်း ထိန်းမှ သူ အိပ်ရာပေါ်မှာ နေတယ်။ ဘိုးတော်က သူ့ကြိမ်စကြာကို ပြတော့ မိန်းမက နည်းနည်း ငြိမ်ကျသွားတယ်။ ဒီမိန်းမကို ရိုးရာနတ်ပူးတာလို့ ဘိုးတော်က သူ့ ယောက်ျားကို ပြောပြပါတယ်။

ဘိုးတော်က ကြိုးနဲ့သီထားတဲ့ လက်ဖွဲ့တစ်ခုထုတ် မိန်းမလည်ပင်းမှာ စွပ်ပေး လိုက်တယ်။ ပထမတော့ မိန်းမက ရုန်းကန်သေးတယ်။ ဘိုးတော်က ပူးတဲ့နတ်ကို (မိန်းမကတဆင့်) ပြောလိုက်တယ်၊ နောက်ထပ်လာပြီး မနှောက်ယှက်ပါနဲ့ပေါ့။ မိန်းမက ဦးခေါင်း ဆတ်ဆတ်ခါတယ်။ ဒီတော့ ဘိုးတော်က ဂါထာမန္တာန်တစ်ပုဒ် ရွတ်ပြီး သူ့အမိန့်ပြန်တယ်၊ မိန်းမကို ကြိမ်နဲ့ ချောက်လှန့်တယ်။ ဒီတော့မှ မိန်းမက ခေါင်းညိတ်ပြီး ပြုံးလာတယ်။ နောက် စက္ကန့်အနည်းငယ်ကြာတော့ သူ

ပုံမှန် ပြန် ဖြစ်လာပါရော။ ပူးတဲ့နတ်က ထွက်သွားပါပြီ။ သူက အခန်းထဲ ဟိုဟို သည်သည် ကြည့်တယ်။ ကျွန်တော်တို့အားလုံး မတ်တပ်ရပ်နေတာမြင်တော့ ထတဲ့ပြီး သူ့ ယောက်ျားကို ကြိမ်းပါလေရော။ ကျွန်တော်တို့ကို လက်ဖက်ရည်မုန့်နှင့် ဧည့်မခံရ ကောင်းလား သူ့ယောက်ျားကို ဆူတာပါ။

## ၃၊ ၁၊ ၆၊ ၄ ပြဿဒါးနှင့် ရက်ရာဇာ

ကျွန်တော် ကလောမှ ရန်ကုန်ပြန်လာပြီး တစ်လအကြာမှာ ကျွန်တော့် ညီက လာပြောပါတယ်။ အင်္ဂလန်ပြန်ရန်အတွက် ကျွန်တော် လိုက်ချင်သော ဒါဘီရှိုင်းယားသင်္ဘော ရန်ကုန်ဆိပ်ကမ်း ဆိုက်နေပြီတဲ့။ သင်္ဘောက စီစဉ်ထားတာထက် ၁၅ ရက်စောပြီး ဆိုက်လာတာ။ ဇွန်လ ၁၃ ရက် သောကြာနေ့မှာ သင်္ဘော ပြန်ထွက်မယ်လို့လည်း သိရပါတယ်။

ကျွန်တော် သင်္ဘောထွက်ရက် စောင့်ဆိုင်းနေဆဲမှာ ဆွေမျိုးမိတ်သင်္ဂဟများ လာပြီး နှုတ်ဆက်ကြပါတယ်။ ကျွန်တော် ခရီးထွက်မည့်နေ့ သိတော့ တချို့တွေက ပြောပါတယ်။ "ဆရာ၊ ဆရာ စာတတ်ပေတတ် ပုဂ္ဂိုလ်ကြီးပဲ၊ သောကြာနေ့ ရေလမ်း ခရီး မသွားကောင်းဘူး၊ ဒုက္ခကြုံတတ်တယ် ဆိုတာ ကြားဖူးမှာပါ" လို့ ပြောပါတယ်။ နောက်တစ်ယောက်ကတော့ ထွက်ခွာမည့်ရက်က ၁၃ ရက် ဖြစ်နေတယ်လို့ သတိပေး တယ်။ မြန်မာများက ၁၃ ကို လာဘ်မကောင်းတဲ့ ဂဏန်းလို့ ယုံကြည်ကြတယ်။ ဒီဂဏန်းက ကျွန်တော့်အထင် ဝါရမိတ္တူ က လာပုံရတယ်၊ သင်္ကရိုက်စကားပါ။ အဓိပ္ပာယ်က ဟန်မကျတဲ့နေ့ တစ်နည်း ပြဿဒါးကျတယ်။ ပြဿဒါးက ဘယ်နေ့ ကျသလဲ ဆိုတာ တွက်နည်းပေးထားတယ်။ ရက်သတ္တပတ်အတွက် နေ့တစ်နေ့စီမှာ ဂဏန်းတွေ ပေးထားတယ်။ အဲဒီနေ့အတွက် ဂဏန်းကို တစ်လရဲ့ လဆန်းရက် သို့မဟုတ် လဆုတ်ရက်နှင့် ပေါင်းရမယ်၊ ပေါင်းလိုက်လို့ ၁၃ ကျခဲ့ရင် အဲဒီရက်ဟာ ပြဿဒါးပဲ။ မြန်မာတစ်လတိုင်းကို လဆန်းလဆုတ် နှစ်ပိုင်းခွဲထားတယ်။ တစ်ပိုင်း စီမှာ ၁၅ ရက်ရှိတယ်၊ ချွင်းချက်က မဂဏန်း ၁၊ ၃၊ ၅၊ ၇၊ ၉၊ ၁၁ မြောက်လများမှ ဒုတိယလဝက်က ၁၄ ရက်နေ့ပဲ ရှိမယ် (ရက်မစုံလခေါ်တယ်)။ ဝါရမိတ္တူက တနင်္ဂနွေနေ့ (ဂဏန်း၁) နှင့် ထပ်တဲ့ လဆန်း သို့မဟုတ် လဆုတ် ၁၂ ရက်များမှာ ကျတယ်။ တနင်္လာနေ့ (ဂဏန်း ၂) အတွက်ကတော့ ၁၁ ရက် ဆန်း/ဆုတ်မှာ ကျမယ်။ ကျွန်တော့် မိတ်ဆွေကောင်းများက ကျွန်တော် အဲဒီနေ့ မသွားပါနှင့်လို့ တားပါတယ်။ နောက် သင်္ဘောက ဇူလိုင်လကုန်အထိ မရှိသေးဘူးဆိုတော့ ကျွန်တော်က အလျှော့ မပေးနိုင်ဘူး။

မြန်မာအတော်အများများက ဒီအယူအဆတွေကို ဂရုမစိုက်တာမလိုက်နာတာလည်း ရှိပါတယ်။ အလားတူပဲ မြန်မာ အတော်များများ တချို့ ပညာတတ်များ အပါအဝင်ကတော့ လုပ်ငန်းကိုင်ငန်း လုပ်ဖို့ပဲဖြစ်ဖြစ် ခရီးထွက်ဖို့ပဲဖြစ်ဖြစ် ပြဿဒါး ကျတဲ့နေ့ဆိုရင် မလုပ်ချင်ကြဘူး။ ပြက္ခဒိန်မှာ ပြဿဒါးနဲ့ ရက်ရာဇာတွေ ဖော်ပြထားပါတယ်၊ အရေးကြီး ကိစ္စ လုပ်စရာရှိရင် ပြက္ခဒိန်လှန် ရက်ရွေးတာပဲ။ သို့မဟုတ်ရင်လည်း ပြဿဒါး ရက်ရာဇာတွက်တဲ့ လင်္ကာကို ရွတ်ပြီး ရက်တွက်ကြည့်မယ်။ ဒီအတွက် အက္ခရာတွေမှာ မြုပ်ကိန်းရှိတော့ အက္ခရာတွေသီ လင်္ကာဖွဲ့ထားတာကို ပြန်ဖော်ရင် ဂဏန်းတွေ ရမယ်။ ဒါ ဗေဒင်ကျမ်းတွေမှာ ပါတယ်။ ဟောဒီမှာ တစ်ပုဒ် (မြန်မာလ တစ်ဆယ့်နှစ်လ၏ အမည်များမှ ရှေ့ဆုံး အက္ခရာကို အင်္ဂလိပ်စာလုံးကြီး Capital နှင့် ရေးထားပြီး မြန်မာစာသားကိုတော့ အသံဖလှယ်ထားပါတယ်။ (အင်္ဂလိပ်ဘာသာနှင့်ရေးသားချက်အတွက် ဆိုလိုသည်)

### ရက်ရာဇာ

| | | |
|---|---|---|
| ၁ တန်ခူးလ သာ-လှ | တန်ခူးလ | သောကြာနေ့-ဗုဒ္ဓဟူးနေ့ |
| ထွန်းပ ကဆုန် | ကဆုန်လ | စနေနေ့-ကြာသပတေးနေ့ |
| နယုန် ညွန့်-စ | နယုန်လ | အင်္ဂါနေ့-အင်္ဂါနေ့ |
| အောင်-လှ ဝါဆို | ဝါဆိုလ | တနင်္ဂနွေနေ့-ဗုဒ္ဓဟူးနေ့ |
| ၂ သာ-လို ဝါခေါင် | ဝါခေါင်လ | သောကြာနေ့-ဗုဒ္ဓဟူးနေ့ |
| မြ-တောင် တော်သလင်း | တော်သလင်းလ | ကြာသပတေးနေ့-စနေနေ့ |
| သီတင်းကျွတ် ဆီ | သီတင်းကျွတ်လ | အင်္ဂါနေ့-(အင်္ဂါနေ့) |
| အော-ရီ တန်ဆောင်မုန်း | တန်ဆောင်မုန်းလ | တနင်္ဂနွေနေ့-ဗုဒ္ဓဟူးနေ့ |
| ၃ ချမ်း-လုံး နတ်တော် | နတ်တော်လ | သောကြာနေ့-ဗုဒ္ဓဟူးနေ့ |
| မိ-နော် ပြာသို | ပြာသိုလ | ကြာသပတေးနေ့-စနေနေ့ |
| မိညို တပို့တွဲ | တပို့တွဲလ | အင်္ဂါနေ့-အင်္ဂါနေ့ |
| ထဲ-ဝင် တပေါင်း | တပေါင်းလ | တနင်္ဂနွေနေ့-ဗုဒ္ဓဟူးနေ့ |

ဇယားပါ နောက်ဆုံးကော်လံမှ နေ့များက တစ်လစီအတွက် ဆိုင်ရာ ရက်ရာဇာဖြစ်ပါတယ်။ အထက်ပါ ဇယားကို သေသေချာချာ လေ့လာရင် ဒီလို တွေ့ရမယ်။

(၁) တစ်ပတ်မှာ ရှစ်[*]နေ့ ရှိသည့်အနက် ခြောက်နေ့သာ ဇယားမှာ ပါဝင်ပါတယ်။ မပါတဲ့ နှစ်နေ့က တနင်္လာနေ့ နှင့် ရာဟု။

[*] ဗုဒ္ဓဟူးနေ့ကို နှစ်ပိုင်းခွဲသည်၊ နံနက်ပိုင်း ဗုဒ္ဓဟူး၊ မွန်းလွဲပိုင်း ရာဟု သတ်မှတ်သောကြောင့် ခုနစ်ရက် သတ္တပတ်တွင် ရှစ်နေ့ ဖြစ်၏။

(၂) ဇယားမှာ ပုံစံတစ်ခု ရှိနေတယ်။

(က) ပါတဲ့နေ့ ခြောက်နေ့အနက် နေ့ငါးနေ့က အတွဲနှင့် ပါဝင်ပါတယ်။ သောကြာနဲ့ ဗုဒ္ဓဟူး၊ စနေနဲ့ ကြာသပတေး၊ တနင်္ဂနွေနဲ့ ဗုဒ္ဓဟူး။ ဒီနေ့တွေက ပထမ၊ ဒုတိယနှင့် စတုတ္ထလများမှာ ရက်ရာဇာ ဖြစ်နေတယ်၊ အင်္ဂါက အတွဲမရှိတဲ့ နေ့ဖြစ်ပြီး တတိယလအတွက် ရက်ရာဇာ ဖြစ်တယ်။

(ခ) ပထမ လေးလတစ်စုအတွက် ရက်ရာဇာများက ဒုတိယ လေးလ အစုနဲ့ တတိယလေးလ အစုတွေမှာ ဒီအတိုင်း ပြန်ပေါ်တယ်။

အလားတူပဲ ပြဿဒါးရက်ရွေးဖို့ ဂဏန်းမြှုပ်အက္ခရာမှတ်လင်္ကာ ရှိပါတယ်။ ဒီမှာလည်း ပုံစံပေါ်ပါတယ်၊ ရက်ရာဇာတုန်းကနဲ့ ဆင်ဆင်ပဲ၊ သို့သော် ခြောက်နေ့ မဟုတ် ရှစ်နေ့ ဖြစ်တယ်။ ဂဏန်းမြှုပ်လင်္ကာက 'တ-မာ၊ သက်-ရင်း၊ အင်-ကြင်း၊ ဆူး-ရစ်' အားလုံး အပင်လေးပင် နာမည်တွေပါ။ ပထမအုပ်စုဝင် လေးလအတွက် ပြဿဒါးနေ့တွေကို ကိုယ်စားပြုပါတယ်။ ဒုတိယအုပ်စုနဲ့ တတိယ အုပ်စုလတွေ အတွက်လည်း ဒီအတိုင်း ပြန်ထပ်ပါတယ်။ ဒီမှာလည်း နေ့နှစ်နေ့ အတွဲလေးတွဲ နောက်ထပ်နှစ်ကြိမ် ကြော့ပြီး ဆယ့်နှစ်လအတွက် လာပါတယ်။

### ပြဿဒါးနေ့များ

| | | |
|---|---|---|
| တ-မာ | စနေနေ့-ကြာသပတေးနေ့ | (တန်ခူးလအတွက်) |
| သက်-ရင်း | သောကြာ-ဗုဒ္ဓဟူး | (ကဆုန်လအတွက်) |
| အင်-ကြင်း | တနင်္ဂနွေ-တနင်္လာ | (နယုန်လအတွက်) |
| ဆူး-ရစ် | အင်္ဂါ-ရာဟု | (ဝါဆိုလအတွက်) |

(ဒုတိယလေးလနှင့် တတိယလေးလအတွက် ဒီအတိုင်း ပြန်လာမယ်)

ပြောစရာတစ်ခု ရှိတာက ဒုတိယအကြောင်းမှာပါတဲ့ သက်-ရင်းထဲက 'ရင်း' ကိစ္စ။ အက္ခရာ 'ရ' ကို ဇယားမှာ ရာဟု အောက်မှာ ပြထားတယ်။ ဒီမှာတော့ ဘယ်လို ဖြစ်တယ် မသိဘူး၊ ဗုဒ္ဓဟူး ဖြစ်နေတယ်။

(နောက်ဆက်တွဲ ရှုပါ)

## ၃၊ ၁၊ ၇ အင်္ဂလန် (၂)

၁၉၅၈ ခု ဇွန်လ ၁၃ ရက် သောကြာနေ့မှာ ကျွန်တော် ဒါဘီရှိုင်းယား သဘော်နှင့် အင်္ဂလန် ပြန်ခဲ့ပါတယ်။ အိန္ဒိယသမုဒ္ဒရာက လှိုင်းလေ အလွန်ထန်တယ်၊ အာရေဗျပင်လယ်က ပိုဆိုးတယ်။ တောင်လောက်ကြီးတဲ့ လှိုင်းတွေကြားမှာ သဘော်က လိမ့်လိုက် မြောက်လိုက် ကျလိုက် ပြောင်းဆန်နေတယ်၊ ဒါထက်ဆိုးတာက

လာဦးမယ်။ အေဒင်မြို့ဆီ ဦးတည်ပြီး လှိုင်းလေအန်တု ခုတ်မောင်းလာစဉ်မှာ လေမုန်တိုင်းကြီး လာနေပါတယ်။ အေဒင်မြို့က သင်္ဘောရဲ့ အနောက်မြောက်မှာ။ မုန်တိုင်းက အနောက်တောင်က လာတယ်။ သင်္ဘောလမ်းကြောင်းကို ပြောင်းရတယ်။ အနောက်စူးစူးဘက်လှည့်ရတော့ လာနေတဲ့ မုန်တိုင်းဆီ တည့်တည့်နီးပါး သွားနေရပြီ။ အေဒင်မရောက်ဘဲ ဂျီဘူတီရောက်သွားပါတယ်။ သူ့ဆိုက်ရမယ့် ဆိပ်ကမ်းရောက်ဖို့ သင်္ဘောက အာဖရိက ကမ်းရိုးတမ်းကို ကပ်ပြီး ခုတ်မောင်းသွားရတယ်။ နောက်ဆုံးတော့ အေဒင်ကို ရောက်ပါတယ်။ မြန်မာခရီးသည်များကတော့ ခံရတဲ့ ဒုက္ခသုက္ခအပေါင်းနဲ့ ခရီးလမ်းမချောတဲ့ အဖြစ်ကို ထွက်လာတဲ့ ပြဿဒါးနေ့ပဲ အပြစ်ဖို့ကြပါတယ်။

အကုသိုလ်သည် တစ်ခုတည်း လာခဲတယ်။ ပင်လယ်နီ (ရက်ဆီး) ထဲရောက်တော့ သင်္ဘောအင်ဂျင်တစ်လုံး ပျက်တယ်။ ပို့ဆူးအက်ကို ရောက်တော့ ကောလဟာလတွေ ကြားရတယ်။ ကျွန်တော်တို့ သင်္ဘောကို ဆူးအက်တူးမြောင်းဖြတ်ပြီး မြေထဲပင်လယ် (မက်ဒီတာ ရေနီယံပင်လယ်) ကို ဝင်ခွင့်မပေးဘူး သတင်းဖြစ်နေတယ်။ ပရိသတ်ထဲမှ တချို့ သတိရပါလိမ့်မယ်။ ၁၉၅၆ ခု ဆူးအက်အရေးအခင်းနဲ့ နောက်ဆက်တွဲကိစ္စတွေ။ ခရီးသည် တချို့လည်း ကေ့အော့ဂွတ်ဟုပ် (အာဖရိတောင်စွန်းအငူ) က လှည့်ပတ်သွားကြရတော့မှာပဲလို့ တွေးမိလာပြီ။ အဲဒီကသာသွားရရင် ခရီးက နောက်ထပ် နှစ်လကြာတော့မယ်။ တချို့ကလည်း ကျွန်တော်တို့ သင်္ဘောကို အီဂျစ်က ထိန်းသိမ်းထားမှာ။ ဗြိတိသျှနဲ့ အီဂျစ်အစိုးရတို့ သဘောတူညီချက် မရမချင်း သင်္ဘောကို လွှတ်ပေးမှာ မဟုတ်ဘူးလို့ စိုးရိမ်လာကြတယ်။ ဒီမှာလည်း ကသိကအောက် ဖြစ်သမျှအတွက် ပြဿဒါး သောကြာနေ့နဲ့ ၁၃ ရက်ကိုပဲ အပြစ်တင်ကြပြန်တယ်။ အရေးပေါ်နေတဲ့ ဒီနာရီအနည်းငယ်အတွင်း ဘာတွေဖြစ်နေတယ်တော့ ကျွန်တော် မသိပါဘူး။ သင်္ဘောကပ္ပတိန်ကတောင် ကျွန်တော်တို့ကို ဘာမျှ ပြောမပြပါဘူး။ ဘာတွေ ဖြစ်ခဲ့ဖြစ်ခဲ့၊ နောက်နာရီအနည်းငယ် အကြာမှာတော့ ကျွန်တော်တို့ မြေထဲပင်လယ်ထဲ ဝင်လာခဲ့ပါပြီ၊ အားလုံး ပျော်ပျော်ပါးပါး ပေါ့။

၁၉၅၈ မှ ၁၉၈၀ ပြည့်နှစ် ကြားကာလမှာ ကျွန်တော် အင်္ဂလန်မှာပဲ မြန်မာ ဗုဒ္ဓဘာသာလို နေပါတယ်။ ဒီကြား ၁၉၇၉ ခုမှာ ရန်ကုန်တစ်ခေါက် ပြန်ရောက်ခဲ့တယ်၊ ကျွန်တော့်ဘ၀ဇာတ်ကြောင်း ဆက်ပြောရရင် ကျွန်တော် ဟောပြောတဲ့ အကြောင်းအရာနှင့် ဘောင်ဝင်ပါတယ်။ ပရိသတ်ကြီးကိုလည်း စိတ်ဝင်စားဖွယ်နှင့် နှီးဆွမိမှာပါ။ ပြောစရာက အားလုံး အချက်သုံးချက်ပါပဲ။ ကျွန်တော် ဗုဒ္ဓဘာသာဝင်

တစ်ယောက်ရဲ့ အဓိကတာဝန်သုံးရပ် ဆောင်ရွက်ပါတယ်၊ ဒီတာဝန်သုံးရပ် အကြောင်း နောက်နေရာမှာ ပြောပါမယ်။ ပါမောက္ခ ဇေ့ဗ်အေစတီးဝပ် မသေမီနာရီ အနည်းငယ်က နိမိတ်ဖတ်တဲ့အတိုင်း ၁၉၆၆ ခုမှာ လန်ဒန်တက္ကသိုလ် ပါမောက္ခ ဖြစ်လာပါတယ်။ နောက် ကျွန်တော့်ဇနီးရဲ့ ဆန္ဒကို ဖြည့်ဆည်းပြီး ၁၉၈၀ ပြည့်နှစ်မှာ မြန်မာပြည်ပြန်တဲ့ ဘဝသစ်ပါပဲ။

## ၃၊ ၂ လူ့လတ်ပိုင်း

မြန်မာဗုဒ္ဓဘာသာတစ်ယောက်ရဲ့ ဘဝဇာတ်လမ်း နောက်ခံကို သူနေထိုင်ရာ မြန်မာပြည် ပြန်ရွှေ့ပြီး ကျွန်တော် ဆက်ပြောပါတော့မယ်။ လူငယ်ဘဝမှ လူလား မြောက်ချိန် လူ့လတ်ပိုင်းဝင်ချိန်မှာ (ရှင်ပြုအပြီး) မှာ ဇာတ်လမ်း ခေတ္တဆိုင်းထားခဲ့တာ ပရိသတ် သတိရပါလိမ့်မယ်။ ဒါက ကျွန်တော့် ကိုယ်ပိုင်အတ္ထုပ္ပတ္တိကို အကျဉ်း ပြောပြီး သူယုံကြည်ပြီး လိုက်လုပ်တဲ့ ရိုးရာထုံးတမ်းတွေကို မီးမောင်း ထိုးပြချင်လို့ပါ။ ဒီမှာတော့ ဘဝကဏ္ဍအစုံမှ သဲလွန်စကြိုးကို ဆွဲယူပြီး အားလုံး စုပေါင်း ပုံဖော် ပါမယ်။ မြန်မာတစ်ယောက်ကို လူ့လတ်ပိုင်းပုံ ပီပီပြင်ပြင် အမှတ်လက္ခဏာ ပေါ်လွင် စေတဲ့ ပုံရိပ်ကို ဖော်ပါမယ်။ သူ့ရဲ့ ဘဝခရီး ယခု လူ့လတ်အပိုင်းအတွက်ရော နောက်လာမည့် အပိုင်းများအတွက်ပါ အချက်အလက်များကို ကျွန်တော့် ကိုယ်ပိုင် အတွေ့အကြုံမှ တချို့မှ ယူပါမယ်၊ တချို့တော့ ကျွန်တော် မြင်တွေ့ကြား သိသမျှ က ပါပါလိမ့်မယ်၊

လူပျိုပေါက် ဘဝ လွန်မြောက်လာတဲ့ မြန်မာဗုဒ္ဓဘာသာက ထိမ်းမြားလက်ထပ် ပါမယ်၊ အိမ်ထောင်သည် ဘဝနဲ့ နေပါမယ်။

## ၃၊ ၂၊ ၁ လူမှုဆက်ဆံရေးနှင့် အိမ်ထောင်ရေး

ထိမ်းမြားလက်ထပ်ခြင်း သို့မဟုတ် အိမ်ထောင်သည်ဘဝအစကို မြန်မာအသုံး အနှုန်း သုံးမျိုးနဲ့ ဖော်ပြပါတယ်။ 'မင်္ဂလာဆောင်သည်'၊ 'လက်ထပ်သည်'၊ 'စုလျား ရစ်ပတ်သည်'။ စုလျားက အဝတ်ဖြူစပါပဲ။ သုံးမျိုးစလုံးက ထိမ်းမြားပွဲ ရိုးရာ လုပ်ထုံးမှာ ပါရတဲ့ ကိစ္စတွေပါ။ ထိမ်းမြားခြင်းက မြန်မာဗုဒ္ဓဘာသာမှာ ပေါ်လွင် ထင်ရှားတဲ့ တစ်ခုတည်းသော ထုံးတမ်းစဉ်လာပါ။ ဒီအစဉ်အလာက သူ့ရဲ့ ဘဝ အမြင်ကို ရှုထောင့်စုံမှာ ရောင်ပြန်ဟပ်ပါတယ်၊ သူလက်ခံသည့် စံချိန်စံညွှန်းနှင့် တန်ဖိုးများ၊ ယုံကြည်မှုနှင့် ကျင့်သည့်ရိုးရာများဆိုတဲ့ ယဉ်ကျေးမှု အစိတ်အပိုင်း

များက ထိမ်းမြားခြင်းကဏ္ဍမှာ ပါဝင်နေပါတယ်။ ထိမ်းမြားခြင်းက ဆွေမျိုးမတော် လိင်မတူကြတဲ့ လူသားနှစ်ဦး သဘောတူ ပေါင်းသင်းနေထိုင်တဲ့ အစဉ်အလာပါပဲ။ ကာယကံရှင် နှစ်ဦးက သီးခံခြင်း၊ အပြန်အလှန် လေးစားရိုသေခြင်း၊ နားလည်မှုနှင့် အချစ်မေတ္တာ အခြေခံပြီး ဘ၀တစ်သက်တာ သို့မဟုတ် အိမ်ထောင်ကွာရှင်းပြီးသည် အထိ အတူတကွ နေထိုင်ပါမယ်လို့ သဘောတူကြတဲ့ ကိစ္စပါ။ တစ်နည်းအားဖြင့် တော့ လူလူချင်း ဆက်ဆံရေးတွေထဲမှာ အမြင့်ဆုံး ဆက်ဆံရေးပါ။ မိဘနဲ့ သားသမီး၊ ဆရာနဲ့ တပည့်၊ မိတ်ဆွေအချင်းချင်း၊ ဆွေမျိုးချင်း စတဲ့ ဆက်ဆံရေးတွေက ကိလေသာကင်းတဲ့ ၅၂၈ သွယ်သော မေတ္တာအခြေခံ ဆက်ဆံရေး ဖြစ်ပါတယ်။

ရှေးဦးစွာ ခုပြောတဲ့ လူမှုဆက်ဆံရေးပိုင်းတွေကို အရင်ပြောပြီး ရွှေချည်ထိုး ကားကြီးတစ်ခုပမာ ပုံဖော်သွားပါမယ်။ အဆုံးမတော့ ထိမ်းမြားခြင်းဆိုတဲ့ လူ့အစဉ် အလာကို သူ့ရှုရင်းအတိုင်း ပုံပေါ်စေပါလိမ့်မယ်။

## ၃၊၂၊ ၁၊ ၁ မိဘနှင့် သားသမီး

မိဘများအတွက် ဝတ္တရားငါးပါးနှင့် အတူ အစဉ်အဆက် စောင့်ထိန်းလာသည့် အစဉ်အလာ၊ အတွေးအမြင်၊ ယုံကြည်မှု ထုံးတမ်းနှင့် မြန်မာဗုဒ္ဓဘာသာတို့ လက်ခံခဲ့သမျှဟာ မိဘက သားသမီးအပေါ်ထားတဲ့ မေတ္တာကို ချိုင့်ပြနေပါတယ်။ မိဘဝတ္တရားများက

၁။ မကောင်းတာ မလုပ်အောင် တားမြစ်ခြင်း

၂။ ကောင်းမှုကောင်းရာကို ညွှန်ပြခြင်း

၃။ အတတ်ပညာသင်ကြားပေးခြင်း

၄။ လုပ်ကိုင်စားရန် အရင်းအနှီးပေးခြင်း

၅။ လက်ထပ်ထိမ်းမြားပေးခြင်း

လင်္ကာ။ ။ မကောင်းမြစ်ထာ၊ ကောင်းရာညွှန်လတ်၊ အတတ်သင်စေ၊
ပေးဝေနှီးရင်း၊ ထိမ်းမြားခြင်း။

မိဘမေတ္တာကို 'သားတို့ ရုပ်ရည်၊ သီတာမည်သား၊ ရေကြည်ချမ်းမြ၊ တစ်ပေါက်ကျက၊ မိဘတို့ဝမ်း၊ ငြိမ်းစတမ်း' ဆိုတဲ့ ဆိုရိုးစကားက ကောင်းကောင်း ဖော်ပြနေပါ တယ်။ သားသမီးအပေါ် သံယောဇဉ်ကြီးပါတယ်။ 'တောင်းဆိုးပလုံးဆိုး သာ ပစ်ရတယ်၊ သားဆိုး သမီးဆိုး မပစ်ရ' ဆိုတဲ့ စကားပုံကလည်း ဒီသံယောဇဉ်က ပေါ်လာတာပါ။ မိဘများက သားသမီးကို သူတို့နှင့် အတူ ကြာနိုင်သမျှ ကြာကြာ မခွဲမခွာ နေစေလိုတယ်။ ရှိတဲ့ ပစ္စည်းတွေကိုလည်း ခွဲဝေ သုံးစွဲစေချင်တယ်။

နောက်ဆုံး ဝတ္တရားက ညွှန်တဲ့အတိုင်း သားသမီး ကောင်းကောင်းမွန်မွန် အိမ်ထောင်ရက်သား ကျတာလည်း ကြည့်လိုမြင်လိုတယ်။

သားသမီး ပြုစုကြတာကလည်း နိုင်ငံသားကောင်း ဖြစ်လာစေဖို့ တာဝန်သိ သားသမီး ဖြစ်လာစေလိုတဲ့ ဆန္ဒမှ လာပါတယ်။ 'လက်ဦးဆရာ မည်ထိုက်စွာ ပုပ္ပာစရိယ မိနှင့်ဖ' လို့ ရှေးဟောင်းဆောင်ပုဒ်က ဆိုတယ်။ မိဘများက ဒီအဆိုရဲ့ လိုရင်းသာမက စာသားအဓိပ္ပာယ်နဲ့ပါ ကိုက်အောင် ကျင့်ကြံကြတယ်၊ ဒါမှလည်း အသိုင်းအဝန်း ပတ်ဝန်းကျင်က 'မိကောင်းဖခင် သားသမီး' လို့ မြင်တယ်။ 'သားသမီး မကောင်း၊ မိဘခေါင်း' ဆိုတဲ့ စကားကိုလည်း လူတိုင်းသိထားတော့ မပေါ့ဆကြဘူး။ ကမ္ဘာတစ်ဝန်းမှ မိဘအားလုံး နည်းတူ သားသမီးများကို 'ဆင်စီးပြီး မြင်းရံတာ' မြင်ချင်ကြတယ်။ 'ဆင်နင်း မြင်းကန်ခံရတာ' မလိုလားကြပါဘူး။ မိဘနှင့် သားသမီးကြား သံယောဇဉ် နှောင်ဖွဲ့မှုက မြန်မာပြည်မှာ အနောက်တိုင်းထက် ခိုင်မြဲပါတယ်။

သားသမီးက မိဘကို ချစ်ခင်ရိုသေတာကလည်း ချွင်းချက်မရှိ လူတိုင်းပါပဲ။ မိဘကျေးဇူးအကြောင်း ကြားရ၊ သင်ရ၊ စာအုပ်စာပေမှာ ဖတ်ကြရပါတယ်။ 'မိဘကျေးဇူး မြင့်မိုရ်တောင်ဦး မကကျူး' လို့လည်း ဆိုရိုးစကား တစ်ခုရှိသေးတယ်။ မြင့်မိုရ်တောင်အကြောင်း ပြောခဲ့ပါပြီ၊ စကြဝဠာမှာ အမြင့်ဆုံးတောင်၊ လေကျွန်း ဗဟိုမှာ။ မြောက်ကျွန်း၊ တောင်ကျွန်း၊ အရှေ့ကျွန်း၊ အနောက်ကျွန်းဆိုတဲ့ ကျွန်းကြီး လေးကျွန်း ဝန်းရံနေတယ်။ လူလားမြောက်တဲ့ သားသမီးတွေက မိဘကို လုပ်ကျွေး သမှု ပြုတယ်၊ အိုမင်းမစွမ်း မိဘများကို စောင့်ရှောက်ကူညီတယ်။ မိဘက ကိုယ့်ကို လူလားမြောက်သည်အထိ ကျွေးမွေးပြုစုခဲ့တဲ့ ကျေးဇူးဆပ်ကြတာပါ။ မိဘများကို လည်း အနန္တော အနန္တ ငါးပါးစာရင်း သွင်းထားတယ်။ သားသမီးအများစုက သူတို့ ဝတ်ငါးပါးကို သိပါတယ်။

သားသမီးဝတ် ငါးပါးက

၁။ မိဘကို လုပ်ကျွေးခြင်း၊

၂။ မိဘတို့၏ အမှုကိစ္စကို ဆောင်ရွက်ပေးခြင်း၊

၃။ မိဘမျိုးနွယ်ကို စောင့်ထိန်းခြင်း၊

၄။ အမွေထိုက်ခံအောင် ပြုကျင့်ခြင်း၊

၅။ မိဘအတွက် ကုသိုလ်ကောင်းမှုပြု၍ အမျှဝေခြင်း

လင်္ကာ ။ ။ ကျွေးမွေးမပျက်၊ ဆောင်ရွက်စီမံ၊ မွေခံထိုက်စေ၊ လူမျှဝေ၍၊
စောင့်လေမျိုးနွယ်။

## ၃၊ ၂၊ ၁၊ ၂ ဆရာနှင့်တပည့်

မိဘနှင့် သားသမီး ဆက်ဆံရေးကို ဆရာတပည့် ဆက်ဆံရေးက အပြိုင်ယှဉ်လျက် ရှိပါတယ်။ တပည့်တို့အတွက် ဆရာက ဒုတိယမိဘပါ။ ဆရာက တပည့် ကိုယ်ကျင့်မှာ စိတ်ချမ်းသာပြီး ဉာဏ်ပညာမှာ ဖွံ့ဖြိုးစေဖို့နဲ့ ဘာသာရေး ကိုင်းရှိုင်းစေရန် အမြဲ နှလုံးသွင်းထားပါတယ်။ ဆရာက တပည့်ရဲ့ သင်ကြား ပြသူဖြစ်တဲ့အပြင် အကြံပေး နမူနာပြ ပုဂ္ဂိုလ်လည်း ဖြစ်ပါတယ်။ တပည့်က ဆရာကို ယုံကြည်အားထားပြီး သစ္စာလည်း ခံရပါတယ်။ အဲဒါတွေကိုလည်း ဆရာက အလွဲမသုံးမိအောင် ထိန်းရပါ တယ်။ မိုက်မှားမိသည့် တပည့်ကို ဆရာက ဆုံးမရန် ဝန်မလေးဘူး။ 'တပည့်မကောင်း ဆရာခေါင်း'လို့ စကားပုံက ဆိုထားမဟုတ်လားလို့ ဆရာက ပြောစရာရှိတယ်။ ဆရာ့ တာဝန်က တပည့်အားလုံး လူကောင်း သူကောင်း ဖြစ်လာစေရန် ပုံသွင်းပေးဖို့ပါပဲ။

ဆရာ့ဝတ်ငါးပါးကတော့

၁။ တတ်သိစရာ အတတ်ပညာများ သင်ကြားပေးခြင်း၊
၂။ မိမိ တတ်သမျှ မချွင်းမချန် သင်ပေးခြင်း၊
၃။ (ပိုမိုတက်သိစေရန်) သင့်တော်ရာ အခြားဆရာများထံ အပ်နှံပေးခြင်း၊
၄။ လိမ္မာအောင် ဆုံးမ ပြုပြင်ပေးခြင်း၊
၅။ ဘေးအန္တရာယ်မှ ကာကွယ်ပေးခြင်း။
လင်္ကာ ။ ။ အတတ်လည်းသင်၊ ပဲ့ပြင်ဆုံးမ၊ သိပွမချန်၊ ဘေးရန်ဆီးကာ၊
သင့်ရာအပ်ဖို့။

ရှေးခေတ်တပည့်များက ဆရာနှင့် ပိုမိုရင်းနှီးမှု ရှိပုံရပါတယ်။ ပါဠိဝေါဟာရ 'အဋ္ဌေဝါသိက' အဓိပ္ပာယ် 'အတူနေ' က ညွှန်ပြတဲ့ အတိုင်း တပည့်အများအပြားက ဆရာ့ခြေရင်းမှာ သင်ကြားမှတ်သားပြီး ဆရာအတွက် ဝတ်ကြီး ဝတ်ငယ် ပြုကြပါ တယ်။ ဆရာကြီးက သူ့တပည့်ကို သမီးရင်းနှင့် ထိမ်းမြားပေးတဲ့ ပုံပြင်တွေ အများကြီး ရှိပါတယ်။ ဒီခေတ်မတော့ ရှေးကလို မဟုတ်တော့ပါ။ သို့သော်လည်း အများစုက ဆရာကို မိဘနှင့်အတူ အနန္တော အနန္တ ငါးပါးဝင်အဖြစ် ရိုသေ လေး မြတ် ကြဆဲပါ။ သုတရရန် ဆရာကို အားကိုးတယ်၊ အတော်များများက ဆရာ့စကား မြေဝယ်မကျ မှတ်တယ်။ ဆရာကို ရိုသေမှုနှင့်အတူ လိုက်လျောညီထွေလုပ်တဲ့ အကျင့်က ဆရာ့အပေါ် ယုံကြည်မှု ဖြစ်လာတယ်။ ဒီယုံကြည်မှုနဲ့ အတူပါတဲ့ ဆရာ ပြောသမျှကို ဘုရားဟောဒေသနာသဖွယ် အမှန်လို့ မှတ်ယူတဲ့ အကျင့်မှာ ပျော့ ကွက်တစ်ခု ရှိနေပါတယ်။ တပည့်ကို ကိုယ်ပိုင်အစွမ်းအစ နည်းစေတယ်၊ အရေးကြီး

တဲ့ ပြဿနာတွေကို ဝေဖန်စိတ်ဖြာကြည့်တဲ့ အလေ့အကျင့် မလုပ်အောင် ဟန့်တားတယ်။ အစဉ်အလာ ချမှတ်လာတဲ့
တပည့်ဝတ်ငါးပါးကတော့

၁။ ထထကြွကြွ ကြိုးစားအားထုတ်ခြင်း၊

၂။ ဆရာဆုံးမသွန်သင် အကြံပေးသည်ကို နာခံခြင်း၊

၃။ သင်ကြားပေးသမျှကို သင်ယူကျက်မှတ်ခြင်း၊

၄။ ဆရာလာသောအခါ ကောင်းစွာ ခရီးဦးကြို နှုတ်ဆက်ခြင်း၊

၅။ ဆရာ့ထံပါးဝယ် ပြုဖွယ်အလုပ်ကိစ္စများ လုပ်ပေးခြင်း။

လင်္ကာ ။ ။ ညီညာထကြွ၊ ဆုံးမနာယူ၊ လာမူကြိုဆီး၊ ထံနီးလုပ်ကျွေး၊ သင်တွေး အံရွတ်။

## ၃၊ ၂၊ ၁၊ ၃ မိတ်ဆွေအချင်းချင်း

အပေါင်းအသင်းကို ခေါ်ဆိုတဲ့ ဝေါဟာရနှစ်ခုက 'ရဲဘော် သို့မဟုတ် မဟာမိတ်' အဓိပ္ပာယ် ဆောင်တဲ့ မိတ်ဆွေနဲ့ သူငယ်ချင်း 'ငယ်စဉ်မှာ အတူဖြစ်ခဲ့သူ'။ သူငယ်ချင်း နှစ်ယောက်ကြား စည်းနှောင်တဲ့ သံယောဇဉ်ကလည်း အလွန် သန်မာပါတယ်။ မိတ်ဆွေများ 'တစ်လှေတည်း စီးပြီး တစ်ခရီးထဲသွား' ကြရတယ်။ ပျော်ရွှင်စရာရော ပူဆွေးဝမ်းနည်းစရာကိုပါ သူငယ်ချင်းချင်း မျှဝေခံစားရတယ်။ အေးအတူ ပူအမျှ နေကြရတယ်။ မိတ်ဆွေရင်းချာ ဖြစ်ဖို့ စွန့်ရတယ်၊ သစ္စာရှိရတယ်။ ဒီလိုအပ်ချက် အတိုင်း မကိုက်ညီသူတွေက သာယာပေါင်းမိတ်မျှသာ ဖြစ်ပါတယ်။

မိတ်ဆွေရွေးချယ်နည်းနဲ့ မိတ်ဆွေများအပေါ် ဆက်ဆံပြုမူပုံကို ညွှန်တဲ့ မြန်မာ ဆုံးမစာ လင်္ကာတွေ မနည်းလှပါဘူး။ ပြီးတော့ မြန်မာ မိဘများကလည်း သားသမီးများ လူပေါင်းမမှားမိစေရန် တဖွဖွ ဆုံးမလျက်ပါ။ လူပေါင်းမှားခဲ့ရင် သူ့ အသိုင်းအဝန်းမှာ သိက္ခာကျမယ်။ သူပါတဲ့ လူ့အဖွဲ့အစည်းပါ ဂုဏ်သိက္ခာထိမယ်။ အကျင့်ဆိုးဆိုတာ ကူးစက်မြန်တယ်။ ရှေးရှေးစကားပုံက 'ခွေးတောက် သရက်မြစ်ချင်း ယှက်မူ အသီးချိုမှာ အခါးပါလျက် ရသာပျက်' လို့ ဆိုပါတယ်။ မိတ်ဆွေတစ်ယောက် တစ်ကြိမ်တစ်ခါ မစစ်မှန် ဟန်မကျရုံမျှနှင့် ဆက်ဆံရေးကို 'သစ်ချိုး ဝါးချိုး မချိုးရ' လို့ မြန်မာအဆုံးအမလည်း ရှိပါတယ်။ ဟန်မကျခဲ့ရင် ဖြည်းဖြည်းနှင့် ညင်ညင်သာသာ ဖြတ်ရပါမယ်။

## ၃၊ ၂၊ ၁၊ ၄ ဆွေမျိုးအချင်းချင်း

သာယာပေါင်း မိတ်ဆွေများ ရှိသလို 'သာယာပေါင်းဆွေမျိုးများ' လည်း ရှိပါတယ်။ ဒါက ကျွန်တော်ရဲ့ ဝေါဟာရ ထွင်လုံးပါ။ မြန်မာများကတော့ 'ရွှေရှိမှ အမျိုးတော်တယ်' ဆိုတဲ့ ကိုယ့်အတွက်သာရှာတဲ့ ဆွေမျိုးများကို ခေါ်စရာ စကားရှိပြီးသားပါ။ 'ဆွေမျိုး' ကို 'ရွှေမျိုး' အဖြစ် စကားလုံးပြင်ပြီး ငွေဥစ္စာရှိမှ အမျိုးတော်ချင်သူအတွက် သုံးနှုန်းပါတယ်။ အမျိုးကောင်းကတော့ အရေးဆိုလျှင် ကူညီထောက်ပံ့ရန် အသင့်ရှိနေမယ်။ မြန်မာဗုဒ္ဓဘာသာဝင်များစိတ်မှာ သတိရနေမည့် ဘုရားဟော ၃၈ ဖြာ မင်္ဂလာထဲက မင်္ဂလာတစ်ပါး ရှိပါတယ်။ 'ဉာတကာ နဉ္စ သင်္ဂဟော' ဆွေမျိုးဉာတိတို့အား ထောက်ပံ့ပေးကမ်းခြင်းသည် မင်္ဂလာဖြစ်ပါတယ်တဲ့။ အလွန်မွန်မြတ်တဲ့ ဒီမင်္ဂလာတရားကို စာဆိုအတိုင်း တသဝေမတိမ်း ကျင့်ကြံလို့ လွန်လွန်ကဲကဲတွေ ရှိတာ ယုံမှားဖွယ် မရှိပါဘူး။ မြန်မာဘုရင်များ ခေတ်အခါထဲက အမျိုးကို ထောက်ပံ့ပေးကမ်းလွန်းလို့ 'သားတူညီများ ကောင်းစားရေး' ဖြစ်ခဲ့တာတွေ အများကြီးပါပဲ။ မှတ်တမ်းရှိတဲ့ သမိုင်းတလျှောက်လုံး ဥစ္စာကြွယ်ဝြဇာရှိတဲ့ မြန်မာအများက ဒီအတိုင်း ကျင့်ကြံခဲ့ကြပါတယ်။ ယခုခေတ်မှာလည်း အတော်အသင့် ပြည့်စုံကုံလုံတဲ့ မြန်မာတစ်ယောက်က ဆွေမျိုးအရင်းအချာတွေရော၊ ဆွေမျိုးနီးစပ်တွေပါ အိမ်ပေါ်အပြည့်တင်ကျွေးထားတာများ ရှိပါတယ်။ 'သစ်တစ်ပင်ကောင်း ငှက်တစ်သောင်းခိုသာ' ဆိုတဲ့ စကားကလည်း ရှိထားတယ် မဟုတ်လား။

## ၃၊ ၂၊ ၁၊ ၅ ယောကျ်ား မိန်းမ ဆက်ဆံရေး

ယခု အမျိုးမတော်တဲ့ ယောကျ်ားနှင့် မိန်းမ ဇနီးမောင်နှံအဖြစ် ပေါင်းသင်းနေထိုင်မှု တစ်နည်းအားဖြင့် အိမ်ထောင်ရေးအကြောင်း ရောက်လာပါပြီ။

'ဖွား'၊ 'ညား'၊ 'သွား' ဆိုတဲ့ စကားသုံးလုံး လျှာသွက်သူတစ်ဦးက ထွင်စဉ်သုံးထားတာ ရှိပါတယ်။ မွေးဖွားတယ်၊ အိမ်ထောင် ကျတယ် (ညားတယ်)၊ သေဆုံးတယ်လို့ အဓိပ္ပာယ်ရပါတယ်။ ကာယကံရှင် နှစ်ယောက် ညားအောင်လုပ်ပေးတဲ့ အကြောင်းတရားတစ်ခု ရှိတယ်။ ဒီတရားကို အနောက်တိုင်းသားကတော့ ကြမ္မာ သို့မဟုတ် အချစ်လို့ ဆိုလိမ့်မယ်။ မြန်မာဗုဒ္ဓဘာသာကတော့ နဖူးစာ သို့မဟုတ် ကံလို့ ဆိုလိမ့်မယ်။

အိမ်ထောင်ရေးမှာ နဖူးစာပါတယ်လို့ မြန်မာများ ယုံကြည်ပါတယ်။ နဖူးမှာ စာရေးထားတယ်လို့ တင်စားတာပါ။ နဖူးမှာ စာပါသူကတော့ သူနဲ့ တွဲဖက်ထားပြီး သူနှင့် အကြောင်းပါမယ်၊ လက်ထပ်ရမယ်။ နဖူးမှာ စာမပါသူကတော့ အပျိုကြီး လူပျိုကြီး တစ်ကိုယ်တည်း ဖြစ်ပေတော့။ ဒီအတွေးအမြင်က ဟိန္ဒူကလာပါတယ်။

သင်္ကရိုက်စကား 'လာလိတ္တရက္ခ' ဆိုတာ နဖူးစာပါပဲ။ လူတိုင်းရဲ့ ကံကြမ္မာကို ပြဟ္မာကြီးက မွေးကင်းစကလေး ခြောက်ရက်သားအရမှာ နဖူးပေါ် အပြီးရေးပေးလိုက်တယ်ဆိုတဲ့ အယူက ပေါက်ဖွားတာပါ။

ကံ (ကမ္မ) တော့ ဗုဒ္ဓဘာသာက လာတာပါ။ မြန်မာပြန်ရာမှာ အထူးသဖြင့် အိမ်ထောင်ရေးနှင့် ပတ်သတ်တဲ့အခါ 'ဘဝရေစက်' လို့ သုံးပါတယ်။ အိမ်ထောင်ကျတာကို မြန်မာလို 'အကြောင်းဆက်' တယ်လို့ သုံးတယ်၊ အကြောင်းတရားချင်း ဆက်သွားတယ်။ 'အကြောင်းဆုံ' ကတော့ အကြောင်းတရားများ တိုက်ဆိုင်ဆုံဆည်း သွားတာပါ။ 'အကြောင်းပါ' ကတော့ နှစ်ယောက်ပေါင်းသွားတာကို ဆိုတယ်။ အိမ် ထောင်ကွဲတဲ့ အခါမှာတော့ 'အကြောင်းကုန်' ပေါင်းဖက်ရန် အကြောင်းမရှိတော့ ပါဘူး။ 'အကြောင်းနည်း' ကတော့ ပေါင်းဖက်ရန် အကြောင်းနည်းပါးသွားတာ။ ယခုလို ယုံကြည်မှု နှစ်မျိုးရှိနေတာကို သတိမပြုမိသူများက ဒီအသုံးအနှုန်းနှစ်ခု ကြောင့် အတွေးချော်သွားနိုင်ပါတယ်။ နှစ်ခုလုံးက ရောမ။ ဖူးစာရေးနတ် 'ကူးပစ်' နဲ့ ဆင်တူတဲ့ မြန်မာ နဖူးစာနတ် သို့မဟုတ် ဖူးစာရေးနတ် ကို ရည်ညွှန်းနေတာပါ။ မြန်မာမိဘတိုင်း၊ အထူးသဖြင့် မိခင်က စိုးရိမ်ပူပင်တော့ နဖူးစာရေး ကမ္မကိုပါ မေ့လျော့သွားပါတယ်။ သားသမီး အရွယ်ရောက်တာနဲ့ အိမ်ထောင်ရေး တွေးလာ တယ်။ အထူးသဖြင့် သမီးအတွက် ပိုပြီး ပူပင်တယ်။ 'သီးချိန်တန်လျက်နှင့် မသီး ပွင့်ချိန်တန်လျက် မပွင့်' မှာ စိုးတယ်။ သမီးအိမ်ထောင်ကျတာ နောက်ကျနေခဲ့ရင် ပြဿနာတွေ ပေါ်လာနိုင်တယ်။ အချိန်တန်လျက် အိမ်ထောင်မကျရင် 'ဟိုင်း' သွားမယ်၊ လေသွားနိုင်တယ်၊ သို့မဟုတ် မတော်သူနဲ့ ရသွားနိုင်တယ်။ မိခင်က သားအတွက်လည်း ပူတာပါပဲ။ ချွေးမ စိတ်ကြိုက်ရှာမယ်။ သို့သော်လည်း လူ့သဘာဝက သိတဲ့အတိုင်းပဲ၊ မိခင်လိုချင်တာ ရတဲ့ အခါလည်းရှိ၊ မရတဲ့ အခါ လည်းရှိပါတယ်။ ယောက်ျားနဲ့ မိန်းမ အကြောင်းပါကြတယ်ဆိုတာက နဖူးစာ သို့မဟုတ် ကံ က စီမံသည့် ကိစ္စပဲ။ ဤအမှန်တရားက အောက်မှာ ဖော်ပြမယ့် အိမ်ထောင်ရေး အဖွင့်မှာ ပေါ်လွင်လာတယ်။

အိမ်ထောင်ရေးဟာ လူမှုရေးကိစ္စ သက်သက်ပဲ။ ဘယ်တုန်းကမှ ဘာသာရေးကိစ္စ (အထွတ်အမြတ်) လို့ မသတ်မှတ်ပါဘူး။ ဗုဒ္ဓဘာသာ ရှုံးရာအရတော့ လူ့ဘဝ ရခြင်းကို ရှုမြင်သလိုပါပဲ။ ထိမ်းမြားလက်ထပ်ခြင်းက သံသရာကို ရှည်စေတဲ့ အလုပ်လို့ မြင်ပါတယ်၊ အကြောင်းဆက် ပေါင်းဖက်ရန် နည်းလမ်းသုံးသွယ် ရှိပါတယ်။ (၁) ကာယကံရှင်နှစ်ဦး တိုက်ရိုက်ဖြစ်စေ အောင်သွယ်မှတဆင့် ဖြစ်စေ ဆက်သွယ်ပြီး ဖြစ်လာမယ်၊ (၂) ခိုးရာလိုက်မယ်၊ နောက် (၃) ဇနီးမောင်နှံအဖြစ် အတူ

ပေါင်းဖက် နေကြမယ်။ မြန်မာဥပဒေမှာတော့ ဒီသုံးနည်းစလုံး တရားဝင် အိမ်ထောင်ရေး ဖြစ်ပါ တယ်။

တရားဝင်အခမ်းအနားနဲ့ လက်ထပ်ခြင်း မပြုဘဲ ကာယကံရှင်နှစ်ဦး အတူနေပြီး ဇနီးမောင်နှံအဖြစ် အိမ်ထောင်ပြုတဲ့ နောက်ဆုံး နည်းအကြောင်း အရင်ပြောနှင့်ပါမယ်။

(၁) အတူနေ ဇနီးမောင်နှံ

ကာယကံရှင် နှစ်ဦးသဘောတူ ဇနီးမောင်နှံအဖြစ် ပေါင်းသင်းနေထိုင်ကြတာ ကြုံတောင့် ကြုံခဲ ကိစ္စမဟုတ်ပါဘူး။ ကိုယ်ပိုင် အကြောင်းကိစ္စတွေ ရှိကြတာပေါ့၊ အကြောင်းကြောင်းကြောင့် လူသိမခံချင်တာလည်း ပါမယ်၊ ငွေကုန်ကြေးကျ မခံချင်တာလည်း ရှိမယ်၊ သို့မဟုတ် မင်္ဂလာအခမ်းအနား ကျင်းပစရာ ငွေကြေး အလျဉ်းမရှိတာလည်း ဖြစ်နိုင်တယ်။ သို့သော် ဇနီးမောင်နှံ အတော်များများကတော့ အရပ်တကာ အသိပေးကြပါတယ်။ အိမ်နီးချင်းတွေ၊ ရပ်ရွာလူကြီးတွေကို အသိပေးမယ် သို့မဟုတ် သတင်းစာမှာ ကြေငြာတယ်။ တရားရုံးမှာ လက်ထပ်တာလည်း ရှိတယ်။ ထိမ်းမြားမှု တရားဝင်စေဖို့ ရုံးတက် လက်မှတ်ထိုးရန် မလိုပါဘူး။ မြန်မာထုံးတမ်းဥပဒေက ပုဆိုးတန်းတင်ဆိုတာ ရှိတယ်။ ယောကျ်ားပုဆိုး အိမ်ကတန်းပေါ် တင်ထားတာ တွေ့နိုင် မြင်နိုင်ရင် ဖြစ်စေ လက်ဆုံစား (ဟင်းထမင်း တစ်ခွက် တစ်ပန်းကန်ထဲမှ အတူခပ်စား) နေတာ တွေ့ရလျှင်ဖြစ်စေ အကြင်လင်မယား အဖြစ် အသိအမှတ် ပြုပါတယ်။

ဒီလို အိမ်ထောင်ကျတဲ့ အဖြစ်မှာလည်း ကာယကံရှင်များက ပိုးပန်းတဲ့အဆင့် အချင်းချင်း မေတ္တာမျှတဲ့ အဆင့်တွေကို ဖြတ်ကျော်ခဲ့ပြီးမှ ဇနီးမောင်နှံအဆင့် ရောက် လာတယ်လို့ မှတ်ယူပါတယ်။ ဒီလို အိမ်ထောင်ပြုတာ မိဘသဘောတူ ခွင့်ပြုသည် လည်းရှိ၊ သဘာမတူ ခွင့်မပြုသည်လည်း ရှိပါတယ်။

(၂) ခိုးရာလိုက်

ခိုးရာလိုက်ပြီး ညားရတဲ့ အဖြစ်ကတော့ လူကြီးများက လက်မခံနိုင်တဲ့ ကိစ္စ၊ မိကောင်းဖခင် သားသမီး မပီသလို့ မှတ်ယူတယ်၊ သို့သော်လည်း လူငယ်ပိုင်း ရူးရူးမိုက်မိုက်လေးတွေကတော့ အားပေးအားမြှောက် လုပ်တယ်။ ခိုးပြေးတာလည်း အထက်ကပြောခဲ့တဲ့ ပိုးပန်း၊ မေတ္တာမျှရဲ့ နောက်ဆက်တွဲပါပဲ။

ရှေးမြန်မာများ ပိုးပန်းကြတာကတော့ လူကြီးမိဘများ မျက်စေ့ဒေါက်ထောက်ကြည့်နေတဲ့ကြားက လုပ်ကြရတာပါ။ ရှေးခေတ်က အရာရာ အေးအေးဆေးဆေး

စိမ်ပြေနပြေ လုပ်ကြရတယ်၊ စိတ်ရှည်တာကလည်း ဂုဏ်ပုဒ်တစ်ခု ဖြစ်လေတော့ သုံးနှစ်သုံးမိုး ပိုးပန်းတယ်ဆိုတာ ထုံးစံပဲ။ ချွင်းချက် သိပ်မရှိလှဘူး။ တိတ်တဆိတ် ချိန်းတွေ့တာတွေ ဒီနေ့ခေတ်အတိုင်းပဲ၊ မရှိမဟုတ်ပါဘူး။ သို့သော် ကိုယ့်ကိုယ်ကိုယ် 'သ' ထားတဲ့ ကောင်ကလေး ချစ်သူအိမ် 'ညီအစ်ကို မသိတသိအချိန်' (ညနေ ၅ နာရီမှ ၆ နာရီခန့်) မှာ သွားမယ်၊ တိုးတိုး တိုးတိုး နှစ်ကိုယ်ကြား ဆိုမယ်။ 'သက်ကြီး ခေါင်းချချိန်' (ည ၁၀ နာရီခန့်) အထိလည်း ယောင်လည်လည်နဲ့ မပြန်သေးဘဲနေ။ 'လူပျိုပြန်ချိန်' (ည ၁၁ နာရီခန့်) ရောက်မှ သူ့ကလေးမကို နှုတ်ဆက်ပြီး ပြန်တယ်။ အချိန်တန်တော့ လက်ထပ်ကြမယ်၊ သို့မဟုတ် ခိုးပြေးကြမယ်။ ဒီမှာ ကျွန်တော် ရှေးခေတ်သုံး အချိန်ပြ ဝေါဟာရတွေ သုံးခဲ့တာ သတိပြုမိမှာပါ။ ပတ်ဝန်းကျင် အနေအထားကို မြင်စေချင်လို့ပါ။

ဒီခေတ်မှာတော့ သုံးနှစ်စောင့်ရတာ ကြာလွန်းတယ်လို့ လူငယ်များက ထင်တယ်။ ရှေးထုံး အချုပ်အချယ်တွေ မရှိတော့ပါဘူး။ အမြင်တွေ ပြောင်းပြီး လိုဘတွေကလည်း အဆများစွာ တိုးပွားလာပါပြီ။ တချို့များ သုံးလတောင် မစောင့် နိုင်တော့ဘူး။ ဒီခေတ် ကလည်း သိတဲ့ အတိုင်းပဲလေ၊ 'အင်စတင့်ကော်ဖီ'၊ 'အင်စတင့် ခေါက်ဆွဲ' နဲ့ 'အင်စတင့် ဟိုဟာဒီဟာ' ခေတ်ကိုး။ ဒါ့ပြင်လည်း ကမ္ဘာကြီးက ပြောင်းလဲလာ၊ စံချိန်စံညွှန်းတွေ တန်ဖိုးတွေက ပြောင်းလဲလာတော့ ပိုးနည်း ပန်းနည်းကလည်း လိုက်လျောညီထွေ ဖြစ်အောင် လိုက်ပြောင်းရတော့တာပေါ့။ ယောက်ျားလေးများက ပိုပြီး တည့်တိုးကြီးဖြစ်ပြီး ပိုရဲလာတယ်၊ မိန်းကလေးများလည်း ရှက်ကိုးရှက်ကန်း ငြိမ်ငြိမ်ကုပ်ကုပ် သိပ်မဟုတ်တော့ဘူး။ ယောက်ျားလေးက သူ့အလိုကို ပြည့်ဖို့ နည်းသုံးနည်းရှိတယ်။ တစ်နည်းနည်းကို သုံးလိမ့်မယ်။ ပထမ နည်းက သိုသိုသိပ်သိပ်နည်း။ ရည်းစားစာရေးမယ်၊ စာကို ကောင်မလေးကို ကိုယ်တိုင်ပေးချင်ပေးမယ်၊ စာတိုက်မှ ထည့်ချင်ထည့်မယ် သို့မဟုတ် ကြားလူက တဆင့် ပေးခိုင်းမယ်။ ဒုတိယနည်းက အောင်သွယ်ထားနည်း၊ ဒါက သူ သတ္တိမရှိလို့ ကိုယ်တိုင် မလုပ်ရဲတဲ့အခါ သုံးတဲ့ နည်းပဲ။ တတိယနည်းက တိုက်ရိုက်နည်း၊ မိန်းကလေးကို ကိုယ်တိုင်တွေ့ ပြောဆို သိမ်းသွင်းယူနည်း။ ဒီနည်းထဲက တစ်ခုခုနှင့် ဟန်ကျခဲ့လျှင် သူတို့ ချစ်သူဖြစ်ပြီ။ လက်ထပ်ချင်ပြီလား။ မိဘတွေက ပါလာတော့ မယ်။ အရွယ်မရောက်သေးလို့ ငယ်ပါသေးတယ်၊ ပညာတစ်ပိုင်းတစ်စနှင့် ကျောင်းပြီး အောင် နေပါဦး၊ စသည် စသည်ပေါ့။ ချစ်သူစုံတွဲမှာ တခြားနည်းလမ်း မရှိတော့ ဘူး ဆိုလျှင်တော့ ခိုးမယ်၊ ကလေးမက ခိုးရာလိုက်မယ်။ အလွန်အကျွံ ကဲသွားတဲ့ တချို့ကိစ္စမျိုးမှာတော့ သေကြောင်းကြံတာ

ဖြစ်တတ်တယ်။ ကျွန်တော်တို့ ရွာက ကိုယ်တိုင် တွေ့ကြုံခဲ့ရတဲ့ ခိုးပြေးမှုအကြောင်း ပြောပါမယ်၊ ပျော်ရွှင်ဖွယ် ဇာတ်ပေါင်း ကလေးနှင့်ပါ။

ကျွန်တော့် သူငယ်ချင်းတစ်ယောက် အသက် ၁၉-၂၀ လောက် ရှိမယ်၊ သူက ရည်းစားကို ခိုးပြေးတယ်။ သူက မိန်းကလေး မိဘများ သဘောတူအောင် နည်းမျိုးစုံနဲ့ ကြိုးစားပါရဲ့၊ မိဘများက ဥစ္စာနေကုံလုံသူတွေ။ ယောက္ခမလောင်းများက သူ့ကို သုံးမရမည့် လူ၊ သူတို့သမီးကို အိမ်တစ်ဆောင် မီးတပြောင်နှင့် ထားနိုင်မည့်သူ မဟုတ်လို့ မြင်တယ်။ တန်းတူရည်တူ မစဉ်းစားနိုင်ကြဘူး။ ခိုးရာလိုက်သွားတော့ မိဘများက သမီးကို အမွေဖြတ်မယ်လို့ ခြိမ်းခြောက်တယ်။ ဒီတော့ စုံတွဲက ပုန်းနေကြရတယ်၊ နောက် တဖြည်းဖြည်း အေးအေးဆေးဆေး ဖြစ်လာ၊ မိဘများလည်း စိတ်ပြေအောင် စောင့်နေကြရတယ်။

ယောက်ျားလေးက မိဘမဲ့ ဖြစ်နေတယ်။ ကောင်လေးက သူ့ကောင်မလေးနဲ့အတူ ရပ်ရွာထဲက လူကြီး နည်းနည်းပါးပါးကို ချဉ်းကပ်၊ ဒီထဲမှာက စေ့စပ်ပြောဆိုမှုကျွမ်းတဲ့ ထိပ်တန်းအမျိုးသမီးကြီးနှစ်ဦးလည်း ပါတာပေါ့။ ကိုယ်စားလှယ်တော်များ လာပါပြီ။ သမီးရှင်များနှင့်တွေ့ ဖျောင်းဖျကြ၊ ပြီးတာတွေ ပြီးပါစေတော့။ သမီးကလေးမှာ နှစ်ခါနာ ဖြစ်နေရပြီပေါ့။ သူတို့က စကားပုံနှင့် လိုရင်းရောက်အောင် ပြောတယ်။ 'ဆူးပေါ်ဖက်ကျလည်း ဖက်ပေါက်၊ ဖက်ပေါ် ဆူးကျလည်း ဖက်ပေါက်' တဲ့။ လိုရင်းကတော့ ဒီကိစ္စက ကံအကြောင်းကြောင့် သူတို့ ရေစက်ဆုံကြရတာကို ရှင်းပြတော့ မငြင်းနိုင်တဲ့ အကြောင်းပြပေါ့။ မိဘတွေက နောက်ဆုံး လက်လျှော့ သဘောတူကြရ။ အမိုက်အမဲကလေးတွေကို အိမ်မှာ ပြန်လက်ခံမယ်၊ နေ့ကောင်းရက်သာ ယူပြီး တစ်ညနေခင်း ပြန်လာကြ၊ သဘောတူတယ်။ ညဥ့်ဦးစောစောပိုင်းကို ဒီလို ကိစ္စအတွက် အချိန်သတ်လေ့ရှိတယ်။ တစ်နေ့တာ အလုပ်ပြီးပြီဆိုတော့ အားလုံး နားနားနေနေ အချိန်လည်းရ၊ သဘောမတူခဲ့တာကို အခု သဘောတူ လက်ခံလိုက်တဲ့ တရားဝင် ကိစ္စကိုလည်း ညဥ့်ပိုင်းဆိုတော့ သိပ် လူသူမသိနိုင်ဘူးဆိုတော့ ညဥ့်ဦးက အဆင်ပြေတယ်။ ဒါပေမဲ့ ဒီအတိုင်း မဖြစ်လာပါဘူး၊ ဆက် နားထောင်ပါ။

အဲဒီနေ့ ညနေ နေဝင်ရီတရောမှာ လူကြီးတချို့နှင့်အတူ ကာယကံရှင်နှစ်ဦး အိမ်ရောက်လာတယ်။ ထုံးစံအတိုင်း မိဘများအတွက် ကန်တော့ပွဲလည်း ပါလာတယ်။ ပဏာမ စကားနည်းနည်းပါးပါး လူကြီးတစ်ဦး နှစ်ဦးက ပြောဆိုပြီးတော့ လူငယ်တွေက မိဘများကို ရှိခိုးဦးချကြ၊ မိဘများက ဆုပေး၊ 'အိုအောင်မင်းအောင် ပေါင်းရပါစေ-ဘာညာ' ဆုတွေတောင်းပေးမယ်။ အဖေကြီးကတော့ ရွှင်နေပြီ။

သူ့တုန်းကလည်း ဇနီးကို ဒီအတိုင်းပဲ ခိုးပြေးခဲ့ မဟုတ်လား။ အဲတော့ သူက ထပ်ပြီး ဆုတောင်း ချီးမြှင့်သေးတယ်။ 'ကလေး တစ်ဖျာစာအပြည့် ရကြပါစေ'။ တစ်ဖျာစာ အပြည့် ကလေးအရေအတွက်ဆိုတာ ဘယ်နှစ်ယောက်လည်း မသိ၊ ဖျာအရွယ်ပေါ် မူတည်တာပဲ။ ငါးယောက်ကနေ ဆယ်ယောက်အထိ ဖြစ်နိုင်မယ်။ ဒီလို တောက်တီး တောက်တဲ့တွေ လျှောက်ပြောတော့ မိန်းမက သူ့နံဘေး တံတောင်နှင့် တွတ်လိုက် တယ်။ ဒီအခိုက်မှာပဲ အိမ်ပေါ် ခဲမိုးရွာပါလေရော၊ ခဲတွေ၊ ပုလင်းတွေ၊ တုတ်တွေ တဖွဲဖွဲ သက်ကယ်မိုး အိမ်ခေါင်ပေါ် ကျ။ အိမ်ထဲကလူတွေ လန့်ကြ၊ တကယ့် ကြောက်ရွံ့ဖွယ်ကြီး။

ရွာထဲက ကာလသားတစ်စု လူလတ်ပိုင်း နှစ်ယောက်သုံးယောက်နှင့်အတူ အတွဲပြန်အပ်မည့် အဖွဲ့မလာမီ မိနစ်အနည်းငယ်မှာ နေရာကောင်းယူ အသင့် စောင့်နှင့်တယ်။ သတင်းကလည်း သူတို့ ရထားပြီးပြီ။ သူတို့က 'ခဲဖိုး' တောင်းဖို့ အသင့်စောင့်နေကြတာ။ အဲဒါ အိမ်ကို ခဲတွေ တုတ်တွေနဲ့ ဆက်ထုတာပဲ။ နောက်ဆုံး အဖေဖြစ်သူ ထွက်လာ၊ မှောင်ထဲ စမ်းတဝါးဝါး၊ ကာလသား ခေါင်းနှင့်တွေ့ ခဲဖိုးပေးစရာ ဈေးဆစ်။ ဈေးတည့်တော့ ခဲဖိုးပေးပြီး အိမ်ထဲက ပရိသတ်ကို စိတ်အေးအောင် လုပ်ရတယ်။ ရပ်ရွာထဲမှာတော့ ကာယကံရှင် လူငယ်နှစ်ဦး ဇနီး မောင်နှံ ဖြစ်သွားပါပြီ။

ဒီထုံးစံ ဘယ်က စဖြစ်လာတယ်ဆိုတာဖြင့် ကျွန်တော် နည်းနည်းမှ သဲလွန်စ ရှာမရပါဘူး။ မြန်မာရေးရာ ပညာရှင်တချို့လည်း ဒီကိစ္စကို ရှင်းပြဖို့ အားထုတ်ဖူး ပါတယ်။ ဒီမှာတော့ ရှင်းပြပုံ နှစ်မျိုးကို သူတို့အရှိအတိုင်း ပြောပြပါမယ်။ Fall of man ပုံပြင်နှင့် မတူတာမျိုး မဟုတ်ပါဘူး။

ဒီကိစ္စက ကမ္ဘာဦးက စခဲ့တာပေါ့။ ကမ္ဘာကြီး ဖြစ်ပေါ်လာတော့ နတ်ပြည်က ဗြဟ္မာကြီးတွေ စုတေပြီး ကိုယ်ပိုင်အရောင်အဝါနဲ့ ကမ္ဘာပေါ်မှာ ပေါ်လာတယ်။ ပထမ မြေဆီအရသာကို အရသာရှိလို့ စားကြတယ်၊ ဒါနဲ့ သူတို့ ကိုယ်ရောင်ကိုယ်ဝါ ပျောက်ကွယ်တယ်။ နောက်လှပတဲ့အသွင်၊ အရုပ်ဆိုးတဲ့ ပုံတွေ ဖြစ်လာတော့တယ်။ မြေဆီအရသာကို စားလို့ကုန်တော့ အောက်ကမြေ အလွှာကို စားကြ ပြန်ရော၊ အစားမသင့်တော့ သူတို့ စိတ်မှာ လောဘဝင်လာတယ်၊ လောဘဝင်တော့ သူတို့ မှိဝဲစရာ ကုန်ပြန်ရော။ ဒီနောက် စားစရာ 'ပဒါလတာ' ခေါ် နွယ်ချိုကဲ့သို့သော အရာကို စားကြရတယ်။ အချိန်ကြာတဲ့အခါ ပဒါလတာလည်း စားလို့ကုန်ပြန်ရော။ ဒီလိုနဲ့ အလိုလိုပေါက်တဲ့ သလေးဆန်စားကြပြန်၊ နောက်ဆုံးဆန်ကို စိုက်ပျိုး စားရသည့် ခေတ်လူသား ဖြစ်လာတယ်လို့ ဆိုပါတယ်။

ဆက်ပြီး ကျွန်တော် စာမှာပါတဲ့အတိုင်း ပြောပါမယ်၊

"ယောက်ျားမှာ ယောက်ျားဖြစ်ကြောင်း ရုပ်အင်္ဂါဖြစ်ပေါ်ကုန်၏။ မိန်းမမှာ မိန်းမဖြစ်ကြောင်း ရုပ်အင်္ဂါ ဖြစ်ပေါ်ကုန်၏။

ထိုသို့ ဖြစ်ပေါ်လာသောအခါ ယောက်ျားသည် မိန်းမကို မိန်းမသည်လည်း ယောက်ျားကို ကြည့်ရိုး ကြည့်စဉ်ထက် ကြာမြင့်စွာ တစိမ့်စိမ့် စူးစိုက်၍ ကြည့်ရှု၏။ ထိုသို့ တစိမ့်စိမ့်ကြာမြင့်စွာ စူးစိုက်၍ ကြည့်ရှုခြင်းကြောင့် ထိုမိန်းမ ယောက်ျားတို့မှာ ကာမရာဂ ပူပန်မှု ဖြစ်ပေါ်လာ၏။ ထိုသို့ ဖြစ်ပေါ်လာသောကြောင့် မေထုန်အမှုကို ပြုကျင့်ကုန်၏။ (အသဒ္ဓမ္မ) သူမြတ်တရား မဟုတ်သည့် မေထုန်အမှုကို မှီဝဲခြင်း ဟူသော အကြောင်း ကြောင့် ထိုသူတို့ကို ပညာရှိတို့က ကဲ့ရဲ့ကုန်၏။ (မြေမှုန့် ပြာ နွားချေးတို့ဖြင့် ပက်ကုန်ပေါက်ကုန်လျက်) ညှင်းဆဲကုန်၏။ ထို့ကြောင့် ထိုအသဒ္ဓမ္မကို ဖုံးကွယ်ရန်အတွက် အိမ်တို့ကို ဆောက်လုပ်ကုန်၏။"

(**The Path of Purity** translated by Pe Maung Tin, Oxford University press, 1923, pp482 and following.)*

ခဲဖိုး၏ မူလအစကို ဖြေရှင်းပြစရာအဖြစ် မြန်မာသုခမိန်များက ကမ္ဘာဦး ဖြစ်ပေါ်ပုံကို ဆွဲယူ အသုံးချထားသည်မှာ ဖြစ်နိုင်ချေ ရှိရုံမျှမကပါ။ အဘယ်ကြောင့် ဆိုသော် ဤမူကို သူတို့ အလိုကျ ဖြည့်စွက်ထားပါသေးတယ်။ ဖြည့်စွက်ချက်က "အရှက်ရှိကုန်သော သူတော်ကောင်းတို့က အရှက်မဲ့သူတို့အတွက် အိမ်ယာ ဆောက်ပေးပြီး အိမ်ကို ခဲနှင့်ထုပြီး နှင်ထုတ်ကြကုန်၏။" ဤအစဉ်အလာသည် ဆက်လက်တည်ရှိနေဆဲဟု ပညာရှိတို့က ဆိုပါတယ်။

နောက်တစ်ပုံစံ ရိုးရာပုံပြင်ကလည်း ခပ်ဆင်ဆင်ပါပဲ၊ ကွဲလွဲမှု နည်းနည်းတော့ ပါတယ်။

ပြဟ္မာကြီးကိုးပါး ကမ္ဘာမြေပေါ် ရောက်လာတယ်။ ပထမဇာတ်လမ်းမှာလို ပြဟ္မာအများကြီး မဟုတ်ဘူး။ သူတို့က ဆန်ကို ယူစားပြီးတော့ ယောက်ျားငါးယောက် မိန်းမလေးယောက်အဖြစ် အသွင်ပြောင်းသွားတယ်။ ယောက်ျားလေးယောက်က မိန်းမလေးယောက်ကို ကူဖော်အဖြစ် ယူလိုက်တယ်။ ယောက်ျားဘက်ပဲ့ တစ်ယောက်က မကျေနပ်တော့ ပျော်ပျော်ရွှင်ရွှင် အတွဲတွေရဲ့ နေအိမ်ကို ခဲနှင့် ထုတယ်။ ယောက်ျားအများစုဟာ ဒီထဲကအတိုင်းသာ ကြုံရရင် ဒီအတိုင်း ပြုမူမှာပဲ။ ဒီ ပဓာန

* ဝိသုဒ္ဓိမဂ်ကျမ်းကို ဦးဘေမောင်တင်က အင်္ဂလိပ်ဘာသာပြန်သည့် စာအုပ်မှ ဖြစ်သည်။ အထက်စာပိုဒ်မှာ မဟာစည် ဆရာတော်၏ မြန်မာပြန် ဖြစ်ပါသည်။ (မဟာစည်ဆရာတော်၊ ဝိသုဒ္ဓိမဂ် မြန်မာပြန်၊ ရန်ကုန် ၂၀၀၀ ပြည်၊ စာ ၁၃၈ ရှု) မူကွဲ မြန်မာပြန်ကို ကျိုက်ထိုဘုရားသုံးဆူတောင် အရှင် နန္ဒမာလာ ဝိသုဒ္ဓိမဂ္ဂအဋ္ဌကထာမြန်မာပြန် ဒုတိယတွဲ၊ ရန်ကုန် ၁၃၂၇ ခု၊ စာ ၂၈၂ တွင် တွေ့နိုင်။

စံပြ လူပျိုကြီးကို ဂရုဏာသက်ရာက နောင်အခါမှာ မျိုးဆက် အဆက်ဆက်မှ လူပျိုများက ခဲမိုးရွာတဲ့ ခလေ့လုပ်လာခဲ့ကြတာ ဒီနေ့ထိပါပဲ။ ဖြည့်စွက်ပြောစရာ တစ်ချက်က ဒီခဲဖိုးထုံးစံက ကျေးလက်ဒေသမှာ ခိုးပြေးတဲ့အခါမှာ လုပ်လေ့ရှိတဲ့ အကြောင်းပါပဲ။ နောက်အစဉ်အလာတစ်ခုမှာလည်း ငွေပေးရတဲ့ ကိစ္စရှိပါသေးတယ်၊ အဲဒါ စီစဉ်ထိမ်းမြားမင်္ဂလာအကြောင်းရောက်တော့ ပြောပါမယ်။

ခိုးပြေးကြတဲ့ မြန်မာစုံတွဲတချို့ ကြုံရတဲ့ ဝမ်းနည်းဖွယ် အဖြစ်ကို အထက်မှာ ပြောခဲ့ပါတယ်။ တစ်ခါတစ်ရံ ယောကျာ်းလေးနဲ့ မိန်းကလေးက သစ္စာနဲ့ကြတယ်၊ တစ်ဦးချင်းစီ ဖြစ်စေ၊ ပြိုင်တူဖြစ်စေ သေကြောင်းကြံကြမယ်ပေါ့။ တစ်ခါတစ်ရံတော့လည်း မိန်းကလေးသာ အသက်ဆုံးရတတ်တယ်။ ဒီလို ဝမ်းနည်းဖွယ်ဖြစ်ရတဲ့ အကြောင်းအရင်းကို ဝေးဝေး ရှာရန် မလိုပါဘူး။ အကြောင်းရင်းက မိဘများပါပဲ။ တစ်ဖက်ဖက်က ဂုဏ်မာနတွေ အထင်သေးစိတ်တွေ လွှမ်းပြီး သဘောမတူနိုင်ဖြစ်ကြတော့ ပြဿနာတက်တာပေါ့။ ကိုယ့်ဘဝ ကိုယ် အဆုံးစီရင်နည်းတွေကလည်း များပါတယ်။ စိုင်ယန်နိုက်လို အဆိပ် သောက်မယ်၊ ရေထဲ ခုန်ချမယ်၊ ကြိုးဆွဲချမယ်၊ တစ်ခါတစ်ရံ အမြင့်က ခုန်ချမယ်။ ပြင်သစ်ပြည်မှာ ဆိုရင်တော့ အီဖဲမျှော်စင်လို အမြင့်က ခုန်ချမယ်။ ဗြိတိန်ဆိုလျှင်တော့ 'Lovers' Leap' ခေါ် 'ချစ်သူတို့ ခုန်ချရာ ကမ်းပါး' က ခုန်ချမယ်။

မြန်မာဗုဒ္ဓဘာသာများက သေကြောင်းကြံတာကို ရှုတ်ချတယ်။ နှစ်အတန်ကြာက ကိုယ့်ကိုယ်ကိုယ် မီးရှို့သတ်သေကြတဲ့ ဗီယက်နမ် ဗုဒ္ဓဘာသာဘုန်းတော်ကြီးများကို ဒီလို မလုပ်အပ်ဘူးလို့ ဝေဖန်ကြပါတယ်။ ဒီကြောက်ဖွယ် အကျင့်က ငါးပါးသီလ ပါဏာတိပါတာ ကျူးလွန်ရာ မကဘူး၊ ယုံကြည်လက်ခံတဲ့ တရားနဲ့လည်း ဆန့်ကျင်တဲ့ အကျင့်ဖြစ်နေတယ်။ ယုံကြည်လက်ခံထားတာက ကိုယ့် ကိုယ်ကိုယ် သေကြောင်းကြံရင် ငါးရာ့ငါး (နှစ်) (သို့) အဖန်ငါးရာ ငါးကမ္ဘာမှာ အဖန်တစ်လဲလဲ ဆက်ခါ ဆက်ခါ ခံရဦးမယ် (ဝဋ်လိုက်တယ်) လို့ ဆိုတယ်။ ဒါကတော့ ကျွန်တော် သတိထားမိသလောက် ဗုဒ္ဓအဟော မဟုတ်ပါဘူး။

## (၃) မိဘများ စီစဉ်သည့် အိမ်ထောင်ရေး

လူကြီးများက စီစဉ်ပေးတဲ့ အိမ်ထောင်ရေးက အရှေ့တိုင်းမှာ ရှေးအခါကတည်းက ရှိခဲ့တဲ့ အစဉ်အလာတစ်ခုပါ။ ဗုဒ္ဓဘုရား လက်ထက်ကတည်းက ဒီအစဉ်အလာ ရှိခဲ့ပြီးဆိုတာ မှတ်တမ်း မှတ်ရာနှင့် ရှိပါတယ်။ ဘုရားအလောင်း သိဒ္ဓတ္ထက နှမဝမ်းကွဲ ယသော်ဓရာကို ထိမ်းမြားခဲ့တာ မိဘများရဲ့ သဘောတူညီမှု

နဲ့ပါ။ ဗုဒ္ဓကို အိန္ဒိယမှာ ဖွားမြင်ခဲ့တယ်၊ အဲဒီမှာက ယခုပြောတဲ့ မိဘများ စီစဉ်တဲ့ အိမ်ထောင်မှု စနစ်ဟာ ဘုရားလက်ထက်တော် မတိုင်မီထက် များစွာစောတဲ့ အချိန် ထဲက ရှိနေနိုင်တယ်။ ဒီအစဉ်အလာကို ယနေ့ ထိန်းသိမ်းထားကြဆဲ ဖြစ်တယ်။ တရုတ်ပြည်မှာလည်း ဒီစနစ်က နှစ်ပေါင်းထောင်ချီပြီး ရှိခဲ့တာပါ။ မြန်မာပြည်မှာ တော့ ဒီအစဉ်အလာကို အိန္ဒိယက ရယူထားပုံပဲ။ ယူပြီးမှ ကိုယ်ပိုင်အစဉ်အလာ ဖြစ်အောင်လုပ်တာ ၁၁ ရာစု အေဒီအတွင်းမှာ ဖြစ်နိုင်ဖွယ် ရှိပါတယ်။ ၁၉ ရာစုက စပြီး အနောက်တိုင်းယဉ်ကျေးမှု ရိုက်ခတ်လာသည့် ကြားက ဒီစနစ်ဟာ ယနေ့ထိ လည်း အားသန်နေဆဲ ဖြစ်ပါတယ်။ ဒီစနစ်က ဆက်ဆက်ပြီးလည်း အတိုင်းအဆ ပြောင်းလဲပြီး ရှိနေမှာပေါ့။ မိဘများက သားသမီး အိမ်ထောင်ရေး တွေးမပူမယ့် ကာလရောက်ပြီး သားသမီးက မိဘကို မရိုသေမလေးစားတဲ့ အခါမှသာ ပျောက်ကွယ် ဖွယ် ရှိပါတယ်။ ဒီလိုဖြစ်လာဖို့ကတော့ ဖြစ်နိုင်ချေ အတော်ဝေးပါလိမ့်မယ်။

အနောက်နိုင်ငံများမှာလည်း နှစ်နိုင်ငံမှ နိုင်ငံအကြီးအကဲများကို စီစဉ်ထိမ်းမြား ပေးတာ၊ တော်ဝင် မိသားစုဝင်များချင်း အိမ်ထောင် နေရာချထားပေးတာတွေ အဓိက အားဖြင့် နိုင်ငံရေးအကြောင်းကြောင့် ရာစုနှစ်များစွာ ကျင့်သုံးခဲ့တာ သမိုင်းမှာ တွေ့ရပါတယ်။ သို့သော် ပြည်သူလူထုက အုပ်စိုးသူလူတန်းစားကို ဘယ်အခါကမှ အတုမယူခဲ့ကြပါဘူး။ အနောက်နိုင်ငံသားများက မိဘက သားသမီးကို အိမ်ထောင် ချပေးတာကို စိတ်ကူးနှင့်ပင် လက်မခံပါဘူး။ စီစဉ်နေရာချထားမှုမှာ အကျပ်ကိုင် တဲ့သဘော ပါနေတယ်လို့ ထင်တယ်။ ကျွန်တော် ဗြိတိန်မှာ ရှိစဉ်တုန်းက ဗြိတိသျှ မိတ်ဆွေများက မြန်မာပြည်မှာ မိဘများ စီစဉ်တဲ့ အိမ်ထောင်ရေးစနစ် ရှိနေဆဲ ဆိုတာ ကြားတော့ အတော်ကြီး တအံ့တသြ ဖြစ်ကြတယ်။ ဒီထဲမှာ ကျွန်တော် တွေ့ရတဲ့ သူစိမ်းလူများပင် ပါဝင်ပါတယ်။ ဒီအစဉ်အလာကြီးက ခေတ်နှင့် မဆီလျော်ဘူး၊ ဖျက်သိမ်းသင့်ပြီလို့ တချို့က ယူဆတယ်။ တချို့ကလည်း ဒါက ဝမ်းနည်းဖွယ် ဖြစ်စရာ လမ်းစပါနေတယ်လို့ ဆိုတယ်။ သူတို့ရဲ့ ယေဘူယျ သုံးသပ်ချက်များကို ထောက်ခံပုံရတဲ့ သတင်းနှစ်ပုဒ် ဗြိတိသျှ သတင်းစာများမှာ ပါလာတယ်၊ တစ်ခုက အဆွေးဇာတ်လမ်း၊ နောက်တစ်ခုက အတင်းအကြပ် ပြုမှု ဖြစ်ပါတယ်။

ပထမ ဝမ်းနည်းဖွယ် အဖြစ်မှာက အလွန်တင်းတဲ့ ရှေးရိုးဟိန္ဒူဖခင်က သမီးကို သတ်တဲ့ဖြစ်ရပ်ပါ။ သမီးက ဗြိတိန်မှာ နေပြီး ပညာသင်နေတယ်၊ ဖခင်က သူ့ အတွက် ရည်စူးထားတဲ့ လူငယ်ကို သမီးက လုံးဝ လက်မခံလို့ ဖြစ်ရတာပါ။ နောက် တစ်ခုကလည်း အိန္ဒိယ သားအဖနှစ်ဦး အကြောင်းပါပဲ။ ဒါကတော့ သမီးက သူ့ ယောကျ်ားလေး မိတ်ဆွေနဲ့ လိုက်သွားလို့၊ သမီးက မိဘဆန္ဒကို မနာယူဘူး၊ သူ့ကို

အိန္ဒိယသား ကောင်ကလေးတစ်ယောက်နဲ့ နားဖောက်ပြီး သမက်လောင်းရွေးပြီး ဖြစ်နေပြီ။ အဖေက သမီးကို အခန်းပိတ်သော့ခတ်ထားတယ်။ ဒါတွေက အလွန် အကြူး ဖြစ်လာတဲ့ ကိစ္စတွေပါ။ သို့သော်လည်း တစ်ဖက်မှာက ဗြိတိန်မှာပဲ အိန္ဒိယ နွယ် သားသမီးများ မိဘတို့ စီမံသည့် ဘဝကြင်ဖော်ကို လက်ခံပြီး ပျော်ရွှင်ဖွယ် အိမ်ထောင်သည်ဘဝမှာ နေထိုင်လျက် ရှိသူတွေလည်း အများကြီးပါပဲ။

အနောက်တိုင်းသားတွေရဲ့ ယဉ်ကျေးမှု နောက်ခံက တစ်မျိုးဖြစ်နေတယ်။ သူတို့က အရှေ့တိုင်းမှာ ရေရှည်တည်တံ့နေတဲ့ ဒီထုံးတမ်းစဉ်လာတွေရဲ့ သဘော သဘာဝကို ခြေခြေမြစ်မြစ် ထိုးဖောက် မမြင်သေးသမျှ နားလည်မှုရှိရန် မဖြစ်နိုင် ပါဘူး။ အရှေ့မှာက ယောကျ်ားတစ်ယောက်ဟာ သူ့မိဘများက သူ့အတွက် ရွေးထားတဲ့ မိန်းမကို ပထမ လက်ထပ်ယူတယ်၊ နောက်မှ ပိုးပန်းတယ်။ အနောက်တိုင်းသားတွေ ကတော့ သူကြိုက်တဲ့ မိန်းမကို အရင်ပိုးတယ်။ နောက်မှ သူရွေးလိုက်တဲ့သူကို လက်ထပ်တယ်။ အနောက်တိုင်းသားများကတော့ အရှေ့က စနစ်ကို ကပြောင်းကပြန် အိမ်ထောင်ရေးလို့ ခေါ်ပေလိမ့်မယ်။ ဒီစနစ်မျိုး အတည်ဖြစ်စေလာတဲ့ အကြောင်း တရားတွေ ရှိပါတယ်။ မြန်မာနိုင်ငံမှာတော့ ဒီအကြောင်းတွေက မြန်မာ ဗုဒ္ဓဘာသာ ဝင် ကြီးပြင်းရတဲ့ ဘဝနဲ့ စိတ်သဘော ထားပါတယ်။ မိဘများကို ရိုသေမှုနဲ့ လေးစား သမှုပါတယ်။ သူ့မှာ ဆန့်ကျင်ဘက်လိင်နဲ့ ဆက်ဆံပေါင်းသင်းမှု နည်းပါးတာပါ တယ်။ ပြီးတော့ 'အိမ်ထောင်ဦး ဘုရားတည် ဆေးမင်ရည် စုတ်ထိုး' ဆိုသလို လုပ်ပြီး ရင် ပြင်မရတဲ့ ကိစ္စအဖြစ် အိမ်ထောင်ရေးကို အလေးအနက် ရှုမြင်တာ ပါပါတယ်။ ဒါကြောင့် အိမ်ထောင်သည် ဆယ်တွဲမှာ ရှစ်တွဲက လူကြီးမိဘများ စီစဉ်တဲ့ အိမ်ထောင်ရေးကို လက်ခံတယ်။ ကာယကံရှင် နှစ်ဦး ဖူးစာ သို့မဟုတ် ကံတရားနှင့် အညီ ရေစက်ဆုံစေတဲ့ နည်းလမ်းတစ်ရပ်အဖြစ် နှစ်ဦးနှစ်ဖက်လုံးက မိဘများ စီစဉ်တာကို လက်ခံကြတာ အံ့ဩစရာ မရှိပါဘူး။

ကျွန်တော် တင်ပြတဲ့ အချက်တွေကို ဥပမာနှစ်ခုပေးပြီး ပေါ်လွင်အောင် ပြောပါရစေ။ ဒီဖြစ်ရပ်နှစ်ခုမှာ အစ ကနဦးမှာတော့ လက်မခံ ငြင်းဆန်မှုရှိတယ်၊ လူငယ်နှစ်ဦးက မလိုက်ဖက်ပေဘူးလို့လည်း ထင်စရာရှိတယ်၊ နောက်ဆုံးမှာတော့ အောင်အောင်မြင်မြင် စေ့စပ်ညှိနှိုင်းပြီး ထိမ်းမြားပေးနိုင်ခဲ့တယ်။ ဒါနှစ်များ မကြာမီ ကပါ။

ပထမဇာတ်လမ်းမှာ လူရွယ်တစ်ယောက်၊ ရုပ်ရည်သန့်ပြန့်တယ်၊ ပညာတော် တယ်၊ အစိုးရ ရာထူးဌာနန္တရလည်း လက်ရှိဖြစ်တယ်။ သူ့မိခင်က ငွေဆိုတာ လိုတာ အကုန်ရ၊ ငွေရလျှင် အကုန်ပြီးလို့ ခံယူသူ ဖြစ်တယ်။ အမေက သူ့သားကို ငွေကြေး

ချမ်းသာကြွယ်ဝပြီး အဆင့်အတန်းရှိတဲ့ ပုဂ္ဂိုလ်တစ်ဦးရဲ့ တူမနဲ့ လက်ထပ်ရန် စီမံတယ်။ ဒါကို သား မသိသေးဘဲ လုပ်လိုက်တာ။ ကလေးမလေးက ယောက်ျားလေးမှာ ရှိတဲ့ ဂုဏ်ပုဒ်တွေ ဘာမျှ မရှိရှာဘူး။ ယောက်ျားလေးက သူ့မှာ ရည်းစားလည်း ရှိထားတယ်၊ သူ့အမေ စီစဉ်လို့ သူ လက်ထပ်ရမည့် ကလေးမကို တွေ့ရတော့ စကားမေးမရတောင် ဖြစ်သွားရှာတယ်။ သို့သော်လည်း သူ့မိခင်ကို လေးစားမှုကြောင့် မိခင် စီမံသည့်အတိုင်း ကလေးမကို လက်ထပ်လိုက်တယ်။ သူတို့ ဇနီးမောင်နှံ အခု သားကြီး၊ သမီးကြီးတွေနှင့် ဖြစ်နေပြီ။

ဒုတိယဇာတ်လမ်းက မိန်းကလေး တစ်ယောက်အကြောင်းပါ။ သူက ချောမောလှပသူ၊ သူ့ရုပ်ရည်ကြောင့် မာနကလေး ရှိတယ်။ ပညာတတ်လည်း ဖြစ်ပြန်တယ်။ သူ့မိဘများက ကြွယ်ဝသူတွေပါ။ မိဘများက သမီး နောင်ရေး စိတ်အေးရဖို့ လူငယ်တစ်ယောက်ရဲ့ မိဘများကို ဆက်သွယ်ပြီး ထိမ်းမြားရန် ကမ်းလှမ်းပါတယ်။ ဒီလူကလည်း ပညာတတ်ဖြစ်ပြီး အစိုးရ ရာထူးကြီးကြီး လက်ကိုင် ရှိထားတယ်၊ အကျင့်သီလနှင့်လည်း ပြည့်စုံသူ ဖြစ်တယ်။ သို့သော် ရုပ်ရည်က သိပ်ပုံမလာဘူး။ သူတို့ ထိမ်းမြားလက်ထပ်ကြတယ်။ အိမ်ထောင်ဦး လအနည်းငယ်မှာ ပွဲလမ်းသဘင်ရှိရင် သူ့ခင်ပွန်းနှင့်အတူ ဇနီး မလိုက်လာဘူးလို့ ဆိုတယ်။ နောက်ဆုံးတော့လည်း အမျိုးသမီးက ရောက်ရာဘဝကို ခံယူလိုက်တယ်။ သူဟာ ခင်ပွန်းသည် မကွယ်လွန်မီအထိ ဇနီးကောင်းတစ်ယောက် ဖြစ်ပါတယ်။

လူကြီးများ စီစဉ်တဲ့ အိမ်ထောင်ရေးမှာ အထူးသဖြင့် အတော်အသင့် ပြည့်စုံကုံလုံသူများ ဖြစ်ခဲ့ရင် မင်္ဂလာမဆောင်မီ ကြိုတင် ပြင်ဆင်တဲ့ အဆင့်သုံးဆင့် ရှိပါတယ်။ အဆင့်တွေက (၁) စုံစမ်းမေးမြန်းခြင်း (၂) စေ့စပ်ကြောင်းလမ်းခြင်းနှင့် (၃) ညှိနှိုင်းတိုင်ပင်ခြင်း ဖြစ်ပါတယ်။

## (က) စုံစမ်းမေးမြန်းခြင်း

သားသမီးကို ရင်အုပ်မကွာထားတဲ့ မိဘများက သမက်လောင်း၊ ချွေးမလောင်းကို အတော်ကလေး ရွေးတယ်။ စကားမလွန်ခင်မှာ သူတို့ဘဝထဲ ဝင်လာမယ့် လူသစ် အကြောင်းကို အစုံသိရအောင် နည်းမျိုးစုံနဲ့ စုံစမ်းမယ်။

သမက်လောင်းဆိုရင် သူတို့ စိစစ်တာက မျိုးရိုး၊ အကျင့်စာရိတ္တနဲ့ ပညာ အရည်အချင်း ပါမယ်။ သမီးရှင်များက သူ့မျိုးရိုး ဇာစ်မြစ် သိချင်တယ်၊ အမျိုးထဲမှာ ကိုယ်ရေပြား ရောဂါသည် (နူနာ) ပါသလား၊ ရူးသွပ်သူ ပါသလား၊ မူးယစ် သောက်စားသူကော အမျိုးထဲမှာ ရှိသလား စုံစမ်းမယ်။ သူကိုယ်တိုင်ကကော တစ်ခါ

တစ်ရံ သောက်စားတတ်သလား၊ လောင်းကစားသလား၊ မိန်းမ ရှုပ်တတ်သလား သိချင်ကြတယ်။ ရာထူးအဆင့်အတန်းနဲ့ နေဥစ္စာကို ထည့်တော့တွက်တယ်၊ သို့သော် စာရိတ္တဂုဏ်ပုဒ်တွေလောက် အရေးမကြီးဘူး။

ချွေးမလောင်း ကြည့်တဲ့အခါ ယောက်ျားလေး မိဘများက အကျင့်စာရိတ္တ စိစစ်မယ်၊ ရုပ်ရည်ကို ကြည့်မယ်၊ အိမ်ထောင်ထိန်းသိမ်းမှု နိုင်နင်းသလား ကြည့်မယ်၊ နောက် သူရဲ့ ပညာအရည်အချင်း။ ပစ္စည်းဥစ္စာကလည်း မိန်းကလေးရဲ့ ဂုဏ်ပုဒ် တစ်ရပ် ဖြစ်နိုင်ပါတယ်။

(ခ) ညှိနှိုင်းခြင်း

စုံစမ်းမေးမြန်းလို့ ကျေနပ်ကြပြီဆိုလျှင်တော့ တစ်ဘက်က မိဘများက အခြား တစ်ဘက်ကို ချဉ်းကပ်ဆက်သွယ်တယ်။ လက်ဖက်ရည် ကော်ဖီ အတူသောက်ရင်း ဖြစ်စေ၊ နေ့စာဖြစ်ဖြစ် ညစာဖြစ်ဖြစ် အတူစားရင်း ဖြစ်စေ သားတို့ သမီးတို့ကိစ္စ ပြောကြမယ်။ အစစ အဆင်ပြေလျှင်တော့ ဗေဒင်ဆရာထံသွား၊ ကာယကံရှင်နှစ်ဦးရဲ့ ဇာတာတိုက်ဆိုင် စစ်ဆေး၊ နေ့နံ သင့်မသင့် မေးတော့မယ်။

ဇာတ်လမ်းအတော်များများမှာ အောင်သွယ်လိုပါတယ်။ အောင်သွယ် (အောင် မြင်အောင် ဆက်သွယ်ပေးသူ) ကို စုံစမ်းရေးမှာရော ညှိနှိုင်းရေးမှာပါ တာဝန် ပေးတတ်တယ်။ မြန်မာအောင်သွယ်က များသောအားဖြင့် ရင့်ကျက်တဲ့ မိန်းမ တစ်ယောက် ဖြစ်မယ်။ သူ့အလုပ်အောင်မြင်ဖို့ စကားတတ်တယ်၊ ဆွယ်တတ်တယ်။ မြန်မာပြည်မှာက ဒီစကားအရာမှာ အတော် ထွန်းကားပါတယ်။ အာဝဇ္ဇန်း ကောင်းရုံ၊ အဆွယ်ကောင်းရုံနှင့် မပြီးဘူး၊ လျှင်ရတယ်၊ အကင်းပါးရတယ်။ နှစ်ဖက်စွဲအောင် ပြောတတ်ဆိုတတ်တဲ့ အတွင်းစကား ပြောစရာ လူယုံအဖြစ် စိတ်ချရသူ ဖြစ်မယ်။ မြှောက်လိုက်ပင့်လိုက် ပြောမယ်၊ လိုရင် လိုသလို ခပ်ရိုင်းရိုင်း ကလိတိတိ ပြောတန်လည်း ပြောရမယ်။ သို့သော် ဘယ်တော့မှ တစ်ဖက်သား လန့်သွားအောင် မပြောရဲ မဆိုရဲ ဖြစ်အောင်တော့ မပြောဘူး။ သူချဉ်းကပ်ခံရသူက နှစ်ဖက်ရင်ဖွင့်စကား ဆိုနေတာပဲလို့ မထင်ခဲ့ရင် ဘာမျှ ဖြစ်လာမှာ မဟုတ်ဘူး။ သူသုံးတဲ့ အတတ်ပညာကို လက်တွေ့စိတ်ပညာလို့ ဆိုနိုင်ပေမယ့် လူကို မိအောင် ဖမ်းဖို့ သူ့ ဂုဏ်ဒြပ်ရော ပျော့ကွက်တွေကိုပါ လိုသလို သုံးရမယ်။ လိုအပ်ရင် သူ့ ဘဝင် ခွေ့မည့် စကားလည်း ပြောရလိမ့်မယ်။

(ဂ) တိုင်တိုင်ပင်ပင်

နာမည်ကြီး ဗေဒင်ဆရာ မေးဖို့လိုတယ်၊ အကြောင်းနှစ်ခုအတွက်ပါ၊ တစ်ခုက သမီးခင်ပွန်းဖြစ်လာမည့် သူနှစ်ယောက် နေ့နံသင့် ရဲ့လား စိစစ်ဖို့။ နောက်တစ်ခုက စေ့စပ်ကြောင်းလမ်းဖို့နဲ့ လက်ထပ်ပွဲအတွက် နေ့ကောင်းရက်သာရွေး အချိန်ပါ သတ်ဖို့ ဖြစ်ပါတယ်။

အိမ်ထောင်ရေး ခိုင်မြဲစေဖို့ ဗေဒင်နက္ခတ် တိုက်ဆိုင်စစ်ဆေးရန် လိုတယ်လို့ ဗေဒင်ပညာရှိများက ဆိုပါတယ်။ စစ်ဆေးစရာတွေက အများကြီးရှိတယ်။ တစ်ခု နှင့်လည်း လုံလောက်ပါတယ်။ အဲဒါကတော့ ခင်ပွန်းလောင်းနဲ့ ဇနီးလောင်းတို့ မွေးနံ (ဂြိုဟ်) တိုက်ဆိုင်ကြည့်ဖို့ပါပဲ။ ဂြိုဟ်ကြီးရှစ်လုံးရှိတယ်။ တနင်္ဂနွေ (နေ)၊ တနင်္လာ (လ)၊ အင်္ဂါ၊ ဗုဒ္ဓဟူး၊ ရာဟု၊ ကြာသပတေး၊ သောကြာ၊ စနေ- ဒီဂြိုလ်ရှစ်ခု အတွက် ရက်သတ္တခုနစ်ရက် တစ်ပတ်ကို ရှစ်နေ့ ခွဲသတ်မှတ်တယ်။ ဗေဒင်ဆရာက သူတို့ မွေးနေ့များ နေ့နံ သင့်မသင့် (ရင်းနှီးချစ်ခင်မှု ရှိမရှိ) စစ်ဆေးပါတယ်။ အချင်းချင်း သဟ္ဗာယဖြစ်တဲ့ နေ့နံဆိုလျှင် အိမ်ထောင်ရေးမြဲတယ်။ အချင်းချင်း သဟ္ဗာယမ ဖြစ်ကြလျှင်တော့ အိမ်ထောင်ရေး မသာယာဘူး၊ ကွဲတောင် ကွဲနိုင်တယ်။

ဒါကို သေသေချာချာ စိစစ်ဖို့ ပုံသေတွက်နည်း ရှိပါတယ်။ နေ့နံမြေပုံ လက်ာ သီထားတယ်။ လက်ာမှာ စကားနှစ်လုံး ကပ်လျက်ပါတယ်။ သင့်တဲ့ နေ့နံနဲ့ မသင့်တဲ့ နေ့နံတွေက ဒီလိုရှိတယ်။

နေ့နံသင့်မွေးနေ့အတွဲများ

| | |
|---|---|
| ဥ သာ | တနင်္ဂနွေ သောကြာ |
| စိန် ပန်း | အင်္ဂါ ကြာသပတေး |
| ဒန်း လှ | စနေ ဗုဒ္ဓဟူး |
| ရှာ ကုမ် | ရာဟု တနင်္လာ |

နေ့နံမသင့် မွေးနေ့အတွဲများ

| | |
|---|---|
| ဓ မ္ဘာ | စနေ ကြာသပတေး |
| သော က | သောကြာ တနင်္လာ |
| အင်း ဝ | တနင်္ဂနွေ ဗုဒ္ဓဟူး |
| ရာ ဇာ | ရာဟု အင်္ဂါ |

အထက်ဇယားကို ကြည့်လျှင် အကောင်းဆုံး တွဲဖက်မိတဲ့ မွေးနေ့တွေက

တနင်္ဂနွေနှင့် သောကြာ၊ အင်္ဂါနှင့် ကြာသပတေး၊ ဗုဒ္ဓဟူးနှင့် စနေနဲ့ ရာဟုနှင့် တနင်္လာ အတွဲတွေပဲ။ မသင့်တဲ့ အတွဲတွေက စနေနှင့် ကြာသပတေး၊ သောကြာနှင့် တနင်္လာ၊ တနင်္ဂနွေနှင့် ဗုဒ္ဓဟူးနဲ့ ရာဟုနှင့် အင်္ဂါ။ (နောက်ဆက်တွဲရှုပါ)

အခုပြောတဲ့ သင့်တဲ့ နေ့နံနဲ့ မသင့်တဲ့ နေ့နံတွေကို အောက်ပါဇယားအတိုင်း ပြန်ပြီး စီလိုက်မယ်။

| မွေးနေ့ | သင့်တဲ့နေ့နံ | နေ့နံမသင့် |
|---|---|---|
| တနင်္ဂနွေ-၁ | သောကြာ-၆ | ဗုဒ္ဓဟူး-၄ |
| တနင်္လာ-၂ | ရာဟု-၈ | သောကြာ-၆ |
| အင်္ဂါ-၃ | ကြာသပတေး-၅ | ရာဟု-၈ |
| ဗုဒ္ဓဟူး-၄ | စနေ-၇ | တနင်္ဂနွေ-၁ |
| ကြာသပတေး-၅ | အင်္ဂါ-၃ | စနေ-၇ |
| သောကြာ-၆ | တနင်္ဂနွေ-၁ | တနင်္လာ-၂ |
| စနေ-၇ | ဗုဒ္ဓဟူး-၄ | ကြာသပတေး-၅ |
| ရာဟု-၈ | တနင်္လာ-၂ | အင်္ဂါ-၃ |

ဒီဇယားအရ စိစစ်မှုအပြင် အခြားဗေဒင်ကိန်းခန်း ဂြိုဟ်နေဂြိုဟ်ထားတွေပါ ဗေဒင်ဆရာက တွက်ချက်ကြည့်ရင် အိမ်ထောင်ရေး အတွက် အညွှတ်တွေ့ချင် တွေ့မယ်။ သို့သော် မိဘများကလည်း ဆုံးဖြတ်ပြီး နေပြီဆိုလျှင် ဗေဒင်ဆရာကို လုပ်သင့် လုပ်ထိုက်တာတွေသာ လုပ်ပေးပါတော့လို့ ပြောမယ်။ ဆရာက စေ့စပ်ကြောင်းလမ်းဖို့ နေ့ကောင်းရက်သာရွေး၊ အချိန်နာရီပါ သတ်ပေးမယ်။ မင်္ဂလာပွဲ အတွက်လည်း ရက်ရွေး အချိန်သတ်ပေးမယ်။ ဂြိုဟ်နက္ခတ်တွေကို ဘာမျှ မှုမနေဘဲ လက်ထပ်ကြ တဲ့ အိမ်ထောင်တွေလည်း အများကြီး ရှိကြောင်း ကျွန်တော် ဒီမှာ အသေအချာ ပြောစရာလည်း ရှိပါတယ်။

## (ဃ) စေ့စပ်ကြောင်းလမ်းပွဲ

မြန်မာပြည်က စေ့စပ်ကြောင်းလမ်းပွဲက အနောက်နိုင်ငံတွေမှာထက် ထုံးနည်းနှင့် စနစ်တကျ လုပ်တယ်။ များသောအားဖြင့် မိန်းကလေးအိမ်မှာ လုပ်တယ်။ ပရိသတ်များလျှင် မဏ္ဍပ်ထိုးမယ်၊ သို့မဟုတ် စားသောက်ဆိုင်၊ ဟိုတယ် စသည်မှာ လုပ်မယ်။ လွန်ခဲ့တဲ့ တစ်နှစ်ခန့်က မော်လမြိုင်မှာ လုပ်တဲ့ ပွဲတစ်ပွဲအကြောင်း ကျွန်တော် ပြောပါမယ်။ အဲဒီပွဲမှာ ကျွန်တော်က ဦးဆောင်ပါဝင်ခဲ့ရပါတယ်။

မိတ်ဆွေ မုဆိုးဖိုတစ်ယောက်က တစ်ဦးတည်းသောသမီး စေ့စပ်ကြောင်းလမ်းပွဲ

လုပ်မှာမို့ သူ့အိမ်ကို ကြွရောက်ချီးမြှင့်ပေးပါဆိုပြီး ကျွန်တော်နှင့် ဇနီးကို ဖိတ်ပါတယ်။ ကျွန်တော်တို့ သွားကြရော။ ဧည့်သည်တွေ အတော်များများ ရောက်နေပါပြီ။ အဖေဖြစ်သူက ကျွန်တော့်ကို အခမ်းအနားမှာ စကားနည်းနည်း ပြောပေးပါလို့ ဝါးတားတား ပြောပါတယ်။ ကျွန်တော်ကလည်း သူပြောတာ အမှတ်တမဲ့ပဲ နေမိတယ်။ ရုတ်တရက်ပဲ ကျွန်တော်တို့ စားပွဲမှာ ထိုင်နေတဲ့ မော်လမြိုင် ဆရာအတတ်သင်ကောလိပ် ကျောင်းအုပ်ကြီးက မတ်တတ်ရပ်လိုက်ပြီး သူ့အသင့်ရေးယူလာတဲ့ အတိုင်း (ဖတ်) ပြောပါတယ်။ သူက မင်္ဂလာရှိသော ဒီနေ့မှာ သူ ဒီကိုလာရတာ သားလိမ္မာရဲ့ မိဘများက မေတ္တာရပ်ခံချက်အရ ပါလို့ ဆိုတယ်။ ဆက်ပြောပါတယ်။ သားမိဘများရဲ့ကိုယ်စား သမီး ဖခင်ကို ထုံးတမ်းစဉ်လာနှင့် အညီ ထိမ်းမြားလက်ထပ်ခွင့်ပြုရန် စေ့စပ်ကြောင်းလမ်းပါကြောင်း၊ သဘောတူ လက်ခံရန် မေတ္တာရပ်ခံပါကြောင်း။ သူက ဆက်ပြီး ယောကျ်ားလေးမိဘများ ဘဝအတ္ထုပ္ပတ္တိ ဆက်ပြီး ပြောပြတယ်။ ယောကျ်ားလေးရဲ့ အကျင့်စာရိတ္တနှင့် ပညာအရည်အချင်းကိုလည်း ပြောပြပါတယ်။ ယခုလို သူက မိဘများကိုယ်စား စေ့စပ်လာတာကို တစ်ဘက်မှ လက်ခံသဘောတူမယ်လို့ ယုံကြည်ပါကြောင်း ပြောပြီး အဆုံးသတ်သွားပါတယ်။

မိန်းကလေး အဖေက ကျွန်တော့်ဘက်လှည့်ကြည့် မျက်ရိပ်ပြတယ်။ သူ့ကိုယ်စား ပြောပေးပါပေါ့။ ကျွန်တော် မတ်တတ်ရပ်၊ အထက်က ပြောသွားတာနဲ့ လိုက်ဖက်မယ့်စကား ပြန်ပြောပါတယ်။ ယခုလို ဂုဏ်သရေရှိ မိဘများက စေ့စပ်ကြောင်းလမ်းတာကို သမီးရှင် ဖခင်က အလွန်ဂုဏ်ယူ ဝမ်းသာမှာ သေချာပါကြောင်း၊ ယောကျ်ားလေးကလည်း ပြောသွားတဲ့ ဂုဏ်ပုဒ်တွေ ပိုင်ဆိုင်သူဆိုတော့ သမီးအတွက် ဘဝဖော်ကောင်းဖြစ်မှာ သေချာကြောင်း ပြောပါတယ်။ ကျွန်တော်က ဆက်ပြီး မိန်းကလေးရဲ့ ဂုဏ်ပုဒ်တွေ၊ သူ့ အကျင့် စာရိတ္တ၊ ပညာ၊ အိမ်ထောင်မှုနိုင်နင်းပုံ စသည် ပြောပါတယ်။ လူကြီးမင်းများ စေ့စပ်လာတာကို သမီးရှင် ဖခင်က သဘောတူလက်ခံကြောင်း ကိုယ်စားပြန်ကြားပါတယ်ဆိုပြီး နိဂုံးချုပ်လိုက်ပါတယ်။

ဒီတရားဝင် ပြောကြဆိုကြတဲ့ အပိုင်းပြီးတော့ ထုံးစံအတိုင်း လက်စွပ်လဲပါတယ်။ ထိမ်းမြားလက်ထပ်ရန် ကတိပြုတဲ့ အထိမ်းအမှတ်ပါပဲ။ အမျိုးသမီးတစ်ယောက်က အထက်က စကားပြောခဲ့တဲ့ ပုဂ္ဂိုလ်နှစ်ဦးကို စိန်လက်စွပ်ပါတဲ့ ဘူးကလေးတစ်ခုစီ ကမ်းပါတယ်။ ယောကျ်ားလေးက ပေးတာပါဆိုတဲ့ လက်စွပ်ကို ကျွန်တော်က မိန်းကလေးရဲ့ လက်သူကြွယ်မှာ စွပ်ပေးလိုက်တယ်။ မိန်းကလေးက ပေးတဲ့ လက်စွပ်ကိုတော့ တစ်ဘက် မိတ်ဆွေကြီးက ယောကျ်ားလေး လက်သူကြွယ်

မှာ စွပ်ပေးပါတယ်။ ထိုနောက် စုံတွဲကို နှင်းဆီပန်း၊ သစ္စာပန်းနှင့် သပြေခက်ပါတဲ့ ပန်းစည်းတစ်စည်းစီ ကမ်းပါတယ်။ ပန်းစည်းကိုင် လက်စုံမိုးပြီး နှုတ်ဖက်မိဘများကို ရှိခိုးကန်တော့ရန် ဖြစ်ပါတယ်။ အခမ်းအနား ပြီးပါပြီ။ မိန်းကလေး အဖေက ဧည့်သည်များကို ကျွေးမွေးဧည့်ခံပါတယ်။

(င) လက်ထပ်မင်္ဂလာပွဲ

လက်ထပ်မင်္ဂလာပွဲတွေက ဒေသလိုက်ပြီး ပုံစံကွဲပါတယ်။ လုပ်စရာ ထုံးတမ်းတွေကိုတော့ အရပ်တိုင်း လိုက်နာကြပါတယ်။ ရပ်ရွာ ထုံးစံအရ နည်းနည်းပါးပါး ကွာခြားမှု ရှိနိုင်တယ်။ သက်ဆိုင်ရာ မိဘများရဲ့ ငွေကြေးအင်အားကြောင့်လည်း ကွဲပြားမှု ဖြစ်နိုင်ပါတယ်။ စေ့စပ်ပွဲမှာလိုပဲ အတိုင်းအတာလိုက်ပြီး အခမ်းအနား ကျင်းပတဲ့ နေရာကွဲပြားပါတယ်။ အိမ်ငယ်လေးမှာပဲ ကျင်းပနိုင်တယ်၊ ဟိုတယ်ကြီးကြီးလည်း ဖြစ်နိုင်တယ်။ အကျဉ်းရုံးပြီးလုပ်တဲ့ ပွဲကလေး ဖြစ်ချင်ဖြစ်မယ်၊ တစ်နှစ်မှာ တစ်ခါသာ ကြုံတတ်တဲ့ ပွဲမျိုးလည်း ဖြစ်နိုင်ပါတယ်။ လက်ထပ်ထိမ်းမြားမှုကို ဆောင်ရွက်ပေးသူက ရပ်ရွာလူကြီးတစ်ယောက် ဖြစ်နိုင်တယ်၊ နိုင်ငံမှာ အကြီးဆုံးအရာရှိကြီးလည်း ဖြစ်နိုင်တယ်။ ဘယ်သူလုပ်လုပ် ရပါတယ်။ ရှေးရိုးလိုက်တဲ့ မြန်မာများကတော့ မင်္ဂလာပွဲမှာ ဗြာဟ္မဏပုဏ္ဏား ဘိသိက်ဆရာကို မင်္ဂလာ အစီအစဉ်မှူး (ဘိသိက်ဆရာ) အဖြစ်ဆောင်ရွက်စေလိုတယ်။ ပုဏ္ဏား ဘိသိက်ဆရာ မရနိုင်ရင်လည်း မင်္ဂလာအခမ်းအနားမှူးနှင့်ပဲ ကျင်းပပါတယ်။ အားလုံး နားလည် လက်ခံထားတဲ့ ပညတ်ချက် တစ်ခုရှိပါတယ်။ ဝါတွင်းမှာ မင်္ဂလာ မဆောင်ရပါဘူး။ ကျွန်တော့်အထင် ဒီကိစ္စက ရဟန်းတော်များ ဝါတွင်း ခရီးမသွားရတဲ့ ဘုရားဝိနည်းတော် သိက္ခာပုဒ်ကို လူတွေ အကောက်ယူလွဲတာ နေမှာပါ။ မြတ်စွာဘုရားက ဝါတွင်းမှာ ရဟန်းတော်များ အစုလိုက် အဖွဲ့လိုက် ခရီးကြွချီလျှင် လယ်ယာတွေ ပျက်စီးမှာ စိုးရိမ်လို့ ပညတ်တော်မူခဲ့တာပါ။

မြန်မာပြည်မှာ ကျွန်တော် သွားခဲ့ရတဲ့ မင်္ဂလာပွဲ အများကြီးပါ။ ဒီထဲက ပွဲနှစ်ပွဲ အကြောင်း ပြန်ပြောပါမယ်။ ပထမပွဲက မန္တလေးမှာ၊ ဒုတိယပွဲက မော်လမြိုင်မှာပါ။

မန္တလေးမင်္ဂလာပွဲက သတို့သမီးအိမ်မှာ ကျင်းပပါတယ်။ ဗေဒင်ဆရာ သတ်ထားတဲ့ မင်္ဂလာအချိန်အခါ မကျမီ မိနစ်အနည်းငယ် အလိုမှာ သတို့သားက မင်္ဂလာဝတ်စုံဝတ်ပြီး သတို့သားရံခြံရံပြီး အိမ်ကြီးရှေ့ခန်းကို ရောက်လာပါတယ်။ အခန်းက ကောဇောအပြည့် ခင်းထားပြီး ကတ္တီပါ ဖုံကြီးနှစ်ခု ယှဉ်ခင်းထား တယ်။ သတို့သားက ကတ္တီပါ ဖုံပေါ် ဝင်ထိုင်လိုက်တယ်။ သတို့သားအရံက သူ့ နောက်မှာ

နေရာယူတယ်။ ခဏနေတော့ ရတနာတွေ စီခြယ်ထားတဲ့ သတို့သမီး အခန်းတွင်း ဝင်လာတယ်။ သတို့သမီးအရံလည်း ပါလာတယ်။ သတို့သမီးက သတို့သား လက်ဝဲဘက်က ကတ္တီပါ ဖုံပေါ် နေရာယူပါတယ်။ သတို့သမီးအရံက နောက်မှာ ထိုင်တယ်။ ဖိတ်ကြားထားတဲ့ ပရိသတ်အပေါင်းက မိနစ်အတော်ကြာ သူတို့ စုံတွဲကိုပဲ အာရုံစိုက်ကြည့်နေတယ်။

မင်္ဂလာအချိန်ရောက်တဲ့အခါ ပြာဟ္မဏ ပုဏ္ဏား (ဘိသိက်ဆရာ) က ခရုသင်းကို သူ့လက်ဝဲဖက်မှာ စလွယ်သိုင်းလျက် ဝင်လာပါတယ်။ သူက အောင်ကြောင်းဖြာသည့် အထိမ်းအမှတ် ခရုသင်းမှုတ်ပြီး အခမ်းအနား စတင်ပါတယ်။ ဘိသိက်ဆရာက သတို့သား လက်ယာလက်ကိုကိုင် လက်ဝါးကို အပေါ်ဘက်ဖြန့်ထားတယ်။ ပြီးတော့ သတို့သမီး လက်ယာလက်ကို သတို့သားလက်ပေါ် ထပ် (လက်ထပ်) ပြီး လက်အစုံကို အဝတ်ဖြူ စုလျားနှင့် ရစ်ပတ် (စုလျားရစ်ပတ်) ပေးပါတယ်။ ပြီးတော့ လက်အစုံကို ထပ်လျက် ငွေဖလားထဲ နှစ်ပါတယ်။ ငွေဖလားက သတို့သား၊ သတို့သမီး ရှေ့မှာ ချထားတာ၊ ရေတစ်ဝက်လောက် ထည့်ထားတယ်။ ဘိသိက်ဆရာက ဂါထာမန္တာန်တွေ ရွတ်တယ်၊ သသ်ကရိုက်ဘာသာနှင့် ရွတ်တာ။ ပြီးတော့ လက်နှစ်ဖက်ကို ရေထဲက ပြန်ဆယ်၊ ခရုသင်းမှုတ်ပြီး မင်္ဂလာသဘင် ဘိသိက်ကဏ္ဍကို အဆုံးသတ်ပါတယ်။ ဒီပွဲကို ကြည့်ခြင်းဖြင့် ထိမ်းမြားမင်္ဂလာကို ဘာကြောင့် လက်ထပ်ပွဲခေါ်တယ် ဆိုတာ မြင်တွေ့ပါပြီ။

နောက်အစီအစဉ်မှာတော့ နာမည်ကြီး အဆိုတော် တစ်ယောက်က ရတုဆိုပါတယ်။ ရတုက သတို့သား သတို့သမီးနဲ့ မိဘများရဲ့ ဂုဏ်ပုဒ်တွေ ရေးဖွဲ့ထားတာပါ။ အစီအစဉ် အဆုံးမသတ်မီ ပြောတတ် ဟောတတ်တဲ့ စာတတ်ပေတတ် မြန်မာ တစ်ယောက်က စကား ပြောပါသေးတယ်။ ဇနီး မောင်နှံအတွက် ဆုံးမဩဝါဒနဲ့ သိစရာ မှတ်စရာတွေ ပြောပါတယ်၊ သူက မင်္ဂလာအခမ်းအနား ကျင်းပရတဲ့ ရည်ရွယ်ချက်နဲ့ အဓိပ္ပာယ် ရှင်းပြပါတယ်၊ ပြီးတော့ ဇနီးမောင်နှံ တစ်ဦးအပေါ် တစ်ဦး သစ္စာရှိဖို့ နောက် လင့်ဝတ္တရားငါးပါး၊ မယားဝတ္တရားငါးပါး ဆက်ပြောပါတယ်။

လင့်ဝတ္တရားငါးပါး

၁။ မယားကို တန်ဖိုးထားရမည်၊ မထီလေးစား မပြုရ၊

၂။ ရှာဖွေရသမျှ ပစ္စည်းကို မယားထံ အပ်နှံရမည်၊

၃။ အိမ်ထောင်ရေး ဖောက်ပြားကျူးလွန်မှုများယှဉ်းခြင်း မပြုရ၊

၄။ ဇနီးကို အဝတ်အစား လက်ဝတ်ရတနာ (ဝယ်ယူ) ဆင်မြန်းပေးရမည်၊
၅။ မယားကို မြတ်နိုးကြင်နာရမည်။

လင်္ကာ။ ။ (မထီမဲ့ကင်း၊ အပ်နှင်းဥစ္စာ၊ မိစ္ဆာမမှား၊ ဝတ်စားဆင်ယင်၊ မြတ်နိုးကြင်။ )

မယားဝတ်ငါးပါးက

၁။ အိမ်တွင်းမှု စီမံလုပ်ဆောင်ရမည်၊
၂။ ဆွေမျိုးသားချင်းများကို သင့်လျော်အောင် ဝေမျှပေးကမ်းရမည်၊
၃။ အိမ်ထောင်ရေး ဖောက်ပြန်မှားယွင်း ကျူးလွန်ခြင်း မပြုရ၊
၄။ ပစ္စည်းဥစ္စာကို ထိန်းသိမ်းစောင့်ရှောက်ရမည်၊
၅။ မပျင်းမရိရ၊ လုပ်စရာရှိတာ လုပ်ရမည်။

လင်္ကာ။ ။ (အိမ်တွင်းမှုလုပ်၊ သိမ်းထုပ်သေချာ၊ မိစ္ဆာကြဉ်ရှောင်၊ လျော်အောင် ဖြန့်ချိ၊ ပျင်းရိမမူ။)

ပုဂ္ဂိုလ်ကြီး ဆုံးမသြဝါဒပြီးတာနှင့် တပြိုင်နက် မိန်းကလေးများက အသင့်ပိုက်ထားတဲ့ ငွေဖလားကြီးများမှ နှိုက်ယူပြီး ရွှေမိုး ငွေမိုး ရွာပါတယ်။ ဖြန့်ကြဲတဲ့ထဲမှာ ပေါက်ပေါက်ပန်းနဲ့ ငွေအကြွေတွေပါမယ်။ ပြီးလျှင် ဧည့်သည်တော်များကို ကျွေးမွေးဧည့်ခံပါတယ်။ အားလုံးပြီးတဲ့အခါ ငွေရတု၊ ရွှေရတု၊ ပတ္တမြားရတု ကျင်းပပြီးဖြစ်တဲ့ အိမ်ထောင်သက်ရှည် ဂုဏ်သရေရှိ ဇနီးမောင်နှံကို ဇနီးမောင်နှံသစ်ရဲ့ အိမ်ခန်းရှိရာ ဖိတ်ခေါ်သွားပါတယ်။ အဲဒီမှာ တစ်ယောက်ပြီး တစ်ယောက် မွေ့ရာ၊ စောင်၊ ခေါင်းအုံးတွေ လက်နှင့်ပွတ်ပွတ်ပြီး ဆုတောင်းပတ္ထနာ ပြုပေးကြပါတယ်။

မင်္ဂလာပွဲနေ့ ညပိုင်း ၁၀ နာရီလောက်မှာ သတို့သားက အပေါ်ထပ်အိပ်ခန်းဆီ သွားပါတယ်။ လှေကားအတက်မှာ ကြိုး အထပ်ထပ်နှင့် ထားထားတာ တွေ့ရပါရော။ ကြိုးတစ်ချောင်း တစ်ယောက် တစ်ဖက်ကိုင်ပြီး တားထားတာ။ ဒီရိုးရာကို ကြိုးတား တယ်လို့ ခေါ်ပါတယ်။ သူ့ကို 'ရွှေကြိုးငွေကြိုး' တားထားတယ်လို့ ပြောပြီး ဖြတ်သန်း ချင်လျှင် ငွေပေးရမယ်။ သတို့သားက အိတ်ထဲနှိုက်၊ တောင်းတဲ့ငွေပေးရပါတယ်။ သူက ကြိုတင်သိထားပြီး ငွေအသင့် ဆောင်ထားတာ ဖြစ်မှာပါ။ 'ရွှေကြိုး ငွေကြိုး ဖြတ်ခ' သို့မဟုတ် 'ခဲဖိုး' ဆိုတာ မြန်မာပြည် တဝန်းမှာ ယခုအချိန်ထိ ကျန်ရှိနေတဲ့ ရှေးအစဉ်အလာများမှ နှစ်ရပ်ဖြစ်ပါတယ်။ ဒီအစဉ်အလာများရဲ့ ဇာစ်မြစ်ကတော့ ကာလယန္တရားမှာ ကွယ်ပျောက်ခဲ့ပါပြီ။

မော်လမြိုင်ကပွဲအကြောင်း ကျွန်တော် မဆက်မီ မန္တလေးမှာ လုပ်ခဲ့တဲ့ ရိုးရာအစဉ်အလာများအကြောင်း ရှင်းပြစရာ အနည်းငယ် ရှိပါတယ်။ သတို့သားလက် အပေါ်ဘက် ဖြန့်တဲ့ အဓိပ္ပာယ်က သတို့သမီး လက်ကို တောင်းခံတာပါ။ သတို့သမီး လက် ထပ်လိုက်တာကတော့ သဘောတူတဲ့ အထိမ်းအမှတ်ပါ။ လက်နှစ်လွှာကို စုလျားဖြူနှင့် ရစ်ပတ်တာကတော့ စင်ကြယ်ခြင်း သင်္ကေတဖြစ်ပြီး နှစ်ဦးအတူ

ပေါင်းဖက်မှုကို ပြသပါတယ်။ လက်နှစ်ဖက်ကို ရေထဲနှစ်တဲ့ အဓိပ္ပာယ်က ရေကို စည်းသားလို့ ခွဲခြားမရ တသားတည်း ဖြစ်သည့်ပမာ နှစ်ယောက် မကွဲမကွာ တသားတည်း ဖြစ်ကြမည်လို့ ဆိုလိုပါတယ်။

မော်လမြိုင်က မင်္ဂလာပွဲကိုတော့ လွန်ခဲ့သည့် ခြောက်လခန့် (၁၉၈၃ ခုနှစ် အတွင်း) က စားသောက်ဆိုင်ကြီးတစ်ဆိုင်မှာ ကျင်းပပါတယ်။ မန္တလေးပွဲမှာ ပါဝင်ခဲ့တဲ့ အစဉ်အလာလုပ်ရိုး အများစု ဒီမှာ ပြန်ပါလာပါတယ်။ သို့သော် မတူကွဲပြားတဲ့ အချက်တွေက မှတ်သားဖွယ်ရာ ကောင်းပါရဲ့။

သတို့သား သတို့သမီးက စင်မြင့်ပေါ်မှာ ထိုင်ခုံနှင့် ထိုင်နေပါတယ်။ စင်အောက်မှာတော့ ပရိသတ်က ကုလားထိုင်မှာ ထိုင်ကြပါတယ်။ မင်္ဂလာ အခမ်းအနားမှူးက ဗြာဟ္မဏပုဏ္ဏား မဟုတ်ပါဘူး။ သူက တက္ကသိုလ်ပါမောက္ခ၊ ကျွန်တော့် မိတ်ဆွေ တစ်ယောက် ဖြစ်ပါတယ်။ သူက သူအားတဲ့ရက်မှာ မင်္ဂလာအခမ်းအနားမှူး လုပ်လေ့ရှိတယ်။ ဖူးစာရေး အကျိုးတော်ဆောင်ပေါ့လေ။ သူက ကြေးစားမဟုတ်၊ မေတ္တာရည်နဲ့ ကူညီသူပါ။ မင်္ဂလာပွဲက ခပ်ကျဉ်းကျဉ်းပါပဲ၊ နှစ်ဖက်မိဘများက သိပ်မတတ်နိုင်ကြရှာဘူး။

ပါမောက္ခကြီးက တစ်ပွဲလုံး သူတစ်ယောက်နှင့် ပြီးအောင် လုပ်သွားပါတယ်။ တစ်ခန်းတစ်နေရာမှာပဲ ကျွန်တော်နဲ့ ဇနီးကို မေတ္တာရပ်ပြီး လက်ထပ်ပေးခိုင်းပါတယ်။ ကျွန်တော်နှင့် ဇနီးကို လက်ထပ်ပေးဖို့ မေတ္တာရပ်ခံတာက ဂုဏ်ရှိအောင် ကျက်သရေတိုးအောင် လုပ်တာထင်ပါတယ်။ ကျွန်တော်က သတို့သား လက်ကိုကိုင်၊ လက်ဖဝါးအပေါ် ဖြန့်ထား။ ကျွန်တော့်ဇနီးက သတို့သမီး လက်ကိုကိုင် လက်ဖဝါးအောက်ဘက် ဖြန့်ပြီး သတို့သားလက်ပေါ်မှာ ထပ်ပေးပါတယ်။ ပါမောက္ခက အဝတ်ဖြူနှင့် လက်နှစ်ဖက်ကို ရစ်ပတ်ပေးပြီးနောက် ကျွန်တော်တို့က လက်အတွဲကို ရှေ့မှာ ချထားတဲ့ ငွေဖလားထဲမှာ ရေနှစ်ပေးလိုက်ပါတယ်။ ဆရာကြီးက သူ့လက်ဝဲဘက် ဘေးမှာ ခရုသင်းတော့ လွယ်ထားတယ်၊ တကယ် မမှုတ်ပါဘူး။ မှုတ်ဟန်တော့ ပြုပါတယ်။ သူက သင်္ကရိုက် မန္တာန်မရွတ်ဘူး။ ဒီအစား ဗုဒ္ဓကျမ်းဂန်လာ ဂါထာ ပါဠိ နည်းနည်းရွတ်ပါတယ်။ သတို့သားနဲ့ သတို့သမီး အကြောင်းထုပ္ပတ်ကိုလည်း ပြောပါတယ်။ ရတုဖတ်တာတော့ မပါဘူး။ ဒို့ပြင် ပါမောက္ခက မင်္ဂလာပွဲမှာ ဗုဒ္ဓဘာသာလက္ခဏာပါတဲ့ အစီအစဉ်တစ်ခု ထပ်ထည့်ပါတယ်။ အခမ်းအနား မပြီးမီမှာ ပရိသတ်ထဲက မိန်းကလေးတစ်ယောက် စင်မြင့်ရှိရာ ထွက်လာပြီး လက်ထပ်ပြီး ဇနီးမောင်နှံကို ပန်းစည်း တစ်စည်း ပေးပါတယ်။ ပန်းစည်းက နှင်းဆီ၊ သစ္စာပန်းနဲ့ သပြေခက်ပါတယ်။ ဒီအတိုင်း ငါးကြိမ်လုပ်ပါတယ်၊ ငါးကြိမ်တိုင်တိုင် ဇနီး

မောင်နှံအစုံက ပထမ ရတနာသုံးပါးကို ရှိခိုးကန်တော့ပါတယ်။ ဒုတိယ ရပ်စောင့် မြို့စောင့်နတ်အပေါင်းကို ကန်တော့တယ်။ တတိယ မိဘများနဲ့ စတုတ္ထ ဆရာသမား များ၊ နောက်ဆုံး ပရိသတ်ကို ရှိခိုးကန်တော့ပါတယ်။

မြန်မာဗုဒ္ဓဘာသာများက မင်္ဂလာအခမ်းအနားမှာ ဗုဒ္ဓဘာသာအစီအစဉ်များ သွတ်သွင်းလာတဲ့ လက္ခဏာရှိပါတယ်။ တချို့တွေကလည်း လူတကာ လုပ်ရိုးထုံးစံ တွေကို လိုက်မလုပ်ကြတော့တာလည်း တွေ့ရပါတယ်။ ကျွန်တော် သွားခဲ့ဖူးတဲ့ မင်္ဂလာပွဲတချို့မှာ ဘုန်းတော်ကြီးများ အိမ်ကိုပင့်ပြီး ဆွမ်းကပ်တယ်၊ ဒါ မင်္ဂလာ ကုသိုလ်ယူတာပါ။ တစ်အိမ်မှာတော့ သတို့သမီး မိဘများက မြို့ရွာ ထုံးစံတွေ လုံးဝ မလုပ်တော့ဘူး။ ဆရာတော်ကြီးတစ်ပါးအပါ သံဃာငါးပါးကို မင်္ဂလာအိမ်ကို ပင့်ဖိတ်တယ်။ ပရိသတ်က ငါးပါးသီလ ခံယူပြီး ဆရာတော်က တရားချီးမြှင့်ပါတယ်။ ဆရာတော့်တရားက ကျမ်းဂန်မှာပါတဲ့ သီရိလင်္ကာကျွန်းမှ ဘုရားတရား ကြည်ညိုပြီး သဒ္ဓါ တရားထက်သန်တဲ့ ဇနီးမောင်နှံအကြောင်းပါ။ ဆရာတော်က ဒီဇနီးမောင်နှံရဲ့ စံထားဖွယ် ဘဝအကြောင်းနှင့် သူတို့ ကွယ်လွန်တော့လည်း နတ်ပြည်မှာ ပြန်လည် ပေါင်းဖက်ရသည့် အကြောင်းဟောပါတယ်။ ဒီနိပါတ်ပုံပြင်ကို သတို့သား သတို့သမီး နမူနာထား ကျင့်ကြံသွားကြဖို့ ဩဝါဒတရား ချီးမြှင့်ပါတယ်။ သံဃာတော်များကို အရင်ဆွမ်းကပ်ပြီး လူပရိသတ်ကို နောက်မှ ကျွေးမွေးပါတယ်။ လူငယ်နှစ်ဦး ဇနီးမောင်နှံဖြစ်ပြီလို့ အများအသိအမှတ် ပြုပြီးပါပြီ။

## ၄။ အိမ်ထောင်သည်ဘဝ

ကျွန်တော့်ကို မြန်မာသွေးကြီးတဲ့လူလို့ အပြောခံရချင် ခံရပါစေ။ မြန်မာ ပြည်မှာက အနောက်မှာထက် အိမ်ထောင်ရေး ခိုင်မြဲပါတယ်လို့ ပြောပါရစေ။ သူစိမ်း တရံ နှစ်ယောက် အတူ ပေါင်းဖက် နေထိုင်တာကို ခိုင်မြဲအောင် မမြင်သာတဲ့ စည်းနှောင်ကြိုးတွေ ရှိပါတယ်။ ပထမ မေတ္တာတရားနှင့် ရိုသေလေးစားမှု၊ မြန်မာ များက ဒီမဏ္ဍိုင်နှစ်ရပ်ကို အခြေပြု ကြီးပြင်းကြရတာပဲ။ ဘဝကို ပျက်စီးစေမယ့် ဆွဲဆောင် တပ်မက်မှုတွေကလည်း အနောက်နှင့် စာလျှင် နည်းပါးပါတယ်။ တတိယ အနေနှင့် အရေးအကြီးဆုံး ဖြစ်တဲ့ ပေါ်ပေါ်လွင်လွင် မမြင်ရသော်လည်း တကယ် ရှိနေတဲ့ ကံကို ယုံကြည်မှု၊ ကံကြောင့် သူတို့ ဆုံစည်းကြရတာ ဖြစ်လေတော့ မကောင်းအတူ ကောင်းအတူ အတတ်နိုင်ဆုံး ကောင်းအောင် နေသွားကြရမှာပဲ ဆိုတဲ့ အသိ ရှိပါတယ်။

အခု ပြောတဲ့ အချက်တွေကို လင်မယား ဆက်ဆံရေးမှာ တွေ့ရပါတယ်။ ကတောက်ကဆ ဖြစ်တာလေးတွေကတော့ ရှောင်မရပါဘူး။ သို့ပေမယ့် သူတို့ အချင်းချင်း အပြန်အလှန် မှီတွယ်နေရတယ်ဆိုတာ သဘောပေါက် နားလည်တယ်။ မြန်မာ လင်ယောကျ်ားက သဘောအားဖြင့် အိမ်ထောင်ဦးစီး ဖြစ်ပါတယ်။ ပြီးတော့ သူလိုချင်ရင် မယားတစ်ထောင် ယူနိုင်တယ်။ 'ယောကျ်ားကောင်း မောင်းမတစ်ထောင်' လို့ ဆိုရိုးရှိထားတယ်။ ဒီနိုင်ငံမှာ မယားအများယူတာကို တရားဝင် ခွင့်ပြုပါတယ်။ ဒါပေမဲ့ သူယူလိုက်ရင်တော့ အသိုင်းအဝန်းက လက်မခံလို့ အရှက်ရမှာစိုးတယ်။ ဝိုင်းအကြည်ခံရသည်အထိ ဖြစ်သွားမှာလည်း စိုးရတယ်။ သူက များသောအားဖြင့် ဇနီးကို ကြင်နာပါတယ်။ 'မယားနဲ့ နွား မသနားနှင့်' ဆိုတဲ့ မြန်မာစကားပုံကို သူများတွေ လိုက်နာရင်တောင် သူလိုက်နာမှာ မဟုတ်ဘူး။ ဒီစာဆိုက A spaniel, a woman and a walnut tree, the more they are beaten, the better they be' (စပင်နီယယ်ခွေးရယ်၊ မိန်းမရယ်၊ ဝေါနပ်ပင်ရယ် ရိုက်ပေးလေ ကောင်းလေပဲ) ဆိုတဲ့ အင်္ဂလိပ် စကားပုံနှင့် ဆင်ဆင်တူတယ်။ သူကဇနီးကို သူ့နှမကဲ့သို့ သဘောထားတယ်။ 'နှမ' လို့ပဲခေါ်မယ်။ သူကဇနီးကို တစ်လထက်ပိုပြီး ကြာကြာ ပစ်ထားခဲ့လို့ မဖြစ်ဘူးလို့လဲ သူသိပါတယ်။ 'ထက်လှစွာသော စောင်းသမားသည် စောင်းနှင့်သုံးလကင်းမူ လက်ပျက်ကုန်၏၊ တော်မှန်လှစွာသော မယားဖြစ်လျှင်မူလည်း လင်နှင့်တစ်လကင်းမူ ပျက်ကုန်၏၊'* လို့ဆိုရှိပါတယ်။ သူကဇနီးချွဲတတ်ပုံလေးကိုလည်း အမြဲအမှတ်ရနေမယ်၊ မိန်းမကထပ်ထပ်ခါပြောရင် သူကလိုက်လျော ရတာပဲ။ ပြီးတော့ သူကမိန်းမ အကြိုက် အမြဲတမ်း မလိုက်ရန်လည်း သန္နိဋ္ဌာန်လိုက်ရင် မိုက်ရာ ကျပေလိမ့်မယ်၊ မိန်းမအပေါ် သဘောထားကြီးရာတော့ မရောက်ပေဘူး။

ဇနီးဘက်က ကြည့်လျှင် အစကနဦးမှာတော့ အားကျဖွယ် မရှိသလိုပါပဲ။ မြန်မာပြည်မှာက 'အိမ်ထောင်ဦး ဘုရားတည် ဆေးမင်ရည် စုပ်ထိုး' ဆိုတဲ့ လုပ်မိလျှင် ပြင်မရတဲ့ကိစ္စ သုံးရပ်ရှိတယ်။ အိမ်ထောင်ပြုတာ ပြင်မရ၊ ဘုရားတည်ပြီး ပြင်မရ၊ မင်ကြောင်ဆေးရုပ်ထိုးပြီး ပြင်မရ။ ဇနီးက ဖြစ်လာရင် နှစ်ခါနာမည့်ဘက်က။ ကွာရှင်းတာပဲ ဖြစ်ဖြစ်၊ သူကလင်ကိုပစ်ပစ်၊ လင်ကသူ့ကိုပစ်ပစ် သူ့အတွက်အရှုံးပဲ။ သို့သော်လည်း 'ခွေးလိုယောကျ်ား' နှင့်ဆက်ပေါင်းပြီး တသက်လုံးဆင်းရဲဒုက္ခခံ နေမည့်အစား လင်မယားကွဲမယ်ဆိုတဲ့ ဇနီးကလည်း အများကြီးရှိပါတယ်။ မိန်းမရဲ့ အိမ်ထောင်ရေးအနေအထားက စကားပုံတွေက ဆိုထားသလောက်

---

* လောကနီတိမှ အဆိုဖြစ်သည်၊ ၁။ လောကနီတိတွင် 'ငါးရက်မျှ စောင်းနှင့်ကင်းမူ' ဟု ဆိုပါသည်။ ဆယ့်ငါးစောင်တွဲ မဥ္ဇူသကစာပေ ၁၉၈၁ ခု၊ မန္တလေး။ (ဘာသာပြန်သူ၏ မှတ်ချက်)

မဆိုးလှပါဘူး။ အဆိုတွေကလည်း တစ်ခုနှင့်တစ်ခု ကန့်လန့် ဖြစ်နေတာတွေ အများကြီး ရှိပါတယ်။

မြန်မာလင်သားက သဘောအားဖြင့်တော့ အိမ်ထောင်ဦးစီးပါပဲလို့ ဆိုခဲ့ပါပြီ။ လက်တွေ့မှာတော့ 'အသိုက်အမြုံ' ကိုလွှမ်းတာက မိန်းမပါ၊ မိန်းမက အခရာပါ။ သို့သော် သူ့အခွင့်အရေး သူ့လွတ်လပ်ခွင့် ဆိုပြီး ရှေ့တန်းမတင်ပါဘူး။ သူက လင်ကို ချစ်ကြောက်ရိုသေတယ်။ တစ်ခါတစ်ရံ မိခင်ပမာ ၊ တစ်ခါတလေလည်း နှမအလား၊ ကျန်အချိန်များမှာတော့ ကျွန်ကဲ့သို့သော မယားဖြစ်ပါတယ်။ မယားက လင်ကို ချစ်ချစ်ခင်ခင် ခေါ်ဝေါ်ရာမှာ မြန်မာလို 'အစ်ကို' လို့သုံးတယ်။ အစ်ကိုကြီးလို့ အမိပွာယ်ရတယ်။ အရာရာကို သူ့အတွက် ဖြည့်ဆည်းပေးဖို့ လင့်ဘုန်းကံကို အားထားတယ်။ ဘဝရေကန်ထဲက ရေနှင့်ကြာလိုပဲ။ လင်ကရေ၊ သူကကြာ။ ရေမြင့်မှ ကြာတင့်မယ်ဆိုတာ သူသတိထားတယ်။ အပ်သွားရာ ချည်ပါဆိုတဲ့အတိုင်း ဘဝ ခရီးမှာ လင်သွားရာ မယားပါရမှာပဲလို့ ခံယူပြီး ဆိုးသည်ဖြစ်စေ ကောင်းသည်ဖြစ်စေ လင်ဦးဆောင်ရာ မယားကလိုက်ပါမယ်။

အခန့်မသင့်လို့ အိမ်ထောင်ခွဲကြတဲ့အခါမှာတောင် မြန်မာဇနီးမယားက အနောက်တိုင်း ဇနီးမယားများထက် အနေအထား ပိုကောင်းပါတယ်။ ပစ္စည်းခွဲဝေရမည်ဆိုလျှင် အိမ်ထောင်ဦးပစ္စည်း ပါရင်းကိုတော့ နှစ်ဦးဆိုင်ရာယူကြတယ်။ လင်ရှာသည့်ပစ္စည်း သို့မဟုတ် မယားရှာသည့်ပစ္စည်း သို့မဟုတ် နှစ်ဦးအတူရှာသည့် လက်ထက်ပွား ပစ္စည်းခန်းမှာတော့ နှစ်ဦးသဘောတူ ခွဲဝေကြရမယ်။ သို့မဟုတ် တရားရုံးအဆုံးအဖြတ်နှင့် ခွဲဝေရမယ်။

## (၅) ကွာရှင်းပြတ်စဲရေး

၁၉၁၀ ခုနှစ်မှာထုတ်ဝေတဲ့ စာအုပ်မှာ ရွှေရိုးက ကွာရှင်းတဲ့ကိစ္စနှင့် ပတ်သက်ပြီး ဒီလိုဆိုပါတယ်။ '. . . လင်မယားကွာရှင်းမှုတွေက ပုဂ္ဂိုလ်အများ ရေးသလို မဟုတ်ပါဘူး၊ အလွန်နည်းပါးပါတယ်။ မိသားစုမေတ္တာ အနွေးဓာတ်က ဒီလူမျိုးရဲ့ အခိုင်မာဆုံး ဗိဇလက္ခဏာတစ်ခုပါပဲ။ ပြီးတော့ မြန်မာက သူ့ဇနီးကို အလွန် ကြင်နာတယ်။၊ မိန်းကလေးအားလုံးကိုလည်း ငယ်ငယ်လေးတည်းက ယောကျ်ားဆိုရင်လေးလေးစားစား ဆက်ဆံရမယ်လို့ သင်ကြားထားတယ်။ အရာရာမှာ ယောကျ်ား အဆုံးအဖြတ်ကို ဦးစားပေးမယ်၊ သို့သော် မြန်မာမက အိန္ဒိယ ဇနီး မယားထက် များစွာ လွတ်လပ်မှုရှိတယ်။ . . . အိမ်ထောင်ရေးထုံးတမ်းတွေက လွယ်ကူ လှတယ်လို့ မြန်မာလူမျိုးကို အပြစ်ဆိုတာလွယ်ပါတယ်။ သို့ပေမယ့်

သူတို့စနစ်က စိတ်ပျက်စရာကောင်းတဲ့ မလိုက်မဖက် စုံတွဲဘဝကို မြန်မြန် အဆုံးသတ်ပေးတယ်။ အဖေမပေါ်တဲ့ကလေးလည်း အလွန်အလွန်ရှားပါးပါတယ်။ နောက်ဆုံးပြောရလျှင် အိမ်ထောင်ကွဲရန် ခိုင်ခိုင်လုံလုံ သိသာတဲ့အကြောင်းမရှိခဲ့ရင် မယားကွာ လင်နဲ့ လင်ကွာမယား နှစ်ယောက်လုံး အပေါ်မှာပတ်ဝန်းကျင်က တယ်ပြီးသဘော မကျ ချင်ဘူး။ မယားကိုပစ်ချင်လို့ ဘုန်းကြီးကျောင်းသွား သင်္ကန်းဝတ်သူကို  တောထွက် လို့ခေါ်တယ်၊ သိပ်မနှစ်လိုတဲ့ သဘောပါတဲ့ အသုံးအနှုံးပါ။ အဓိပ္ပာယ်က ဘဝ တစ်သက်တာ တောထဲထွက်သွားသူတဲ့။ လင်နဲ့ ကွာရှင်းတဲ့ မိန်းမကိုတော့ တစ်ခုလပ် ခေါ်တယ်။ တစ်ခုလပ်ကို အမြဲတမ်း ပြက်လုံးထုတ်စရာအဖြစ် မြင်ကြပါတယ်။

> 'အပျိုလည်းမဟုတ်၊ အိမ်ထောင်မရှိ၊ မုဆိုးမလည်း မဟုတ်၊ အိုးနှင့် အဖုံးပမာ ယောကျ်ားတကာနှင့် အံကျမည့် ကလေးမပေပဲ၊ အို-တစ်ခုလပ်မကို လူပျိုကြောကြော လှည့်စရာ မလိုပါဘူးလေ' တဲ့ လူရွှင်တော်က ပြက်လုံး လုပ်တယ်။

(ရွှေရိုး*၏ မြန်မာ၊ သူ့ဘဝနှင့်လောကအမြင် စာ ၆၀-၆၁)
အင်္ဂလိပ်စာအုပ် Shwe Yoe; The **Burman** : His Life and Notions, Macmillan and Co. Ltd, London, 1910, P 60-61 ကိုညွှန်းပါသည်။)

ရွှေရိုး၏ ယေဘုယျသုံးသပ်ချက်များ မှန်ကန်လှပါတယ်။ သူပြောသမျှ အချက်တော်တော်များက ယခုကာလ မယားကွာ ယောကျ်ားနှင့် လင်ကွာမိန်းမတို့ ကြုံရတဲ့ အဖြစ်သနစ်တွေပါပဲ။ တစ်ခုလပ်ဆိုတဲ့ ဝေါဟာရက သိုသိုသိပ်သိပ် မနေ တတ်သူ၊ ကိုယ့်သိက္ခာကိုယ် မထိန်းတတ်သူလို့ အဓိပ္ပာယ်ရောက်စေတဲ့ အသုံးအနှုန်း ဖြစ်သွားနိုင်ပါတယ်။ တချို့က တစ်ခုလပ်ကို မထီမဲ့မြင်လုပ်ချင် တတ်တယ်၊ နှာခေါင်း ရှုံ့ချင်ကြတယ်။ မုဆိုးမနဲ့ မုဆိုးဖိုကိုတော့ အသိုင်းအဝိုင်းက ခင်ခင်မင်မင် ကြင်ကြင်နာနာ ဆက်ဆံတတ်ပါတယ်။ မယားကွာထားတဲ့ ယောကျ်ားက နောက် ထပ်အိမ်ထောင်ပြုမယ်ဆိုရင် အိမ်ထောင်ဈေးကွက်မှာ လူပျိုနဲ့ မုဆိုးဖိုရဲ့ နောက်က တန်းစီရလိမ့်မယ်၊ စွံဖို့အခွင့်အလမ်း အနည်းဆုံးဖြစ်ပြီ။ အများတကာက

'တစ်ခုလပ် တစ်လင်ကွာ ကညာတစ်ကျိပ်နှင့် မလဲနိုင်ပါ'

လို့ ဆိုကြသော်လည်း လင်ကွာမိန်းမ နောက်ထပ်အိမ်ထောင်ပြုမယ်ဆိုရင်တော့ အခွင့်အလမ်းက အတော်နည်းသွားပါပြီ။ သူဟာ အပြစ်မရှိသူဖြစ်ကောင်းဖြစ်ပါ လိမ့်မယ်။ သို့ပေမယ့် တစ်ခုလပ်ဆိုတာနဲ့ 'အကြံနှင့် မိန်းမ' 'ခပ်ပျံ့ပျံ့အစား' ထဲကလို့ မြင်တတ်ကြပါတယ်။ သို့သော်လည်း တစ်ခုလပ်မှာ ဘာနဖူးစာပါလေမလဲ၊ သူကံက

---

* မှတ်ချက်။ ။ရွှေရိုးအမည်ခံ စာရေးသူသည် အင်္ဂလိပ်လူမျိုး Sir George Scott ဖြစ်သည်။

ဘယ်လိုဆိုတာ ဘယ်လူ အတတ် ပြောနိုင်ပါမလဲ။ သူ့ကံကို အတတ်ပြောမရဘူးလေ။

## ၃၊၂၊၂ ဝတ်သုံးသွယ်

မြန်မာတစ်ယောက်ဟာ ဗုဒ္ဓဘာသာလည်းဖြစ်မယ်၊ လွတ်လွတ်လပ်လပ်တွေးခေါ်တတ်၊ ကျိုးကြောင်းဝေဖန် စိစစ်တတ်သူလည်းဖြစ်မယ်ဆိုလျှင် သူ့ဘဝမှာ စိတ်နှစ်ခွဖြစ်စရာတွေ တွေ့ကြုံရပါလိမ့်မယ်။ ကျောင်းသားဘဝမှာ သူ့ဆရာသင်ကြားသမျှကို မြေဝယ်မကျ မှတ်သားနာယူရမယ့် တာဝန်ကတစ်ဖက်၊ အမှန်တရားကို မြင်အောင်ကြည့်တတ်ရှာတတ်အောင် လေ့ကျင့်သင်ယူရမှာက တစ်ဖက်ဖြစ်နေမယ်။ အိမ်ထောင်ရှင်ဘဝမှာတော့ သူလုပ်ကိုင်ရမည့် ပရိယေသန ဝမ်းစာရေးအလုပ်ကတစ်ဖက်၊ အမြဲတမ်းရှိနေတဲ့ အခြေခံပညတ်ဝတ်သုံးရပ်နဲ့ မြဲရမည့်ပဋ္ဋသီလကတစ်ဖက် ဖြစ်နေပြန်တယ်။ ဒါထားပါတော့။ သူက အိမ်ထောင်သည်တယောက်အနေနှင့် ပဌာန ဝတ်သုံးပါးဖြစ်တဲ့ ဘာသာရေးအလုပ် ဒါန၊ သီလ၊ ဘာဝနာကို သူလုပ်ရမယ်လို့ အလေးအနက်ခံယူပါတယ်။ ဒါနက ဘာသာရေးအတွက် ပေးကမ်းလှူဒါန်းခြင်း၊ သီလက ကိုယ်ကျင့်ပညတ်များကို လက်ခံ ကျင့်သုံးခြင်း၊ ဘာဝနာကတော့ ကမ္မဌာန်းအလုပ်နှင့် တရားရှုမှတ်အားထုတ်ခြင်းဖြစ်ပါတယ်။

## ၃၊၂၊ ၂၊ ၁ ဒါန

ဘာသာရေးကိုင်ရှိုင်းသူမှန်လျှင် ဝတ်သုံးသွယ်ရှိတဲ့အနက် ဒါနကိုတော့ မြန်မာဗုဒ္ဓဘာသာဝင်က အနှစ်သက်ဆုံးဖြစ်ဖွယ်ရှိပါတယ်။ ဒါကသမိုင်းစတင်ကတည်းကပါပဲ။ ရှေ့မှာကျွန်တော်ပြောခဲ့တဲ့ ရှင်ပြုမင်္ဂလာပွဲဟာ ဘာသာရေးကုသိုလ်အတွက် လှူဒါန်းတဲ့ပွဲပါပဲ။ ပစ္စည်းဥစ္စာသာ ကုံလုံရင် ဒါနက ပြုရန် အလွယ်ဆုံး ဝတ်ဖြစ်ပါတယ်။ လှူတန်းလိုက်တဲ့ ဘုရားကျောင်းကန်လို ကောင်းမှုတွေကမြင်နိုင်တွေ့နိုင်တဲ့အပြင် အလှူ့ဒကာ အလှူ့အမ အဖြစ်လည်းကုသိုလ်ရှင်မှာဂုဏ်ဒြပ်တက်တယ်လို့ ကျွန်တော်ထင်ပါတယ်။ မင်းစိုးရာဇာရော ရပ်သူရွာသားပါမြန်ပြည်တလွှား တည်ဆောက်လှူဒါန်းခဲ့ကြတဲ့ ဘာသာရေးအဆောက်အဦးတွေသန်းနှင်ချီပြီး ရှိနေပါတယ်။ တောင်ထိပ်၊ ကမူထိပ်၊ ကုန်းထိပ်ပေါ်င်းများစွာမှာရောမြေပြန့်နှင့် မြစ်ကမ်းပါးတွေမှာပါ ရွှေရောင်တဝင်းဝင်း၊ ထုံးဖွေးဖွေး ဘုရားစေတီတွေကြည်ညိုဖွယ် ဖူးတွေ့နိုင်ပါတယ်။ ပုဂံမြို့ဟောင်းမှာ ဘုရားစေတီ လေးသန်း ငါးသိန်းခန့် ရှိတယ်လို့ (လှည်းဝင်ရိုးသံ တည်ည် ဆိုရိုးနှင့်) အစဉ်အလာ မှတ်ခဲ့ကြတယ်။

ဒီအရေအတွက်က အကြမ်းအားဖြင့် တစ်ဆယ့်တစ် စတုရန်းမီတာမှာ ဘုရားတစ်ဆူ ဖြစ်ပါတယ်။ ဒီကောင်းမှုတွေမှာ ကုသိုလ်ရှင်များက လှူဒါန်းမှု အစုစုအတွက် ဆုတောင်း မှတ်တမ်းတွေ၊ သူ့ကောင်းမှုကို ဖျက်လိုဖျက်ဆီးလုပ်မည့်သူများကို ကျိန်တဲ့ ကျိန်စာတွေကို ကျောက်စာကမ္ပည်းထိုးပြီး မှတ်တိုင် စိုက်ခဲ့တာတွေလည်း တွေ့ရပါတယ်။ ဒီကျောက်စာတွေကို ဖတ်လိုက်ရင် အလှူ့ရှင်ရဲ့ လှူဒါန်းတဲ့ ရည်ရွယ်ချက်သိနိုင်ပါတယ်။

ဆုတောင်းတွေ အများကြီးရှိပါတယ်။ ဒီထဲကဆုတောင်းနှစ်ခုနဲ့ နောက် ကျိန်စာတွေအကြောင်း ပြောပြချင်ပါတယ်။ ပထမဆုတောင်းက မိဖုရား တစ်ပါး ရေးထိုးတဲ့ ကျောက်စာပါ။ ပါမောက္ခ လု(စ)ကတော့ ယောလိဝုဒ်ပုံစံ တွေ့မြင်ရတယ်လို့ ဆိုပါတယ်။ အင်္ဂလိပ်ဘာသာပြန်တာက လု(စ)ပါပဲ။

> 'ဤသို့ ကြီးစွာလျှင် ငါမူသော ကောင်းမှုအကျိုးဖြင့်၊ နိဗ္ဗာန်မရောက်သော ကြား၊ လူဖြစ်သော်ကား လူတစ်ကာထက် မြတ်သော စည်းစိမ်ချမ်းသာ ငါရလို၏။ နတ်ဖြစ်သော်လည်း နတ်တစ်ကာထက် မြတ်သော နိုင်ငံသော အဆင်း အရောင်အဝါနှင့် ပြည့်စုံ၍ အထူးသဖြင့်လျှင် အသက်ရှည်သော အနာမဲ့သော အဆင်းလှသော အသံသာသော အလုံးအရပ်လှသော လူနတ် ခပ်သိမ်း ချစ်ခင်ရှိသေသော မြတ်နိုးသောငါ ဖြစ်လို၏။ ဖြစ်လေရာ အရပ်ရပ်၌ အလှူသီတင်း သဒ္ဓါ ပညာကစသော မြတ်သော ကျေးဇူးနှင့် ပြည့်စုံလျက် အကျွတ်တရား ပွင့်လတ်၍ ငြိမ်သိမ်စွာသော နိဗ္ဗာန်ချမ်းသာ ငါရလို၏။'

(ဂျီအိပ်(ချ)လု(စ)၊ မြန်မာနိုင်ငံသုတေသန အသင်းဂျာနယ် အတွဲ ၂၆ အပိုင်း၃၊ ၁၉၃၆ ခု၊ စာ ၁၃၆)*

အောင်မယ်လေး တကယ့် အတ္တမှ မာန်ကဲတဲ့ အတ္တပါလား။

အကောင်းဟူသမျှ သူချည်း လိုချင်ပေသကိုး။ ဒီဆုတောင်းကို နောက် မိဖုရားငယ်တစ်ပါး ရေးထိုးတဲ့ ဆုတောင်းနဲ့ မတူပုံ ယှဉ်ကြည့်စမ်းပါဦး။

> 'ဖြစ်သောဆင်းရဲ၊ အိုမင်းသောဆင်းရဲ၊ သေသောဆင်းရဲ၊ မချစ်သော သူနှင့် တကွနေရသော ဆင်းရဲ၊ ချစ်သောသူနှင့် ကွေကွင်းသော ဆင်းရဲ၊ လို၍မရသော ဆင်းရဲ၊ ဤသို့က စသောအတိုင်းမသိသော ဆင်းရဲတို့သည်

---

* လု(စ)က အင်္ဂလိပ်ဘာသာပြန်ထားသော ကျောက်စာဖြစ်သည်။ ၆၃၃ ခုထိုး ဖွားစောကျောက်စာကို ခေတ်မြန်မာအက္ခရာဖြင့် ရေးထားခြင်းဖြစ်သည်။ (ဒေါ်သန်းဆွေ၊ မြန်မာဘာသာစကား မြန်မာကျောက်စာ၊ တက္ကသိုလ်စာစဉ်-၆၂၊ ၁၉၈၀၊ ရန်ကုန်မှ ရယူပါသည်။)

နှိပ်စက်သော ခန္ဓာကို စွန့်ထားခဲ့၍ ဆင်းရဲခပ်သိမ်းကင်းသော ချမ်းသာစွာသောမြတ်သော နိဗ္ဗာန်ကိုလျှင် ငါရလိုသတည်းဟူ၍ ချစ်စွာသော မြတ်သောရွှေငွေကစသော ဥစ္စာတို့ကို စွန့်၍ ပြုသော . . . ကျောင်းတွင်နေသော. . . ရဟန်းသံဃာ ချမ်းသာစိမ့်သောငှာ လယ် ဥယျာဉ် ကျွန်ခပင်းအကြွင်းမဲ့လျှင် လှူ၏။ ဤသို့ ငါပြုသော ကောင်းမှုအကျိုး၊ အဘို့ခပ်သိမ်းတို့ကို အစိုးရသော ရေမြေ့သခင်ဖြစ်သော မင်းကြီးလည်း ရစေ၏။ . . . အမိပုရှာစသော မောင်းမတော် ခပ်သိမ်းလည်း ရစေ၏။. . . ငါလည်းရမက်ကြီးသော မရောင့်ရဲတတ်သော အမျက်ကြီးသော သူတစ်ထူးကိုညှင်းဆဲတတ်သော ပညာမရှိသော မိုက်သော ဝန်တိုသော အပေးအကမ်းမရှိသော သစ္စာမရှိသော ပျက်တတ်သော မေ့လျော့သော အောက်မေ့တသကင်းသော မဖြစ်မူ၍ ရောင့်ရဲလွယ်သော အမျက်နည်းသော သနားတတ်သော ပညာရှိသော အကြောင်းကိုသိတတ်သော ဝန်မတိုသော အပေးအကမ်းရှိသော မပျက်တတ်သော မမေ့လျော့သော အောင်းမေ့တသရှိသော ဤသို့သော ကျေးဇူးတို့နှင့် ပြည့်စုံလျက် သံသရာ၌ ကျင်လည်၍ မိတေးယဘုရား မျက်မှောက်ကင်ကာလျှင် မြတ်သော အကျွတ်တရားရလိုသတည်း။'*

(ဂျီအိပ်(ချ)လု(စ)ဖော်ပြပြီး စာ ၁၃၆ - ၁၃၇)

ဆုတောင်းစာများ၏ ရှေ့မှဖြစ်စေ နောက်မှဖြစ်စေ ကျိန်စာများပါတတ်ပါတယ်။ ကျိန်စာများအကြောင်း မပြောမီ ဆုတောင်းစကားများနှင့် အကျုံးဝင်ရာ အဓိပ္ပာယ်များအကြောင်း ဝေဖန် သုံးသပ်စရာရှိပါတယ်။

(၁) အမျိုးသမီးနှစ်ဦးလုံးက ဆုတောင်းအဆုံးမှာ နိဗ္ဗာန်ရောက်ရပါလို၏ ဆုတောင်းထားပါတယ်။ 'ငြိမ်းအေးသော နိဗ္ဗာန်ချမ်းသာ' နဲ့ 'လွတ်မြောက်ရပါလို၏' ပါဝင်ပါတယ်။ ဒီနေ့အထိ မြန်မာဗုဒ္ဓဘာသာများ ဘုရားရှိခိုးအဆုံးမှာ ဆုတောင်း နေတဲ့ပုံစံဒီအတိုင်းဖြစ်ပါတယ်။

(၂) ဒုတိယဆုတောင်းမှာပါဝင်တဲ့ ဆင်းရဲတရားငါးပါးကို မြန်မာဗုဒ္ဓဘာသာတိုင်းလိုလို သိရှိပြီးသားပါ။ ဘုရားရှိခိုးတိုင်း ဆင်းရဲအပေါင်းမှ ကင်းလွတ်ငြိမ်းရပါလို၏ ဆုတောင်းနေကျပါပဲ။ ဒါက နိဗ္ဗာန်ဆုတောင်းတာနဲ့ အတူတူပါပဲ။

(၃) အမျှအတမ်းဝေတဲ့ ကိစ္စ-ဒါ ဒုတိယဆုတောင်းမှာပဲ ပါတယ်။ ဒါလည်းပဲ ဒီခေတ်မှာ ကုသိုလ်ရှင်က လှူဒါန်းမှုကိစ္စပြီးဆုံးတိုင်း လုပ်တဲ့အလုပ်ပါပဲ။

---

* လု(စ) အင်္ဂလိပ်ဘာသာသို့ ပြန်ခဲ့သော ကျောက်စာဖြစ်သည်။ ဤကျောက်စာသည် သက္ကရာဇ် ၆၂၈ ခုထိုး အာမနာကျောင်း ကျောက်စာ သိယ်သူသမီး၏ ဆုတောင်းဖြစ်၏။ (ဘေမောင်တင်၊ မြန်မာစာပေသမိုင်း သုဓမ္မဝတီ၊ ၁၃၁၇ ခု၊ စာ ၃-၄ ရှု)

(၄) အရိမေတ္တေယျဘုရားက ဒီကမ္ဘာမှာ ငါးဆူမြောက်နောက်ဆုံးပွင့်မည့် ဘုရားပါ။ ဤဘုရားအကြောင်းလည်း ပြောခဲ့ပြီးပါပြီ။ ကျိန်စာများကတော့ ကိုယ်လျှသည့် ကုသိုလ်ပစ္စည်းကို ဖျက်ဆီးမည့်အန္တရာယ်မှ ကာကွယ်ရန်ဖြစ်ပါတယ်။ ကျိန်စာက ဗုဒ္ဓဝါဒနှင့် မကိုက်ညီပါဘူး။

'ငါ့ဆွေတွင် ကျင်လည်းကောင်း ငါ့သခင်မင်း၏ အဆွေတွင်ကျင်လည်း ကောင်း ပြင်သူလည်းကောင်း ရဟန်းလည်းကောင်း လူလည်းကောင်း မိန်းမလည်းကောင်း ယောကျ်ားလည်းကောင်း လုစားလတ်သော နိုင်ထက်မူ တတ်သော လူတွင် ဘုန်းမကြီးစေ အသက်မရှည်စေသတည်း။ မင်းကြီး ဘေးဘယံ ဒန်ကြီးသင့်စေသတည်း မီးဘေး ရေဘေး မိုးကြိုး ပုဆိန်ဘေး ဆင်ဘေး မြင်းဘေး မြွေဘေး သစ်ကြား လဝံဘေး သမားကုရ၍မရတတ်သော အနာဘေး ကြီးစွာလျှင်သင့်၍ ဖတ္တလတ် သေစေသတည်း။ သွေးခဲအံ၍ သေစေသတည်း။ သေသော်လည်း အဝီစိမည်သော ငရဲကြီးလျှင် ကျက်စေ သတည်း။ ဘုရားအဖြစ်ဖြစ်လည်း မဖူးစေသတည်း။ ကြမ္မာအားဖြင့် လူဖြစ်ငြားတုံ့သော်လည်း နူသော ဝဲသော ကြီးသော ကန်းသော နားပင်းသော အသော ရူးသော တုံလိုသော ခြေလက်တိုသော နားနှာခေါင်းတိုသော ပုဆိုးခြုံလည်း လျှင်ပတ်၍ ဖုန်းစားသော်လည်းမစားရတတ်သောလူတွင် သူမခံသော ကြမ္မာခံသော လူပြိတ္တာလျှင်ဖြစ်စေသတည်း။'[*]

(လု(စ) ဖော်ပြပြီး စာ ၁၄၃)

ရိုးရိုးရှင်းရှင်းလေးနှင့် အလှူဒါန ဖျက်လိုဖျက်ဆီးလုပ်သူကို 'ထိ'အောင် ကျိန်ထားတဲ့ ကျိန်စာတိုတိုလေးနှစ်ခုကို နားထောင်ကြည့်စမ်းပါဦး။

'အဝီစိ၌ ကျက်စေသတည်း၊ အဝီစိ၌ ဦးချိုးဖြစ်စေသတည်း။' [**]

နောက်တစ်ခုက

'စားသောထမင်းဟင်း သောက်သောရေ နေသောအိမ် အဆိပ်ဖြစ်စေသတည်း။' [***] (လု(စ)ဖေါ်ပြပြီး)

နှစ်ဆယ်ရာစု မြန်မာများကတော့ ဘာသာရေးအလှူဒါနနဲ့ ပတ်သက်တဲ့ သဘောထား အယူအဆမှာ အခြေခံအားဖြင့် ပြောင်းလဲမှုမရှိပါဘူး။ ကုသိုလ်ရှင်အများစုက နောင်ဘဝအဆက်ဆက်မှာ ကုသိုလ်လိုချင်ကြလို့ ဒါနမျိုးစေ့ချတာပါပဲ။

---

[*] ၆၀၄ ခု ထိုး ကက်သူမယားကျောက်စာခေါ် ညောင်ရမ်းကြီးသမီး ကျောက်စာဖြစ်သည်၊ (ဒေါက်တာတိုးလှ/ဦးကြင်စိန် (သမိုင်းသုတေသန) ထံမှ ရပါသည်၊

[**] ကုန္ဒပစ္စယာဘုရားကျောက်စာ (၆၅၄-၆၅၆ ခု) မှ

[***] ဖွားစောကျောက်စာ

ရည်ရွယ်ချက် သိပ်မမွန်မြတ်လှတဲ့ အလှူရှင်တွေလည်း ရှိပါတယ်။ 'ဘုရားဒကာ' 'ကျောင်းဒကာ' 'သိမ်ဒကာ' 'မဏ္ဍာရုံ အလှူ့ရှင်' စသည်ဖြင့် ဒကာမျိုးစုံ ဖြစ်ချင်လို့ လှူသူတွေရှိပါတယ်။ အမည်နဲ့တွဲပြီး ဒကာကိုဘွဲ့တစ်ခုလို ဂုဏ်ပုဒ်တပ်လိုက်ရင် သူ့ရဲ့လူ့အဆင့်ပြသင်္ကေတသဖွယ် သုံးစွဲနိုင်တဲ့အတွက်ပါပဲ။ ၁၉၅၇ ခုမြန်မာပြည်ပြန် ခဲ့စဉ်က ဘုရားဒကာ၊ ဘုရားအမ၊ ကျောင်းဒကာကျောင်းအမဖြစ်ကြတဲ့ ရှေးရိုး မြန်မာဗုဒ္ဓဘာသာ သက်ကြီးပိုင်း အမျိုးသမီးကြီး အတော်များများ တွေ့ခဲ့ပါတယ်။ သူတို့နှင့်ပြောဆိုရာမှာ ကျွန်တော်က အများပြည်သူအတွက် စာကြည့်တိုက် ဆောက်လုပ် လှူဒါန်းကြပါလို့ ပြောလေတိုင်း သူတို့ကလက်မခံ ပယ်ချကြပါတယ်။ ဒီကုသိုလ်မျိုးလုပ်တာက ခေတ် လှန်တဲ့ သဘောဖြစ်မယ်လို့ သူတို့ကထင်တယ်။ အနောက်တိုင်း ပရောဂ ပါတယ်လို့လည်း ထင်ပုံရပါတယ်။ သူတို့ပြန်ပြောတာက စာကြည့်တိုက်လှူတာက ဘုရားတည် ကျောင်းဆောက်သလောက် ကုသိုလ် မရဘူးတဲ့။ ဘုရားဟော အထောက်ထားများရှိ ပါသလားလို့ ဇွတ်မေးတော့ ဘုရား တည် ကျောင်းဆောက်သည့်အကျိုး ကုသိုလ် အလွန်ကြီးမားလှကြောင်း အဓိပ္ပာယ် ပေါက်တဲ့ စာပုဒ်ကလေးတွေ ရွတ်ပြပါတယ်။ သို့သော်လည်း ဗုဒ္ဓခေတ်မှာ ဘုရားစေတီမရှိခဲ့ပါဘူး။ ဒီလိုပဲ စာကြည့်တိုက်ရယ်လို့လည်း မရှိခဲ့ပါဘူးဆိုတာ ဒီပုဂ္ဂိုလ်ကြီးများ မသိရှာကြပါဘူး။

အမြစ်စွဲနေတဲ့ ဒီအစဉ်အလာကို ပုဂံမင်းဆက် ဘုရင်များကစတင်ခဲ့တာပါ။ မင်းဟူသမျှ အနည်းဆုံး ဘုရားတစ်ဆူတော့ တည်ခဲ့တယ်။နောင်ခေတ် အဆက် ဆက် မင်းအားလုံးကလည်း ရှေးမင်းများနည်းတူ ဘုရားတည် ကျောင်းဆောက် ကုသိုလ်အမှုကို ဘာသာတရားပမာလိုက်နာပြီး စဉ်ဆက်မပြတ် လှူဒါန်းကြပါတယ် ၁၈၈၅ ခု နောက်ဆုံး ဘုရင်ကိုဖမ်းခေါ်သွားသည်အထိပါပဲ။ တဖန်ကျေးတော်မျိုး ကျွန်တော်မျိုး ရပ်သူရွာသားတို့ကလည်း ဘုရင်ကို အတုယူကြပြန်တယ်။ ဒီလို အလွန် မွန်မြတ်တဲ့ ကုသိုလ်စိတ်နဲ့ လှူကြတန်းကြတဲ့အတွက် ဘုရားပျက်တွေ အလွန် ပေါ်များလာခဲ့ပါတယ်။ ကျောင်းအို ကျောင်းပျက်တွေတော့ မပြောပါနှင့်တော့။ ပြင်ဆင်ထိန်းသိမ်းမှု မရှိလို့ဖြစ်ရတာပါ။ ဘုရင့် ကုသိုလ်များကတော့ ကံကောင်း ထောက်မလို့ ပစ်စလက်ခတ် မရှိပါဘူး၊ ထိန်းသိမ်းမှုရှိနေပါတယ်။

ဒါနအကြောင်းနိဂုံးချုပ်ပါမယ်။ ပေးကမ်းလှူဒါန်းမှုမှန်သမျှ အစားအစာ၊ ငွေကြေး၊ ပစ္စည်းဝတ္ထုကို တိရစ္ဆာန်ကအစ ဘယ်ပုဂ္ဂိုလ်ကိုပဲလှူလှူ ဒါနအမှုမြောက် ပါတယ်။

## ၃။၂။၂၃ သီလ

မြန်မာဗုဒ္ဓဘာသာမှန်လျှင် အနိမ့်ဆုံးငါးပါးသီလကို ခါးဝတ်ပုဆိုးကဲ့သို့ မြဲရပါတယ်။ ခရစ်ယာန်များ ပညတ်တော်ဆယ်ပါး ရှိသေရသလိုပါပဲ။ ကြီးငယ်မရွေး အနည်းဆုံး တစ်လလေးကြိမ် ဥပုသ်နေ့တိုင်း ဘုန်းကြီးကျောင်းဖြစ်စေ ဘုရားဖြစ်စေ သွားပြီး သီလခံယူရပါတယ်။ သီလမညှိုးအောင် အသစ်ခံယူတဲ့ သဘောပါ။ အထူးသဖြင့် ကျေးရွာများမှာ ဘုရားကျောင်းသွားကြပါတယ်။သီလခံယူတဲ့ ရက်တွေက လဆန်း(၈)ရက်၊ လပြည့်နေ့၊ လပြည့်ကျော်(၈)ရက်နဲ့ လကွယ်နေ့တွေပါ။ ပြင်သစ်မှာ တနင်္ဂနွေနေ့တိုင်း ဘုရားကျောင်း(ချာ့(ချ)) သွားတဲ့အတိုင်းပါပဲ။ မြန်မာပြက္ခဒိန်က လထွက်လဝင်ကို အခြေခံထားတဲ့အတွက် ရက်သတ္တပတ် ဘယ်နေ့ရယ်လို့ပုံမှန်မဖြစ်လာပါဘူး။ နေ့ကတော့ ပြောင်းနေပါမယ်။ အထက်မှာပြောခဲ့တဲ့အတိုင်း မြန်မာလများကလည်း ၂၉ ရက် (ရက်မစုံလ)နှင့် ရက် ၃၀ (ရက်စုံလ) တစ်လှည့်စီ ဖြစ်ပါတယ်။

ကျွန်တော်ငယ်ရွယ်စဉ်က ဥပုသ်နေ့တိုင်း ရွာဘုန်းကြီးကျောင်းသွားခဲ့တာကို ကွင်းကွင်းကွက်ကွက် ပြန်ပြီးမြင်နေဆဲပါ။ ကျောင်းကိုဥပုသ်နေ့နှင့် ဆီလျော်ရာ အဝတ်အစား ဝတ်သွားပါတယ်။ ကျောင်းသွားသူတွေက လင်ပန်းနှင့် ငှက်ပျောဖီး အုန်းသီးယူလာမယ်၊ ဘီစကွတ်ပုံး ပါလာမယ်၊ ဖယောင်းတိုင်ထုပ် ပါမယ်။ အုန်း ငှက်ပျောကတော့ ရပ်ရွာထွက်လှူဖွယ်ထုံးစံ ပစ္စည်းပါ။ အလှူပွဲကို စုပေါင်း လှူတာလည်းရှိတယ်၊ တစ်ဦးချင်း လှူတာလည်းရှိပါတယ်။ လှူဖွယ် ပစ္စည်းနှင့် လင်ပန်းကို ကန်တော့ပွဲလို့ ခေါ်ပါတယ်။ စာအဓိပ္ပာယ်ကတော့ လှူဒါန်းစရာ ပစ္စည်း အစုဖြစ်ပါတယ်။ ပုဂ္ဂိုလ်တစ်ဦးဦးကို ဖြစ်စေ၊ ရုပ်ဝတ္ထုတစ်ခုခုကို ဖြစ်စေ၊ နတ် ပြဟ္မာကို ဖြစ်စေ ပူဇော်ကန်တော့တဲ့အခါတိုင်း ကန်တော့ပွဲက မပါမဖြစ်ပါရမယ်။ကန်တော့ပွဲ နှစ်မျိုးရှိတယ်၊ တစ်ခုကရိုးရိုးကန်တော့ပွဲပါ၊ ရပ်ရွာဒေသထွက် ပစ္စည်း များသာ ပါပါလိမ့်မယ်။နောက်တစ်မျိုးက ဘိလပ်ကန်တော့ပွဲ ဥရောပလက်ဆောင် လင်ပန်းလို့ ဆိုရပါလိမ့်မယ်။ ဘိလပ်က ဥရောပကို ခေါ်တာပါ၊ အာရပ်စကား ဝီလာရွှတ် (wilayut) ကလာတာပါ။ ဘိလပ်ကန်တော့ပွဲမှာ ပါမယ့် ပစ္စည်းတွေက ဥရောပထွက်ပစ္စည်းတွေ၊ ဘီစကွတ်၊ ယိုဘူးမျိုးစုံ၊ နို့ဆီဘူး စသည်ပါဝင်လိမ့်မယ်။

ဘုန်ကြီးကျောင်း ပရိသတ်မှာ ယေဘုယျအားဖြင့် လူနှစ်စုပါဝင်ပါမယ်။ နောက်ဘက်အုပ်စုမှာ လူလတ်လူငယ်ပိုင်းပါဝင်မယ်။ ရှေ့ပိုင်းမှာတော့ လူကြီးလူအိုပိုင်းရှိမယ်။ ကန်တော့ပွဲကို ဆရာတော့်ရှေ့မှာ ချထားရတယ်။ ရှေးဦးစွာ ရတနာသုံးပါးကို စုပေါင်းညီညာ ကန်တော့မယ်။ ကန်တော့တဲ့ဘုရားရှိခိုးက မြန်မာ

လိုပါပဲ။ ဟိုနေရာ သည်နေရာမှာ ပါဠိစကားလုံးတွေ ညှပ်ထားတယ်။ ကန်တော့ပြီး ရင် ငါးပါးသီလ ခံယူကြရတယ်။ သီလယူပြီးရင် ပထမအုပ်စုက ကျောင်းမှ အိမ်ပြန် ကြမယ်။ ကျန်ပရိသတ်က ဥပုသ်စောင့်ကြမှာမို့ ကျောင်းမှာနေရစ်ပြီး ရှစ်ပါးသီလခံယူ ကြပါတယ်။

ဥပုသ်စောင့်တယ်ဆိုတာ ခြိုးခြံထိန်းသိမ်းတာပါပဲ။ ငါးပါးသီလထက် နောက်ထပ် သီလသုံးခုပိုလာတယ်။* ပိုလာတဲ့သီလတွေက မွန်းတိမ်းပြီးလျှင် အစာ မစားရ၊ နေလွဲညစာစားခြင်းမှ ရှောင်ရမယ်။ ဆိုကတီး ဘာပဲဖြစ်ဖြစ် ဖျော်ဖြေရေးကို ဘာမျှ ကြည့်ရှုခြင်း နားထောင်ခြင်း ကိုယ်တိုင်သီဆိုကခုန်ခြင်း မပြုရသည့် အပြင် အလှအပခြယ်သတာ လက်ဝတ်ရတနာ ဆင်မြန်းတာကိုလည်း မလုပ်ရဘူး၊ ရှောင်ရ မယ်။ နောက်ဆုံးက မြင့်သောနေရာ မြတ်သောနေရာမှာ မနေထိုင်ရ၊ ဇိမ်ခံစရာ ဖြစ်တဲ့ မီတာဝက်မျှထက် မြင့်သော ကုတင်မွေ့ရာပေါ် မလဲလျောင်းရဘူး။ သီလကို မြဲမြံစွာ ထိန်းသိမ်းစောင့်ရှောက်တဲ့ အပြင် ပုတီးစိပ်ပြီး အနိစ္စ၊ ဒုက္ခ၊ အနတ္တ၊ လက္ခဏာရေးသုံးပါးရှုရမယ်။ (အနတ္တဆိုတာ ကိုယ်ပိုင်ဝိညာဉ်ရယ်လို့ မရှိကြောင်း ငြင်းဆိုချက်ပါပဲ။ တစ်ဦးချင်း အလိုကျဆိုတာ မရှိကြောင်းပြတဲ့ တရားပါပဲ။)

ဥပုသ်သည်များက နေ့စာကို မွန်းမတည့်မီ ဇရပ်တစ်ဆောင်ဆောင်မှာ စား ကြရတယ်။ ဇရပ်ဆိုတာ ဘုန်းကြီးကျောင်းအနီးမှာရှိတဲ့ နားနေရန် အဆောက်အဦ ပါပဲ။ အဲဒီမှာပဲ ညအိပ်ကြမယ်။ နောက်နေ့မနက် အရုဏ်တက်မှာ ဥပုသ်ထွက်၊ နံနက်စာစားပြီး နံနက်ပိုင်းမှာပဲ အိမ်ပြန်ကြပါလိမ့်မယ်။ ရှစ်ပါးသီလခံယူပြီး အိမ်ပြန် လာသူများလည်း ရှိပါတယ်။ သူတို့က အိမ်မှာပဲ သီလဆောက်တည်တာပေါ့။ ကျွန်တော်လည်း ရှေးနှစ်ပေါင်းအတော်ကြာက ဒီအတိုင်းပဲ ဥပုသ်စောင့်ခဲ့ဘူး ပါတယ်။

ဘွဲ့ကြိုကျောင်းသားဘဝ ပုဂံဆောင်မှာ ကျွန်တော်နေထိုင်စဉ်က မိတ်ဆွေ တချို့နှင့်အတူ ကျွန်တော်တို့ တနင်္ဂနွေနေ့မှာ နံနက် ၄နာရီလောက် ရွှေတိဂုံ ဘုရားကို လမ်းလျှောက်သွားပြီး ဘုရားဖူးကြပါတယ်။ အဲဒီအချိန်မှာ ဘတ်(စ)ကား မပြေးသေးဘူး၊ ၆နာရီကျော်မှ ဘတ်(စ)ကားစပြေးတယ်။ ဘုရားမှာ ဘုရားရှိခိုး၊ ရှစ်ပါးသီလခံယူပြီး အဆောင်ကို ဘတ်(စ)နှင့် ပြန်ကြပါတယ်။ ဥပုသ်စောင့်တာက စိတ်ကိုထိန်းကွပ်တာပါပဲ။ သို့သော်အမှန်ပြောရရင် ပထမတော့ ဆာတာပဲ။ ဝမ်းထဲ မှာ တကျိုကျိုမြည်တယ်။ သို့ပေမယ့် ကျင့်သားရတော့လည်း ဟန်ကျပါတယ်။

---

* မှတ်ချက်။ ။ငါးပါးသီလမှ ကာမေသုမိစ္ဆာစာရ (ကာမဂုဏ်၌ မှားယွင်းစွာကျင့်ခြင်းမှ ရှောင်ခြင်း) အတွက် အဗြဟ္မစရိယာ (မမြတ်သော မေထုန်အကျင့်မှ ရှောင်ကျဉ်ခြင်း) ကို အစားထိုးပါသည်။

ကျွန်တော့်စိတ်ကို အစမ်းဆုံးကတော့ ကျောင်းသင်ခန်းစာတွေ စာမေးပွဲတွေကို အာရုံမရောက်အောင် စိတ်ကိုချုပ်ပြီး တရားနှလုံးသွင်းထားရမည့် အလုပ်ပါပဲ။

## ၃၊၂၂၃ ဘာဝနာ

ဗုဒ္ဓဘာသာကျင့်စဉ်သုံးရပ်မှာ ဘာဝနာ သို့မဟုတ် ကမ္မဋ္ဌာန်းက နောက်ဆုံး ကျင့်စဉ်ဖြစ်ပါတယ်။ သီလက အကုသိုလ်ချုပ်ရေးအတွက် ကိုယ်စိတ်အစစ ထိန်းချုပ်တဲ့ ကျင့်စဉ်ပါ။ ဒါနကတော့ ကောင်းမှုပြုတာပါ။ ဘာဝနာကတော့ စိတ်ကို သန့်စင်တည်ငြိမ်အောင် ထိန်းသိမ်းပြီးတရားသဘောကို စူးစိုက်ရှုမှတ်တဲ့ သမာဓိ ကျင့်စဉ်ဖြစ်ပါတယ်။ သုံးခုအနက် အခက်ခဲဆုံးကျင့်စဉ်လို့ ကျွန်တော် ယူဆပါ တယ်။ ဗုဒ္ဓဘာသာမြန်မာအများစုကတော့ ဘာဝနာကမ္မဋ္ဌာန်းအလုပ်ကို သိပ် လုပ်လေ့ လုပ်ထမရှိပါဘူး။ ရဟန်းတော်များနှင့် ဘာသာကိုင်းရှိုင်းတဲ့ လူကြီးပိုင်း တချို့လောက်သာ ဘာဝနာအလုပ်ကို လုပ်ပါတယ်။ ဘာကြောင့်လဲ ဆိုတော့ ကမ္မဋ္ဌာန်း လုပ်ဖို့ သမာဓိရအောင် စိတ်ကိုအလွန်မှ ထိန်းချုပ်ရတယ်၊ ဆိတ်ငြိမ်မှု လိုတယ်၊ သင့်တော်တဲ့နေရာထိုင်ခင်းလည်း လိုတဲ့အတွက်ပါ။ နေ့စဉ်လူမှုဘဝမှာ ကျင်လည်နေရသူများက အချိန်မပေးနိုင်ပါဘူး၊ တစ်ခါတစ်လေမှ လုပ်လိုက်မလုပ် လိုက် ပြတ်တောင်းပြတ်တောင်းသာ လုပ်နိုင်ကြပါတယ်။

ဒုတိယကမ္ဘာစစ်ပြီးကာလမှာတော့ အတော်ကြီး ပြောင်းလဲလာပါတယ်။ ဝန်ကြီးချုပ်ဟောင်း ဦးနုကိုယ်တိုင်က နမူနာပြလိုက်လို့ ဖြစ်နိုင်ပါတယ်။ ဘာဝနာ အလုပ်လုပ်သူ ပိုများလာပါတယ်။ ခုခေတ်မှာတော့ မြန်မာပြည်မှာ ဦးဆောင် ပြသသူ ပုဂ္ဂိုလ်ကျော် (ပဋ္ဌာနကမ္မဋ္ဌာနစရိယ) ကို လိုက်ပြီး ဘယ်ပုဂ္ဂိုလ်ရဲ့နည်း၊ ဘယ်ရိပ်သာနည်း စသည်ဖြင့် ကမ္မဋ္ဌာန်းနည်း အတော်များပါတယ်၊ ကမ္မဋ္ဌာန်းနည်းများသလောက် အများပြည်သူ သွားရောက်အားထုတ်ရန် တရားရိပ်သာတွေ ကလည်း ပေါ်များလှပါတယ်။

၁၉၈၀ပြည့် ကျွန်တော်မြန်မာပြည် ပြန်ရောက်ချိန်ကစပြီး ဖက်ရှင်လို ခေတ်စားနေတဲ့ ဒီရိပ်သာ ကမ္မဋ္ဌာန်းအလုပ်ကို လူတွေ အားတက်သရော စိတ်ဝင်တစား လုပ်နေကြတာ မမြင်တွေ့ချင်အဆုံးပါပဲ။ ကျင့်ပုံကျင့်နည်းတွေလည်း ခေတ်ဆန်လာတယ်။ ကျွန်တော်သိရှိထားသမျှကလေးကို ပရိသတ်ကို မျှဝေပေး လိုပါတယ်။ ကျွန်တော်သိရှိထားတာတွေကလည်း ကိုယ်တိုင်တရားအားထုတ်နေတဲ့ ဆွေမျိုးမိတ်ဆွေများထံက မေးမြန်းစုံစမ်းပြီး သိထားသမျှဖြစ်ပါတယ်။

ဘာဝနာနှစ်မျိုးရှိပါတယ်။ သမထလို့ ပါဠိလိုခေါ်တဲ့ ကမ္မဋ္ဌာန်းက စိတ်ကို

အာရုံတစ်ခုတည်းမှာ စူးစိုက်ပြီးတည်အောင် (စိတ္တဧကဂ္ဂတာရအောင်) လုပ်တဲ့ အလုပ်ပါ။ အဲဒီကမှ အဆင့်ဆင့်တက်ပြီး ဈာန်သမာပတ်ရသည်အထိ ကျင့်သွားရမည့် လုပ်ငန်း ဖြစ်ပါတယ်။ ဘာဝနာ နောက်တစ်နည်းက ဝိပဿနာ ကမ္မဋ္ဌာန်း၊ ပါဠိစကားပါပဲ စိတ်အာရုံကို စူးစိုက်ပြီး ခပ်သိမ်းသောပစ္စည်းတွေဖြစ်တဲ့ ရုပ်၊ နာမ်၊ ခန္ဓာတို့ရဲ့ ပရမတ်သဘော ပင်ကိုယ်အရှိ သဘာဝတရားကို နက်နက်ရှိုင်းရှိုင်း မြင်အောင်ရှုတဲ့ အားထုတ်မှုဖြစ်ပါတယ်။ အဲဒီလိုရှုပြီး စိတ်တည်ငြိမ်မှုနှင့်အတူ တရားပေါက်ခဲ့လျှင် အငြိမ်းဓာတ်ရမယ်။ လွတ်မြောက်သွားမယ်။ နောက်ဆုံး နိဗ္ဗာန်အထိ ဦးတည်မယ်။ မြန်မာဗုဒ္ဓဘာသာ အများစုက ဝိပဿနာကမ္မဋ္ဌာန်းကို ပိုပြီး လုပ်ကြပါတယ်။ ကျွန်တော်ကြုံရတဲ့ ပုဂ္ဂိုလ်အတော်များများက ကနဦး အဆင့်လောက်မှာပဲ ရှိပါသေးတယ်။ စိတ်တည်ငြိမ်အောင် သမာဓိရအောင် အားထုတ်နေကြရဆဲပါ။ သူတို့က တရားနည်းပြဆရာ လမ်းညွှန်တဲ့အတိုင်း စိတ်ကို အာရုံစူးစိုက် ရှုမှတ် ရတယ်။ ကမ္မဋ္ဌာန်း ရှုမှတ်နေစဉ်မှာ ကိုယ်လုပ်သမျှနဲ့ ဖြစ်ပျက်နေသမျှကို မလစ်မဟင်း သတိနှင့် ရှုမှတ်နေရတယ်။ ဘာလုပ်သလဲ လုပ်ရင် လုပ်တယ်၊ အဲဒါ သေသေချာချာမှတ်။ မိမိခန္ဓာကိုယ်မှာ ဘာဖြစ်နေသလဲ ဖြစ်နေတာကိုမှတ်၊ အသက်ပြင်းပြင်းရှူပြီး ထွက်လေ ဝင်လေကိုမှတ်ရမယ်။ ထိုင်နေလျှင်လည်း ထိုင်လျက်၊ ရပ်နေလျှင်လည်း ရပ်လျက်၊ စကားပြောလျက် သို့မဟုတ် ဆိတ်ဆိတ်နေထိုင်စဉ် သို့မဟုတ် ထိုင်လျက်ဖြစ်စေ၊ ရပ်လျက်ဖြစ်စေ အရိယာပုဒ် တစ်ခုတည်းမှာ အနေကြာလို့ ကိုက်ခဲ ညောင်းညာလျှင်ဖြစ်စေ ကြားရင် ကြားတယ်၊ ထုံကျဉ်လာရင်လည်း ထုံတယ် ကျဉ်တယ် မှတ်ရမယ်။ ဖြစ်သမျှ ကိုယ်လုပ်သမျှကို မပြတ်မလပ် သတိကပ်ပြီး ဖြစ်ဆဲ ရှုမှတ်နေရမယ်။ ပြောရတာတော့ လွယ်ပါရဲ့ တကယ်လုပ်တော့ မလွယ်ဘူးခင်ဗျ။ စာတစ်အုပ် ဖတ်နေတုန်းဖြစ်စေ၊ စာတမ်း တစ်စောင် ရေးနေတုန်းဖြစ်စေ စိတ်က အာရုံပျက်ပြီး တခြားရောက်သွားတာ ပရိသတ်ထဲက ကြုံဖူးကြတယ် မဟုတ်လား။ လက်ချာလိုက်နေတဲ့အခါလည်း ဒီအတိုင်းပါပဲ။ တစ်ခါတစ်ခါ စိတ်က ဘေးလွင့်သွားတတ်တယ်။

အခု ကျွန်တော်ပြောနေတဲ့ ဆွေမျိုး မိတ်သင်္ဂဟတွေ တရားအားထုတ်တာ အိမ်မှာ မဟုတ်ပါဘူး။ ရိပ်သာတစ်ခုခုကို သွားပြီး အားထုတ်တာပါ။ ရိပ်သာမှာက အစစ ပြည့်စုံတယ်၊ သိပ်အဆင်ပြေတယ်။ သို့သော် ရိပ်သာမှာလည်း အချိန်ပြည့် အားမထုတ်နိုင်ကြပါဘူး။ ရိပ်သာသွားဖို့ တစ်ခါတစ်ရံ ရက်အနည်းငယ် ပေးမယ်၊ တစ်ခါတစ်ရံလည်း တစ်လလောက်အထိ အချိန်ပေးပါလိမ့်မယ်။

ယခု ကျွန်တော် ပြောခဲ့တဲ့ ဘာဝနာဆိုတဲ့ ကမ္မဋ္ဌာန်းအလုပ်အကြောင်းက

အပေါ် ယံ အကြမ်းဖျင်းမျှသာ ဖြစ်ပါတယ်။ ပရိသတ်ရဲ့ ခွင့်ပြုချက်နှင့် ဒါကို ဖြည့်စွက်တဲ့ အနေနှင့် ရာဟုလာဝေပုလ္လရေးတဲ့ 'မြတ်ဗုဒ္ဓဒေသနာ'* စာအုပ်မှာ ပါရှိတဲ့ ဘာဝနာ အကြောင်း ဝေဖန်ဆွေးနွေးချက်ကို ဖောက်သည်ချလိုပါတယ်။ ပရိသတ် သိပါတယ်။ ဒီစာအုပ်ကို ၁၉၅၈ ခုက ပါရီမှာ ရေးသားပြီးစီးပါတယ်။ ထုတ်ဝေတာက ၁၉၅၉ ခုမှာ။ ပါမောက္ခ ပေါဒီမီရဲ့ဗီယေးက အမှာစာ ရေးသား ထားပါတယ်။ ဘာဝနာကို meditation (ကမ္မဋ္ဌာန်း) လို့ ပြန်ဆိုတာကို ရာဟုလာက စိတ်တိုင်း မကျပါဘူး။ ဘာဝနာရဲ့ အဓိပ္ပာယ်အပြည့်အစုံကို မခြုံငုံမိဘူးလို့ ယူဆတယ်။ သူ ယူဆတဲ့အတိုင်း မှန်ပါတယ်။ ဘာဝနာက စိတ်ကိုလေ့ကျင့်ပေးတယ်၊ သန့်ရှင်းစင်ကြယ်စေရန် လေ့ကျင့်ပေးတယ်။ (သန့်ရှင်းစင်ကြယ်မှုကို ကောင်းသည်ထက်ကောင်းအောင်တိုးပွားပေးတယ်)၊ လေ့ကျင့်ပြုပြင်ပေးတယ်၊ အလေ့အကျင့် အားကောင်းအောင် ပွားပေးတယ်လို့ အဓိပ္ပာယ်ရပါတယ်၊ ဒါကြောင့် သူက meditation အစား mental culture (စိတ်ကိုပွားများခြင်း) သို့မဟုတ် mental discipline (စိတ်ကိုစည်းကွပ်ခြင်း) စကားရပ်တွေသုံးမှသာ ဆီလျော်မယ်လို့ ယူဆတယ်။ ကမ္မဋ္ဌာန်းထိုင် ဘာဝနာပွားများတဲ့အလုပ်က စိတ်မှာ တွယ်ကပ်တဲ့ အညစ်အကြေး အနှောင့်အယှက်များကို ပယ်ဖျက်သန့်စင်တဲ့ အလုပ်ပါတယ်၊ အာရုံစူးစိုက် ရှုနိုင်စွမ်းမွေးပြီး သတိထူထောင်ခြင်းဖြစ်ပါတယ်။ ဒီက ပညာရင့် ဉာဏ်စဉ်အဆင့်ဆင့် တက်ပြီးတော့ ပရမတ္ထသစ္စာတည်းဟူသော နိဗ္ဗာန်ကို မျက်မှောက်ပြုနိုင်ရေး ဦးတည်ခြင်း ဖြစ်ပါတယ်။

စိတ်ကိုစည်းကွပ်ပွားများခြင်းနှင့် ပတ်သက်ပြီးစာအုပ်ထဲက ဘာဝနာအခန်း မှ ဆိုင်ရာအပိုဒ်များကို မှီးပြီးပြောပါဦးမယ်။ ရာဟုလာက အောက်ပါအတိုင်း ရေးသားပါတယ်။*

> 'ကမ္မဋ္ဌာန်း'ဟူသော စကားကို သုံးလိုက်သည်နှင့် တပြိုင်နက်နေ့စဉ်လုပ်ဖွယ်ဗာဟိရ ကိစ္စများကို စွန့်ပစ်ရမည်ဟု ထင်ကြပါသည်။ ဂူတွင်းဝင်၍ဖြစ်စေ ကျောင်းသင်္ခမ်း တစ်နေရာမှာ ဖြစ်စေ လူသူကင်းဝေးရာတစ်နေရာမှာ ကျောက်ရုပ်ပမာ တင်ပလ္လင်ခွေမလှုပ်မယှက် ထိုင်ရတော့မည်ဟု တွေးလိုက်ကြသည်။ ဗုဒ္ဓဟောကြားပြသခဲ့သော ကမ္မဋ္ဌာန်းတရားကို အလွဲလွဲအမှားမှား သဘောပေါက်နေကြသည်။ အချို့က မပြည့်မစုံနှင့် အနည်းငယ်မျှသာ နားလည်နေသည်။ ထို့ကြောင့် ကာလရွေ့လျား ကြာမြင့်လာသောအခါ 'ကမ္မဋ္ဌာန်း' ရှုနည်းမှာ ချွတ်ချော်တိမ်းပါးလာခဲ့ပြီး လုပ်ရိုးလုပ်စဉ်တစ်ခု

---

* 'Rahula Walpola : What the Buddha Taught' ကို ဦးကိုလေး (ဇေယျာမောင်) က 'မြတ်ဗုဒ္ဓဒေသနာ' (၁၉၇၉ ခု၊ ရန်ကုန်ထုတ်)အဖြစ် ဘာသာပြန်ဆိုထားသည်။

သို့မဟုတ် အခမ်းအနားတခု၊ နည်းပညာတစ်ရပ်ကဲ့သို့ ဖြစ်လာသည်အထိ ယိုယွင်း ပျက်စီးပြီးခဲ့ရလေသည်'။

တစ်စုံတစ်ယောက်က သူလုပ်သမျှကို သတိချပ်၍ မပြတ်မှတ်တဲ့ ကမ္မဋ္ဌာန်း အကျင့်နှင့် ပတ်သက်ပြီး ရာဟုလာ၏ အဆိုအမိန့်တွေက အထက်မှာ ပြောခဲ့တဲ့ မြန်မာဗုဒ္ဓဘာသာများ ဘာဝနာ ပွားနည်းပွားဟန်နှင့် သက်ဆိုင်နေပါတယ်။ သူဆက်ပြီးဆိုထားတာက

'ယင်းကမ္မဋ္ဌာန်းအလုပ်မှာ သင့်ကိုယ်ရေးကိုယ်တာဖြစ်စေ၊ အလုပ်ခွင်မှ ကိစ္စဖြစ်စေ၊ ဝေယျာဝစ္စဖြစ်စေ သင်ကိုယ်တိုင် ကာယကံ ဝစီကံမြောက် လုပ်သမျှကို ပြုဆဲမှာ သတိကပ်ပြီးမှတ်သားနေရတဲ့ သတိလက်မလွတ်ရေး အလုပ် ဖြစ်ပါတယ်။ သင်သည်လမ်းလျှောက်လျက်ဖြစ်စေ၊ ရပ်လျက် ဖြစ်စေ၊ ထိုင်လျက် ဖြစ်စေ၊ လဲလျောင်းလျက်ဖြစ်စေ၊ အိပ်နေသည် ဖြစ်စေ . . . စကားပြောသည် ဖြစ်စေ၊ ဆိတ်ဆိတ်နေသည်ဖြစ်စေ. . . ယုတ်စွ အဆုံး တပိုတပါးသွားနေစဉ် ဖြစ်စေ၊ သင်လုပ်သမျှ အရာရာတွင် သတိ ကပ်လျက် အလုံးစုံကိုလုပ်ဆဲလုပ်ကိုင်ဆဲတွင် သတိရှိနေရမည်။'

ဟု သူ့စာအုပ် စာမျက်နှာ (၇၁)မှာ ဆိုထားပါတယ်။ ဒေါက်တာ ရာဟုလာရဲ့ အဆိုအမိန့်အရ ထင်ရှားပါတယ်။ စိတ်ကို ကျင့်ယူပွားများရာမှာ ကမ္မဋ္ဌာန်း ယောဂီတစ်ယောက်အနေနဲ့ ဘယ်နေရာဘယ်ဌာနမှ၊ ရိပ်သာမှရယ်လို့ ဌာနနေရာ သတ်သတ်မှတ်မှတ် မလိုပါဘူး။ အချိန်လည်း ဘယ်အချိန်မှရယ်လို့ သတ်မှတ်စရာ မလိုပါဘူး။ မည်သူမဆို နေ့စဉ်ဘဝအလုပ် တာဝန်တွေလုပ်ဆောင်ဆဲမှာ ကျင့်လို့ ရပါတယ်။ ပြီးတော့ ကိုယ်တိုင်လုပ်နိုင်တဲ့ လုပ်ရမယ့် အလုပ်ဖြစ်တဲ့ အတွက် ဆရာကနည်းပြပေးမှ ဖြစ်တယ်လို့လဲ မဟုတ်ပါဘူး။ ရာဟုလာရဲ့ ဒီ ကမ္မဋ္ဌာန်း နည်းစနစ်က မြန်မာဗုဒ္ဓဘာသာဝင်များရဲ့ ကျွန်တော်ပြောခဲ့ပြီး ကမ္မဋ္ဌာန်း နည်းနဲ့ ကွာခြားနေသော်လည်း ကျွန်တော်တော့ ရာဟုလာကို သဘောတူ ထောက်ခံ ပါတယ်။

## ၃၊ ၃ လူအို၊ လူကြီးပိုင်း

ဘယ်အရွယ်ကစပြီး လူကြီးပိုင်းခေါ်မလဲ။ ကျွန်တော့်အတွက် အခက်ပဲ။ ယဉ်ကျေးမှု အခြေခံလိုက်ပြီး လူကြီးဆိုတဲ့ အသုံးအနှုန်းကို အမျိုးမျိုးအဓိပ္ပာယ် ကောက်နိုင်ကြပါတယ်။ အသက်အပိုင်းအခြားကို ကံသေကံမ ပြောမရပါဘူး။ မြန်မာ့အမြင်က ဝိုးတိုးဝါးတား၊ အနောက်တိုင်းသားအမြင်ကတော့ ထင်မိထင်ရာပါ။ မြန်မာအတွက်ကတော့ လူကြီးအသက်ကြီးပိုင်းဝင်တယ်ဆိုတာ ငါးဆယ့်ငါးဟိုဘက်

ကြိုက်တဲ့နေရာကစလိမ့်မယ်။ အနောက်မှာတော့ ငါးဆယ့်ငါးကိုငယ်သေးတယ်လို့ ပြောဦးမယ်။ ဒီအရွယ်မှာ ငါကြီးပြီလို့လည်း မထင်ကြသေးဘူး။ ခြောက်ဆယ်ကျော် ဗြိတိသျှများကတော့ အသက်က ကိုယ့်ကိုယ်ကို ကြီးတယ်ထင်ရင်ကြီးမှာပဲ၊ ငယ်တယ် ထင်ရင်ငယ်မှာပဲလို့ ဆိုကြတယ်။ သက်ကြီးရွယ်ကို ဘယ်ကစမယ် စံသတ်မှတ် မထားလေတော့ တစ်ခါတုန်းက အရှေ့တိုင်းနှင့် အာဖရိက ပညာကောလိပ်မှာ ကျွန်တော်ဝင်ပြီးအမိပ္ပာယ် ပေးကြည့်ခဲ့ဖူးတယ်။

တစ်နေ့ နေ့စာစားပွဲမှာ ကျွန်တော်ကောလိပ်ကျောင်းအုပ်ကြီးနဲ့ စကော့ လူမျိုး ကထိကနှစ်ယောက် ကြားမှာထိုင်နေတယ်။ ကျောင်းအုပ်ကြီးက ၆၇-၆၈ လောက် ကျွန်တော့်ညာဘက်မှာ ထိုင်တယ်၊ စကော့ကလူလတ်ပိုင်း၊ ကျွန်တော့် ဘယ်ဘက်မှာ ထိုင်နေတယ်။ သူတို့ စကော့တွေအများစုလိုပဲ သူက ဂေါက်ဝါသနာ အိုးတစ်ယောက် ဖြစ်တယ်။ စကော့က ကျွန်တော် ဂေါက်သီးကစားသလားလို့ မေးပါ တယ်။ ကျွန်တော်က မကစားကြောင်းဖြေ၊ သူကဘာလို့မကစားတာလဲ ပြန်မေးပြန် ရော။ အဲဒါ အဘိုးကြီးတွေကစားတာပဲလို့ ကျွန်တော်ကပျော်စေပျက်စေ ပြန်ဖြေ လိုက်တယ်။သူ့ကို ဆွပေးလိုက်သလိုဖြစ်သွားတယ်။ အဘိုးကြီးဆိုတာဘာလဲ၊ ဘယ် အရွယ်မှာအသက် ကြီးတာလဲ ဆိုစမ်းပါဦးဗျလို့ သူကပြန်မေးခွန်းထုတ်လာတယ်။ ရုတ်တရက် ကျွန်တော်လည်း ကျောင်းအုပ်ကြီး အသက်အရွယ်ကို မေ့ပြီး အဲဒါ ၆၈နှစ်ပေါ့ဗျာလို့ဖြေလိုက်မိတယ်။ ကျောင်းအုပ်ကြီးက ကျွန်တော့်ညာဖက်နားထဲ ကပ်ပြီးအော်ပါလေရော။ 'ဟေ့ ၆၈နှစ်က လူလတ်ပိုင်းကွ'တဲ့၊ နားပွင့်မတတ်ပါပဲဗျာ၊ အော်လိုက်ပုံက။

မြန်မာဗုဒ္ဓဘာသာများက ပဋိသန္ဓေ နေရခြင်း၊ အိုရခြင်း၊ နာရခြင်း၊ သေရခြင်း ဆိုပြီး ဝဋ်ဒုက္ခဘေးကို တရွတ်တည်းရွတ်နေကြတယ်။ ဒီတော့ အိုဘေးကြီးက သေဘေးနှင့် နှစ်လှမ်းသာ ဝေးတယ်လို့သိနေကြတယ်။ သို့သော် သေခြင်းက အနိစ္စတရားနှင့်အညီ လာလေတော့ ကလေးငယ်တွေလည်း သေချင် သေတာပဲ။ အဲဒီတော့ အိုတယ် အသက်ကြီးတယ်ဆိုတာ ဘယ်အရွယ်လဲ။ ကဲ ဒါ ထားပါစို့။ မြန်မာကတော့ ၅၅နှစ်ဆိုလျှင် အိုပြီထင်တယ်။ အိုပြီထင်အောင်လည်း လူတကာကလုပ်ပေးနေတယ်။ သူ့ရဲ့ ဘ၀အမြင်နဲ့ လူမျိုးရဲ့ကျင့်ထုံးကိုက ဒီအတိုင်း အထင်ပေါက်အောင် ထောက်ကူပေးနေတယ်။ ဒီအထဲမှာ ရာသီဥတုလည်း အကြောင်းတစ်ချက်ဖြစ်နိုင်မယ်။ ၅၅နှစ်က ဗြိတိသျှခေတ်မှာ အရာရှိများ ပင်စင် အငြိမ်းစား ယူလေ့ရှိတဲ့ အသက်ဖြစ်တယ်။ ဒီပင်စင်သက် စည်းမျဉ်း သတ်မှတ် ထားတာက ဗြိတိသျှအရာရှိများ မြန်မာပြည်မှာ ၂၅နှစ် -၃၀ အမှုထမ်းပြီးလျှင်

ကိုယ့်နိုင်ငံပြန် မိသားစုနှင့် နေနိုင်စေဖို့ လုပ်တာလို့ သိရပါတယ်။ ဒီအရွယ်ဆိုလျှင် သားသမီးအများစုက မိဘများအပေါ်မှာရှိတဲ့ သူတို့ရဲ့သားသမီးဝတ် ထမ်းဆောင်နိုင်ကြပြီ။ သက်ကြီးရွယ်ကြီးလို့ အခေါ်ခံရပြီးဖြစ်တဲ့ မိဘများကို ထောက်ပံ့နေကြပြီ။ တချို့ဆိုလျှင် ဒီအရွယ်မိဘများကို သူတို့နှင့်အတူ အိမ်မှာခေါ်ထားပြီ။

မြန်မာပြည်မှာက အသက်၆၀အရွယ်ရှိသူကို ငါအသက်ကြီးပြီလို့ ခံစားရအောင် လုပ်လုပ်ပေးနေတယ်။ အကြောင်းနှစ်ရပ် ရှိပါတယ်။ ပထမအချက်က အသက်ကြီးသူကို ရိုသေလေးစားမှုကြောင့် လွန်လွန်ကဲကဲဂရုစိုက်တဲ့အကြောင်း၊ နောက်တစ်ခုက ဆွေမျိုးအခေါ်အဝေါ်မှာသုံးတဲ့ အဘိုးအဘွား ဝေါဟာရများ ဖြစ်ပါတယ်။

အသက်အရွယ်ကြီးသူများမှာ ကိုယ့်ကိစ္စကိုယ် ဘာမျှမလုပ်ရအောင် လုပ်ကိုင် ခွင့်မပေးတာတွေ ကျွန်တော်ကြုံဖူးပါတယ်။ အဘိုးတစ်ယောက် စားပွဲပေါ်က ဆေးတံကောက်ယူဖို့ နေရာကထလိုက်လျှင် တစ်ယောက်ယောက်က ယူပေးတော့ မယ်။ အဘွားက ရေသောက်ချင်လို့ ထပြီး ရေခပ်မယ်လုပ်လျှင် တစ်ယောက် ယောက်က ခပ်ပေးမယ်။ အဖေအိုကြီးက တံမြက်စည်းကောက်ယူပြီး ကိုယ်လက် လှုပ်ရှားရင်း ဝင်းခြံလှည်းကျင်းမယ်လုပ်လျှင် ငယ်ရွယ်တဲ့အိမ်သား တစ်ယောက် ယောက်က သူ့တံမြက်စည်းယူပြီး ဝင်လှည်းလိမ့်မယ်။ ဒီအတိုင်းပဲ ကျွန်တော်ကြုံရ ပါတယ်။ ဝါသနာပါလို့ ဥယျာဉ်လုပ်တာ ဝင်လုပ်မယ့်သူ ပေါ်တော့ ကျွန်တော် လုပ်ခွင့်မရ၊ နောက်ဆုံးတော့ ငါ့အလုပ်ဝင်မလုပ်ကြနှင့် တားရသည်အထိ ဖြစ်တယ်။ ပေါင်းရှင်းမယ်ဆိုပြီး ဂိုဒေါင်တဲထဲက မြေဆွခက်ရင်းခွလေး ကောက်ကိုင်လိုက်တာ နဲ့ အမျိုးအဆွေထဲက လူငယ်တစ်ဦးဦးကဖြစ်စေ ဥယျာဉ်စောင့်ကဖြစ်စေ ကျွန်တော် လုပ်ပေးမယ်ဆိုပြီး ဝင်လာတယ်။ ကိုယ့်လက်ဖက်ရည်လေး ကိုယ်ဖျော်တာတောင် အိမ်ဖော်ကလေးမ သို့မဟုတ် တစ်ယောက်ယောက်က ကျွန်တော့်ကို မဖျော်ရဘူး သူတို့ ဖျော်ပေးမယ် တားတယ်။ ဒီကိစ္စမှာတော့ ကျွန်တော်အလျှော့မပေးဘူး၊ သူတို့ ဖျော်တဲ့ လက်ဖက်ရည်က သကြားများတယ်၊ နို့များတယ်၊ ကျွန်တော်မကြိုက်ဘူး။ ဒီဟာမျိုးတွေက လပေါင်းများစွာ နှစ်ပေါင်းများစွာ ဖြစ်လာခဲ့ရင် ကာယကံရှင် ပုဂ္ဂိုလ်မှာ ကိုယ်ရောစိတ်ပါ အရွယ်ရင့်တော့မှာပေါ့။

အရှေ့မှာရော အနောက်မှာပါ မြေးရပြီးသူများ ပြောသံကိုယ်တိုင်ကြားဖူးပါတယ်။ ယခုအဘိုးအဘွား ဖြစ်လာတာကြောင့် ကိုယ့်ကိုယ်ကိုယ် ကြီးပြီလို့ ထင်ပါသတဲ့။ တချို့ဆိုလျှင် ၅၅ တောင်မရှိသေးပါဘူး။ အဘိုး အဘွားဆိုတဲ့ အသုံးအနှုန်းက ကြီးပြီ အိုပြီလို့ အောက်မေ့စေပါတယ်။

တချို့လူကြီးများဆိုလျှင် သူ့ထက်ငါ ရုန်းကန်လှုပ်ရှားဆဲ လူလတ်တွေ

မယှဉ်နိုင်လောက်အောင် သန်မာသွက်လက်ဆဲ ရှိပါတယ်။ ဒါတောင် မြန်မာများက လူကြီး ဆိုလျှင် ခန္ဓာလည်းအို၊ စိတ်ကလည်း စွဲမိစွဲရာလို့ ထင်တာများတယ်။ သို့သော် လူကြီးဆိုတာ ဉာဏ်အမြော်အမြင် ကြီးတယ်၊ ဗဟုသုတကြွယ်တယ်၊ အဆုံးအဖြတ် မှန်ကန် တော်တည့်သူ ဖြစ်တယ်လို့ အများလက်ခံပါတယ်။

ဘယ်အရွယ်မှာပဲ စပြီး သူ့ကိုယ်သူ အိုတယ်ထင်ထင်၊ အဲဒီအချိန်ကစပြီး သူက နောက်ဘဝအတွက် နှစ်ဆတိုးလုပ်တော့မယ်။ ပဋိသန္ဓေနေရခြင်း၊ အိုရခြင်း၊ နာရခြင်း၊ သေရခြင်း၊ ဘဝတစ်ဖန် ပြန်ဖြစ်ရခြင်းဆိုတဲ့ ပဋိစ္စသမုပ္ပါဒ်တရားနဲ့ ဘုရား ဟော တချို့ကလည်း သူ့အတွက် ပိုပြီးထင်ရှားလာတယ်၊ ခံစားလာရတယ်။ တမလွန်ဘဝအတွက် ပိုလုပ်လာလေလေ သူကလောကီကိစ္စတွေကို စိတ်ဝင်စားမှု နည်းလေလေ ဖြစ်လာပါတယ်။

တစ်ခုတော့ မေတ္တာရပ်ခံပါရစေ။ အသက် ၆၀ ကျော် မြန်မာ ဗုဒ္ဓဘာသာ တိုင်းကို သေဘေးနဲ့ အနိဋ္ဌာရုံတွေပဲ အစဉ်တွေးနေသူ၊ လောကီကို လုံးလုံး မေ့ပျောက် ထားသူလို့ မထင်လိုက်ပါနှင့်။ ဘဝကို ပျော်ပျော်ရွှင်ရွှင် ဆက်နေနိုင်သူတွေ၊ နေ လည်း နေသူတွေ အများကြီး ရှိပါသေးတယ်။

## ၃၊ ၄ သေခြင်း

'သေတယ်' ဆိုတဲ့ စကားကို ဖော်ပြစရာ မြန်မာစကား ဥပစာများစွာ ကြွယ်ဝ လှပါတယ်။ သူနှင့် တွဲပါလာတဲ့ အလောင်းနှင့် အသုဘ ကိစ္စအတွက်လည်း အလားတူပါပဲ။ ဒီလိုဖြစ်လာတာက မြန်မာတို့ရဲ့ ဘဝဆုံးခန်းကို ရှုမြင်ပုံကို ညွှန်ပြနေ ပါတယ်။သေခြင်းသို့မဟုတ် ဘဝဆုံးခန်းကလည်း တမလွန်နှင့် ဆက်နွှယ်နေတဲ့ ဘာသာရေးကိစ္စလည်းဖြစ်၊ နားလည်ရန် ခက်ခဲသည့် ကိစ္စလည်း ဖြစ်နေပါတယ်။

၁၂ နှင့် ၁၃ ရာစု မြန်မာဗုဒ္ဓဘာသာများကတော့ သေခြင်းကို အသက် ရပ်တန့်ခြင်း သက်သက်အဖြစ် သဘောထားကြပါတယ်။ အဲဒီကာလက သုံးတဲ့ အသုံးက အသက်သေတယ်(အသက်ရပ်တန့်ပြီ)မှ သေတယ် လို့သုံးတယ်၊ တစ်ဖက် မှာက အသက်ရှင်တယ် (အသက်ဆက်လက်ရှိနေတယ်)မှ ရှင်တယ်လို့ သုံးပါတယ်။ အဲဒီခေတ်အခါက ဒီဝေါဟာရကိုသုံးရာမှာ ပုဂ္ဂိုလ်ရဲ့လူမှုအဆင့်၊ ရာထူး၊ မြင့်မြတ်မှု စသည် ခွဲခွဲခြားခြားမလုပ်ဘဲ ကျောက်စာများမှာ ဒီဝေါဟာရကို အဆင့်မရွေး သုံးစွဲထားတာ မနည်းလှပါဘူး။ ဗုဒ္ဓဘုရားကိုပင်လျှင် သေတယ်လို့ သုံးထားပါတယ်။ သို့သော်လည်း ထေရဝါဒ ဗုဒ္ဓဘာသာအမြစ်တွယ်လာတော့ အထွတ်အမြတ်ထားတဲ့ ပါဠိဘာသာက မြန်မာလူမျိုးကို ယဉ်ကျေးမှုအဆင့် မြှင့်တင်ပေးခဲ့ပါတယ်။ မြန်မာ ဘာသာစကားကိုလည်း ပါဠိစကားလုံးတွေ ထည့်သွင်းတဲ့အတွက် ပိုမိုကြွယ်ဝစေ

ပါတယ်။ အသုံးတွေက ပိုပြီး သိမ်မွေ့နက်နဲလာတယ်။ ၁၅ ရာစုကစပြီး မြန်မာတို့ရဲ့ သေခြင်းအတွက် ဝေါဟာရကြွယ်ဝမှုက ပုံစံသစ်ဖြစ်လာပါတယ်။ နမူနာတချို့ ပြလျှင် လုံလောက်ကောင်းပါလိမ့်မယ်။

၁။ လူယောကျ်ားအတွက်

(က) သာမန်လူ

| | |
|---|---|
| သေတယ် | သေတယ် |
| ဆုံးတယ် | ပြီးသွားပြီ၊ ရပ်တန့်ပြီး |
| သေဆုံးတယ် | သေပြီးသွားပြီ၊ |

(ခ) ရာထူး၊ ဓနဥစ္စာရှိသူ

| | |
|---|---|
| အနိစ္စရောက်တယ် | မမြဲခြင်းတရားရောက်လာသည် ၊မမြဲသော အဖြစ်သို့ရောက်သည်။ အနိစ္စ - ပါဠိ အနိစ္စ |
| ကံကုန်တယ် | ကံပြီးဆုံးသည်၊ ကံမကျန်တော့ချေ။ ကံ - ပါဠိ ကမ္မ |

(ဂ) မင်းဆွေစိုးမျိုး

| | |
|---|---|
| နတ်ရွာစံတယ် | နတ်ရွာပျော်ရွှင်သည်၊ နတ်တို့နေထိုင်ရာ ဌာနတွင် နေထိုင်သည်။ |

(ဃ) နတ်ဒေဝါများ

| | |
|---|---|
| စုတေတယ် | ပါဠိ စုတေ၊ သေသည်။ |

၂။ ကိုးကွယ်ခံပုဂ္ဂိုလ်များ

(က) ဘုန်းကြီး

| | |
|---|---|
| ပျံတော်မူတယ် | ပြန်သွားသည်၊ မြင့်မြတ်သော ပုဂ္ဂိုလ်အတွက် (တော်)သုံး၊ ဗြဟ္မာ့ဘုံဟုဆိုလိုသော မိမိ လာရာ မူလဘုံသို့ ပြန်သွားသည်။ |

(ခ) ဗုဒ္ဓဘုရား၊ ပစ္စေကဗုဒ္ဓ၊ ရဟန္တာ

| | |
|---|---|
| ပရိနိဗ္ဗာန်ပြုတော်မူတယ် | နိဗ္ဗာန်သို့ ဝင်ရောက်သည် (မြင့်မြတ်မှု အတွက်တော်သုံးသည်) ပါဠိ ပရိနိဗ္ဗာန်မှ |

မြန်မာဗုဒ္ဓဘာသာခံယူတဲ့ သေခြင်းသဘောက နှစ်မျိုးနှစ်စားရှိပါတယ်။ (၁) ရိုးရိုးသေ (သဘာဝအတိုင်းသေ) နှင့် (၂) သေရိုးသေစဉ်မဟုတ်ပဲသေ၊ အသေဆိုး နှင့်သေခြင်း။ ဒုတိယသေတဲ့နည်းကို အစိမ်းသေ အကြောင်းမှာပြောခဲ့ပါပြီ။သေရိုး သေစဉ်သေတဲ့ ရိုးရိုးသေတာက အသက်ကြီးရင့်တာကြောင့် သို့မဟုတ် ရောဂါကြောင့်

ဖြစ်တယ်။ မြန်မာအယူအရ ဖျားနာတဲ့ရောဂါက ၉၆ ပါးရှိပါတယ်။ သေရိုး သေစဉ်မဟုတ်ဘဲ သေတာကို ဖြစ်ရိုးဖြစ်စဉ်မဟုတ်တဲ့ အကြောင်းတစ်ကြောင်း ကြောင့်လို့ဆိုပါတယ်။ ကူးစက်ရောဂါကြောင့်၊ မြွေကိုက်လို့၊ ကြိုးဆွဲချလို့၊ သို့မဟုတ် မီးမဖွားနိုင်တာတို့ ပါတယ်။ အသေဆိုးကတော့ ဝေါဟာရအသုံးက ညွှန်ပြတဲ့အတိုင်း ဆိုးဝါးတဲ့အကြောင်းရင်းရှိမယ်။ မင်းမိန့်နှင့်သေရတာ၊ အသတ်ခံရတာ၊ ထိခိုက် အန္တရာယ်ကြောင့်သေတာ၊ တိရစ္ဆာန်ဘေးရန်ကြောင့်သေတာတွေပါတယ်။

အခုပြောတဲ့သေပုံသေနည်းများမှာ အသေဆိုးတစ်မျိုးကို နေ့မကူးဘဲ သင်္ဂြိုဟ်တယ်။ လုပ်ရိုးလုပ်စဉ်အတိုင်းမဟုတ်တော့ဘူး၊ အသုဘလာသူကလည်း အလွန်နည်းမယ်၊ အခမ်းအနားတွေဘာတွေလည်း မပါတော့ဘူး။ မီးမဖွားနိုင်လို့ သေရတဲ့မိခင်ကိုလည်း နေ့မကူးဘဲ သင်္ဂြိုဟ်ပါတယ်။ မှော်ဆရာတွေက မိန်းမ ရုပ်ကလပ် တူးဖော်ပြီး အင်္ဂါတွေကိုဖြတ်တောက်ယူပြီး သူတို့မှော်အစီအရင်တွေ လုပ်ရာမှာ သုံးတတ်တယ်။ ဒါကြောင့် သူ့အလောင်းကို မှော်ဆရာတွေ လာဖော်မှာ စိုးရတဲ့ အတွက် ခုနစ်ညတိုင် သူ့သင်္ချိုင်းကို ကင်းစောင့်ကြတယ်။

လူသေကောင်ကိုခေါ်တဲ့ အသုံးအနှုန်းက အသုဘ ပါဠိစကား အသုဘ ရှုချင်စဖွယ်မရှိလို့ အဓိပ္ပာယ်ရတယ်။မြန်မာစစ်စစ်နဲ့ ပြောရင်တော့ မသာလို့ သုံးပါတယ်၊ ဒီပါဠိနဲ့ မြန်မာနှစ်လုံးစလုံးကို အခြားဝေါဟာရများနှင့် တွဲဖက် သုံးစွဲပါတယ်။

| | |
|---|---|
| အသုဘ/မသာ | အလောင်း၊ ရုပ်ကလပ် |
| အသုဘအိမ်/မသာအိမ် | အသုဘရှိသောအိမ် |
| အသုဘချ/မသာချ | အလောင်းကိုသုသာန်သို့ပို့ပြီး မြေမြှုပ်သို့မဟုတ် မီးသင်္ဂြိုဟ်သည်။ |
| အသုဘပို့/မသာပို့ | တစ်ယောက်တည်းဖြစ်စေ ပရိသတ်နှင့်ဖြစ်စေ အသုဘတန်းနှင့်လိုက်ပါသည်။ |
| အသုဘ/မသာအလာင်း | တစ်ခါတစ်ရံ အသုဘ/မသာကို အလောင်းဟု ချဲ့သည်။ သို့မဟုတ် အလောင်းဟု သုံးသည်။ |

တစ်စုံတစ်ယောက် ကွယ်လွန်တဲ့အခါမှာ တန်းစီလိုက်ပါပို့ဆောင်ပါတယ်။ ကွယ်လွန်ပြီး ခုနစ်ရက်မြောက်နေ့မှာတော့ ဘာသာရေးအလှူအတန်း(ရက်လည်) လုပ်ပါတယ်။

အချို့ အသုဘများမှာ ဆွေမျိုးများက အပြင်းအထန်ပူဆွေးသောက ဖြစ်ကြ တာကို တွေ့မြင်ရတတ်ပါတယ်။ အလောင်းကို တစ်ကိုယ်လုံး သန့်ပြန့်အောင် ရေချိုး

ပေးပြီး ခြေမနှစ်ချောင်း လက်မနှစ်ချောင်းကို အချင်းချင်း ပူးပြီး ကြိုး သို့မဟုတ် အဝတ်စနှင့် ချည်ရပါတယ်။ ဒီကြိုးတွေကို လက်မကြိုး၊ ခြေမကြိုးလို့ ခေါ်တယ်။ ပြီးတဲ့အခါ အလောင်းကို အကောင်းဆုံး အဝတ်အစား ဝတ်ဆင်ပေးရတယ်။ ရှေးအခါကတော့ တစ်မျိုးလုပ်တာလည်းရှိတယ်။ အလောင်းကို ချိုင်းအောက်ကစပြီး တစ်ကိုယ်လုံးအဝတ်ဖြူစနှင့် ရစ်ပတ်ပေးတယ်။ မျက်နှာကိုတော့ အခြား အကြောင်းထူး မရှိရင် များသောအားဖြင့် ဖွင့်ထားတယ်။ သွားတွေကြားမှာ ငွေဖြစ်စေ၊ ရွှေဒင်္ဂါး ဖြစ်စေ၊ အကြွေစေ့ ခုထားတယ်။ ဒီအကြွေဒင်္ဂါးက (Charon ကောက်ခံတဲ့ Styx မြစ်ကူးကူးတို့ခအတိုင်း) ကူးတို့ခပါ။ ခုခေတ်မတော့ ဒီထုံးစံကိုအတော်များများ လိုက်မလုပ်တော့ပါဘူး။ အလောင်းကို အလောင်းစင်ပေါ်တင်ထားမယ်၊ အလောင်း စင်အောက်ခြေမှာ ဖယောင်းတစ်တိုင်မီးထွန်းထားမယ်၊ မြေရေအိုး တစ်လုံးလည်း ချထားမယ်။ အိမ်မှာအလောင်းရှိနေသမျှ အစားအသောက် တစ်ပန်းကန်ကို အလောင်းဘေးမှာချထားမယ်၊ အစာစားချိန် ရောက်တိုင်း ပွဲသစ် လဲပေးရတယ်။ ဒီကိစ္စတွေအားလုံးကို ရိုးရာအစဉ်အလာ ကျွမ်းတဲ့ ပုဂ္ဂိုလ်တစ်ဦးက ကြီးကြပ်ပေး ပါတယ်။ ဝိုင်းဝန်းကူညီမည့်သူ မရှိမှာ မစိုးရပါဘူး။ မြန်မာစကား ဆိုရိုးရှိတယ် 'အိမ်နီးချင်းကောင်းအလောင်းလှ' တဲ့။ မြန်မာပြည်မှာ သုဘရာဇာအဖြစ် အသက် မွေးဝမ်းကျောင်းသူမရှိပါဘူး။

အလောင်းဘယ်နှစ်ရက် ထားမယ်ဆိုတာကတော့ ကွယ်လွန်သူရဲ့ လူမှု အဆင့်အတန်းပေါ် မူတည်မယ်။ ပြီးတော့ သူ့အမျိုးတွေ လူစုံတက်စုံရောက်အောင် စောင့်ရတဲ့အပေါ်လည်း မူတည်မယ်။ ဆင်းရဲသားကိုတော့ အတတ်နိုင်ဆုံးမြန်မြန် သင်္ဂြိုဟ်တယ်၊ အကုန်အကျနည်းအောင်လို့ပါ။ လူချမ်းသာ အသုဘကတော့ ရက်ပို ကြာမယ်။ သင်္ဂြိုဟ်မည့်နေ့မရောက်မချင်း အိမ်မှာလည်း လူစည်ကားနေပါလိမ့်မယ်။ တချို့က အသုဘအိမ်လာပြီး ဝမ်းနည်းစကားဆိုမယ်။ တချို့များသောအားဖြင့် လူကြီးပိုင်းက အသုဘရှုမယ်။ အလောင်းကိုရှုပြီး ဘဝ၏မမြဲသော အနိစ္စသဘောကို သုံးသပ်တရားအားထုတ်တာပါပဲ။ တချို့ကလည်း အသုဘစောင့်တယ်၊ ညအိပ် စောင့်လာကြတယ်။ သူတို့ကတော့ လူငယ် လူလတ်ပိုင်းက အမျိုးသမီးအမျိုးသား တွေပါမယ်။ တစ်ညလုံးဖဲကစားကြမယ်၊ သုံးပုံရိုက်ကြမယ်၊ အံစာလှိမ့်ကစားမယ်။

ခေါင်းကိုတော့ လုပ်ရောင်းသူရှိလျှင်ဝယ်မယ် သို့မဟုတ်လက်သမားက တစ်ခါတစ်ရံ အသုဘအိမ်ဝင်းခြံထဲမှာပဲ ခေါင်းရိုက်ပေးမယ်။ အလောင်းကိုခေါင်း သွတ်ပြီးတဲ့အခါမှာ အိမ်သားငယ်ရွယ်သူအားလုံးကို အရပ်တိုင်းရတယ်၊ အရပ်နှင့် တညီတည်းအပ်ချည်ဖြစ်စေ ကြိုးဖြစ်စေ အလျားဖြတ်ပြီး တစ်ယောက်စီအတွက်

ကြိုးကိုလုံးပြီး အလောင်းပေါ်တင်ပေးရတယ်။

အသုဘချမည့်နေ့မှာ ခေါင်းကို ခေါင်းထမ်းသူများက အိမ်ထဲမှထမ်း ထုတ်မယ်၊ တစ်ပြိုင်တည်းမှာ အလောင်းစင်အောက်က မြေရေအိုးကိုတစ်ယောက်ယောက်က သယ်လာရတယ်။ ခေါင်းနောက်ကလိုက်ပြီး အိုးထဲကရေကို လမ်းတစ်လျှောက် ဖျန်းသွားရမယ်၊ အိမ်တံခါးဝလည်းရောက်ရော အိုးကိုချခွဲပစ်ရတယ်။

အသုဘတန်းကြီး သုသာန်ဘက်သွားမယ်၊ လူတန်းအရှည်ကတော့ သေသူရဲ့ အဆင့်အတန်း သို့မဟုတ် ဥစ္စာကြွယ်ဝမှုပေါ် မူတည်လိမ့်မယ်။ မြို့တွေမှာတော့ ကား၊ ဘတ်(စ)ကား၊ မြင်းလှည်းစီစဉ်ပေးထားမယ်။ ဘုန်းကြီးသီလရှင်တို့က ရှေ့ဆုံး က ကား သို့မဟုတ် ဘတ်(စ)ကားနှင့် ထွက်မယ်။ ရွာတွေမှာတော့ အသုဘပို့ လူပရိသတ်က ခေါင်းနောက်မှ ခြေကျင်လိုက်ပါကြပါတယ်။ မြန်မာများက 'မသာတစ်ခေါက်ကျောင်းဆယ်ခေါက်စာ' ကုသိုလ်ရတယ်လို့ ယုံကြည်ကြတယ်။ ဒီစကားပုံကို စတင်သုံးစွဲသူက အသုဘလိုက်ပါပို့ဆောင်သူများ တရားရဖွယ် ဖြစ်တဲ့ အနေအထားကို သတိပြုမိပုံရပါတယ်။

အသုဘ သုသာန်ပို့တဲ့ လမ်းကြောင်းရွေးတာလည်း စည်းရှိတယ်။ ရွာလယ်မြို့လယ်ဘက်ကို မည့်သည်အခါမျှ ဦးတည်မသွားရဘူး။ တောထဲ ရွာပြင် သေဆုံးသူအလောင်းကို ရွာထဲဖြတ်မသယ်ဆောင်ရ၊ သူ့ရွာတော့ဝင်ဖို့မပြောနှင့်တော့။ ရွာဘေးက ပတ်သွားရမယ်။ သုသာန်ကလည်းရွာပြင်မှာ အတော်အသင့်လှမ်းမယ်၊ ရွာအနောက်အရပ်မှာဖြစ်စေ အနောက်တောင်မှာဖြစ်စေရှိမယ်။ မန္တလေးမြို့က နန်းမြို့ရိုးအနောက်တောင်မှာ (အာဠဝီတံခါး ခေါ်တဲ့) အမင်္ဂလာတံခါး ရှိတယ်။ ရှေးခေတ်နန်းမြို့တွင်းက မသာများ အဲဒီတံခါးကပဲ ချရတယ်။ မြို့တွေမှာတော့ သုသာန်ကို နေရာသိပ်ရွေးလို့ မရဘူး။ မြို့တွင်းမှာရော မြို့ပြင်မှာပါ သုသာန်တစ်ခုမက ရှိနိုင်တယ်။ မြို့သုသာန်တိုင်းမှာ ဇရပ်ရှိတယ်။

သုသာန်ရောက်တဲ့အခါ ခေါင်းကို ဇရပ်တွင်းသယ်လာမယ်။ ဇရပ်မရှိရင်လည်း သင့်တော်တဲ့ကွင်းပြင်ကို ယူလာမယ်။ ခေါင်းကိုသံဃာတော်များရှေ့မှာချမယ်။ သံဃာများက စီတန်းနေရာယူပြီးဖြစ်မယ်။ အသုဘကိစ္စ (သရဏဂုံတင်ဖို့) သံဃာတော်များက ဆောင်ရွက်မယ်။ ခုခေတ်မှာတော့ သုသာန်ကိုမပို့မီ အလောင်းရှိနေတုန်း အိမ်မှာပဲ လုပ်လေ့လုပ်ထများလာတယ်၊ ဒါမျိုးကတော့ လူနည်းနည်းနီးစပ်ရာ ပရိသတ်နှင့် လုပ်ပါတယ်။ သရဏဂုံတင်တဲ့ အလုပ်က ကွယ်လွန်သူအတွက် နောက်ဆုံး လုပ်စရာအနေနှင့် လုပ်ပေးတဲ့ရိုးရာပါ။ ရည်ရွယ်ချက်က ကျန်ရစ်သူမိသားစုအတွက် လုပ်တဲ့အလုပ်ပါ၊ ကွယ်လွန်သူ တမလွန်ဘဝကောင်းအောင်

လုပ်တဲ့ ကိစ္စမဟုတ်ပါဘူး။ ကျန်ရစ်သူများက ဘာပဲလုပ်လုပ်၊ ကွယ်လွန်သူက သူလုပ်တဲ့ကံအကြောင်းတရားမှ လွတ်မြောက်နိုင်စရာ မရှိပါဘူး။ အတိတ်ဘဝနဲ့ ယခုကွယ်လွန်တဲ့ဘဝမှာ သူလုပ်ခဲ့သမျှတွေက နောက်ဘဝမှာ အကျိုးပေးမှာပါ။ တစ်နည်းတော့ သူလုပ်သမျှ သူသာခံရ၊ စံရမှာပါ။

ကိစ္စပြီးလျှင် ခေါင်းကို သင်္ချိုင်းကိုသယ်လာပြီး တွင်းထဲကို ကြိုးနှင့်ထိန်းပြီးချမယ်။ ခေါင်းကိုမြေမချမီမှာ ရှေ့နောက်သုံးကြိမ်လှဲကြတာ ကျွန်တော် အကြိမ်တော်တော်များများ တွေ့ဖူးပါတယ်။ ဒါက သူ့ကို ကျန်ရစ်သူနှင့် ဒီလောကကြီးက နောက်ဆုံး နှုတ်ဆက်တဲ့ အထိမ်းအမှတ်လို့ ကျွန်တော့်ကို ပြောပြကြပါတယ်။ တွင်းဘေးမှာ ရှိနေသူက မြေစိုင်ခဲတွေကောက်ပြီး တွင်းပြည့်အောင် ဝိုင်းထည့်ကြတယ်။ ရန်ကုန်လို မန္တလေးလို မြို့ကြီးများမှာတော့ မီးသင်္ဂြိုဟ်တာက ခေတ်စားလာပြီး မြေမြှုပ်တာ ဂူသွင်းတာထက် များလာပါတယ်။

အိမ်ပြန်အလာမှာတော့ အမျိုးထဲမှတစ်ယောက်ယောက်က မြေပုံပေါ်က ခဲတစ်လုံးကောက်ယူလာမယ်၊ အဲဒီခဲကို အိမ်ဦးခန်းမှာထားမယ်။ ဒါကတော့ ကွယ်လွန်သူရဲ့ ဝိညာဉ်ကို ယာယီခုနစ်ရက်စာ အိမ်မှာနေခွင့် ဆက်ပေးထားတဲ့ သဘောပါ။ မြန်မာများယုံကြည်မှုတစ်ခုက ကွယ်လွန်သူရဲ့ ဝိညာဉ်က သူသေပြီး ခုနစ်ရက်အထိ အိမ်အနီးမှာပဲ တရစ်သီသီနေသေးတယ်လို့ ဆိုတယ်။ အထူးပြောရန် မလိုပါဘူး။ ဒီအယူက ဗုဒ္ဓဘာသာ ကျင့်ထုံးလည်းမဟုတ်၊ အယူလည်း မမှန်ပါဘူး။

ခုနစ်ရက်မြောက်နေ့မှာတော့ ရက်လည်ပွဲလုပ်ပါတယ်။ဘာသာရေးအလှူ အတန်းပွဲပါပဲ။ ရက်လည်ဆွမ်းကျွေးခေါ်ပါတယ်။ ရဟန်းသံဃာများပင့်ဖိတ်ဆွမ်းကပ်ပါတယ်။ ဒေါက်တာအေး၊ ဂျပ်ဆင်ကသူရဲ့အဘိဓာန်မှာ 'ရက်လည်ဆွမ်း' ကို 'ကွယ်လွန်သူအား သင်္ဂြိုဟ်အပြီး ခုနစ်ရက်အကြာမှာ ပရိသတ်များကို ကျွေးမွေးသည့်ပွဲ' လို့ အဓိပ္ပာယ်ဖွင့်ထားပါတယ်။ ရွှေရိုးကသူ့စာအုပ် (စာမျက်နှာ ၉၅၉) မှာ ဒီအဓိပ္ပာယ်ကို ထောက်ခံထားပါတယ်။ ခုနစ်ရက်က တကယ်တော့ ကွယ်လွန်တဲ့နေ့က စပြီး ရေတွက်ရတာပါ၊ ပြီးတော့ ပွဲလာပရိသတ်ကို ကျွေးမွေးတဲ့ပွဲမဟုတ်၊ သံဃာတော်များကို ဆွမ်းကပ်တာပါ။ 'ဆွမ်း'ဆိုတာ ရဟန်းသံဃာ ဘုဉ်းပေးသည့် အစားအစာလို့ အဓိပ္ပာယ်ပေါက်ပါတယ်။ မှန်ပါတယ် ပရိသတ်ကိုလည်း ကျွေးမွေးပါတယ်။ သံဃာတော်များပြီးစီးမှ လူပရိသတ်ကို ကျွေးပါတယ်။ ဘာသာရေးအတွက် အကျွေးအမွေးတိုင်းမှာ ဒီအတိုင်းပဲလုပ်ပါတယ်။

ရက်လည်ဆွမ်းကျွေး အစီအစဉ်ကလည်း ရှေ့မှာပြောခဲ့တဲ့ အခြားပွဲလမ်းများမှာလိုပါပဲ။ သံဃာများ ဆွမ်းအရင်ဆက်ကပ်၊ နောက်မှလူတွေကျွေးမွေး၊ ပြီးရင်

ငါးပါး သီလခံယူ၊ အချိန်အခါနှင့် ဆီလျော်မည့်တရားဒေသနာဟောကြား၊ ရေစက်ချပြီးလျှင် နတ်အပေါင်းနှင့် ၃၁ ဘုံ ကျင်လည်ကုန်သော သတ္တဝါအပေါင်း အမျှအတမ်း ပေးဝေပါတယ်။ မြန်မာဗုဒ္ဓဘာသာတစ်ယောက်ရဲ့ဘဝမှာ ကျွန်တော် ပြောနေတဲ့ ဒါန၊ သီလ၊ ဘာဝနာ ကုသိုလ်သုံးမျိုးစလုံး လုပ်စရာအခွင့်က တစ်ယောက်ယောက် ကွယ်လွန်ချိန်မှာပဲ အခွင့်ရတယ်။ တခြားဘယ်ပွဲမှာမှ ဒီကုသိုလ် သုံးမျိုးလုံး မရနိုင်ပါဘူး။ ကျွန်တော် ၁၉၅၇ ခုမှာလေ့လာရေး ခွင့်နှင့် မြန်မာပြည် ပြန်လာစဉ်က အဒေါ်လေးယောက်ထဲက တစ်ယောက်ရဲ့အသုဘမှာ ဒီအချက်ကို သတိပြုမိပါတယ်။

ရက်လည်ပွဲအတိုင်းအတာကလည်း အသုဘတစ်ခုနှင့် တစ်ခုမတူပါဘူး။ တစ်ဖက်မှာ ဂုဏ်ပကာသနဖက်တဲ့ လှူဒါန်းမှုအပြင် ဧည့်ပရိသတ်ကို လက်ဆောင် များပေးတာပါဝင်မယ်။ အနိမ့်ဆုံးအဆင့်မှာတော့ တော်သင့်ရုံကျွေးမွေး လှူဒါန်းတာ ပါမယ်။ အဲဒါကို ‘သပိတ်သွတ်’ လို့ခေါ်ပါတယ်။ ဘုန်းကြီးသပိတ်ထဲကို ဆွမ်းခဲဖွယ် လောင်းထည့်လှူဒါန်းတာကို ခေါ်တာပါ။ ဘုရားရှင်ဟောကြားတဲ့ တရား အရတော့ ကြီးကြီးကျယ်ကျယ်ပွဲပဲဖြစ်ဖြစ် သာမန်အလှူပွဲကလေးပဲဖြစ်ဖြစ် သဒ္ဓါ ကြည်ဖြူ နှလုံးသည်းအူမှ လှူဒါန်းသူတို့သာ ကောင်းမှုကုသိုလ်ကို ရရှိခံစားရပါတယ်။

ကဲ-ယခုပြောခဲ့သမျှဟာ မွေးဖွားချိန်မှ သေသည်အထိ မြန်မာဗုဒ္ဓဘာသာရဲ့ ဘဝဇာတ်လမ်းပါပဲ။ သို့သော်လည်း အသုဘရိုးရာတချို့မှာ တွေ့ရတာတွေကြောင့် ဒီဇတ်လမ်းကို ဟိုမှာတစ်စ သည်မှာတစ်စ ဆွဲယူပြီး ဖြည့်စရာစွက်စရာများ ရှိနေပါသေးတယ်။ ဒါတွေက ဗုဒ္ဓဘာသာထုံးတမ်းမဟုတ်ပါဘူး။ သို့ပေမယ့် အလွန် ကြာ မြင့်စွာ အစဉ်အဆက် လိုက်နာလာခဲ့ကြလေတော့ ခုချိန်မှာ ထုံးစံဖြစ်နေပါပြီ။

ဒီအပိုင်းတွေက ကျွန်တော်အထူးပြုတဲ့ ပညာရပ်နယ် ပြင်ပကိစ္စတွေပါ။ သို့သော် ကျွန်တော် မြန်မာအထောက်အထားများမှ သိထားရသမျှကို အခြေခံပြီး အတတ်နိုင်ဆုံး ရှင်းလင်းပြောကြားပါမယ်။ ဒီမြန်မာအထောက်အထား ဆိုတာတွေ ကလည်း ခိုင်ခိုင်မာမာ စာနှင့် ပေနှင့်တော့ မဟုတ်ပါကြောင်း ပရိသတ်ကြီးကို ကြိုတင်သတိပေးရပါလိမ့်မယ်။

၁။ အလောင်းရေချိုးခြင်း

ဘာကြောင့် ဒီ လုပ်ရိုး လုပ်စဉ် လုပ်ရတယ်ဆိုတာ ရိုးရာအကြောင်းရင်း မရှိပါဘူး။ ကွယ်လွန်သူ မမာတဲ့ အချိန်ကစပြီး ခန္ဓာကိုယ်ကြီးကို ရေမိုးချိုး သန့်စင်သမှု မပြုရလို့ လုပ်ရတာပဲ။

၂။ ခြေမလက်မကို ကြိုးချည်ခြင်း

ဒါလည်း အကြောင်းအခြေခံနဲ့လာတဲ့ ရိုးရာမဟုတ်ပါဘူး။ လက်ခြေအနေ

ထားကို ကြိုးနှင့်ထိန်းထားတာပါ။ ရုပ်ကလပ်က ခေတ်အပြောင်းအလဲတွေ ဖြစ်နေလို့ပါ။

၃။ ကိုယ်တိုင်းကြိုး အလောင်းပေါ်တင်တဲ့ကိစ္စ

ကျွန်တော်တော့ ဒီအကြောင်းရှင်းပြစရာမရှိပါ။ အလားတူ ထုံးစံတစ်ခုတော့ ရှိလေရဲ့။ အိမ်ဖော်မိန်းမကြီးသေတဲ့အခါ ဝါဂွမ်းပင်စည်အပိုင်းကလေးဖြစ်ဖြစ် ငှက်ပျောတုံးတိုတိုပဲဖြစ်ဖြစ် ခေါင်းထဲကိုထည့်ပါတယ်။ ဒါကတော့ အပျိုကြီးနောင်ဘဝမှာ လင်ရပါစေတော့လို့ လုပ်တာလို့ဆိုပါတယ်။ ဒီပစ္စည်းနှစ်ခုကိုမှ ဘာကြောင့်ရွေးတယ်ဆိုတာ ကျွန်တော်မသိပါ။

၄။ ကူးတို့ခ

သွားနှစ်လွှာကြား ဒင်္ဂါးပြားညှပ်တာက အခြားလူမျိုးနွယ်များကလည်း လုပ်လေ့လုပ်ထ ရှိတာပါပဲ။ မြန်မာ့ပညာရှင်များကတော့ ဒါက အိန္ဒိယထုံးတမ်း လက်ကျန်တစ်ခုလို့ ဆိုပါတယ်။ ရှေးကလူတစ်ယောက်သေတဲ့အခါ ကျန်တဲ့အမျိုးများက ခေါင်ရမ်းကိုင်းကို ဖြတ်ပြီးနားပေါက်မှာ (နားတောင်း)တပ်ပေးတယ်။ ဝတ်ထားတဲ့ အဝတ်အနားစမှာလည်း ငွေစလေးတွေချိတ်ဆွဲတယ်၊ ပြီးမှ ဝိညာဉ်တစ်ခုခု ဝင်ပူးအောင်လုပ်ပြီး သင်္ချိုင်းကိုပို့တယ်။ အဲဒီရောက်တော့မှ တွင်းတူးသမား (သုဘရာဇာတွေ) က လမ်းသွောက်လာတဲ့ အလောင်းကိုတား၊ ပါလာတဲ့ ငွေကိုယူပြီး မြေမြှုပ် သင်္ဂြိုဟ်တယ်။ ပန်းနီနီမှ ငိုက်စိုက်ကျနေတဲ့ ဝတ်ဆံတိုင် ဝတ်ဆံအိတ်နဲ့ ဝတ်မှုန်ပါတဲ့ ခေါင်ရမ်းပွင့်ကို မြန်မာများက အနိဋ္ဌာရုံပန်းလို့ အယူရှိတယ်။ ဝင်းခြံ ထဲမှာ မစိုက်ကောင်းဘူး၊ အိမ်ထဲကို ဒီပန်းယူမလာကောင်းဘူး၊ ခေါင်းမှာလည်း မပန်ရဘူး။ သို့သော် ယခုပုံပြင်မှာ ပါတာထက် 'ခြာရွန်ကောက်တဲ့လမ်းဖြတ်ခ' (Charon's toll) ကိုပဲ ပိုသဘောကျတယ်။

၅။ အလောင်းနောက်က ရေဖျန်းလိုက်ခြင်း

ဒီထုံးစံအကြောင်းကို မြန်မာစာအုပ်တစ်အုပ်မှာ ရေးထားတာကတော့ အတော် ယုတ္တိ ယုတ္တာမရှိတာပဲ။ သို့သော်လည်း ရေးထားတာ အရှိအတိုင်း ပြောပြပြီး ကျွန်တော်က ဖြစ်နိုင်ခြေရှိတဲ့ အထင်ကိုပြောပြပါတယ်။

တစ်ခါတုန်းက ဘုရင်တစ်ပါး ရှိတယ်၊ သူ့အလွန်မြတ်နိုးတဲ့ မိဖုရား သေတော့ မသင်္ဂြိုဟ်ဘဲ နန်းတော်ထဲမှာ ထားသတဲ့။ သူကိုးကွယ်တဲ့ ရသေ့ကြီး အဲဒါကြားတော့ နန်းတွင်းကြွလာ ဘုရင်နှင့်တွေ့သတဲ့။ ရသေ့ကြီးက တန်ခိုးနဲ့ ကွယ်လွန်သူ မိဖုရားကြီးကို ခေါ်ယူတယ်။ မိဖုရားက ဘဝသစ်မှာ နွားချေးထိုးပိုးမ ဖြစ်နေရှာသတဲ့၊ မင်းကြီးရှေ့မှာပဲ သူ့ကိုမေးတော့ ချေးထိုးပိုးမက သူ ဘဝသစ်

မှာလင်ရနေပြီ၊ ပျော်ပျော်ပါးပါး နေနေပါပြီ၊ သူ့လင်ကို လောကမှာရှိရှိသမျှ ဘယ်သူနှင့်မှ မလဲ မဖလှယ်နိုင်ပါဘူးလို့ ပြန်ပြောတယ်။ ဒီစကားကြားတော့ ဘုရင်ကြီးကဒေါသဖြစ်၊ အလောင်းကို နန်းတွင်းမှကန်ထုတ်လိုက်တယ်၊ အလောင်းစင်ကိုလည်း ရိုက်ဖျက်၊ ကြမ်းပြင်ကို ရေလောင်း ဆေးကြောစေပါသတဲ့။

ဒီလိုလုပ်တာက ရွံမုန်းဖွယ်တမင်ပြုတဲ့ အပြုအမူ၊ ကွယ်လွန်သူကို မြတ်နိုးခင်မင်သူ ဘယ်သူမှ ဒါမျိုး ဒီခေတ်အခါမှာ မလုပ်ပေဘူး။ကျွန်တော်အထင်ပြောရလျှင်တော့ ဒီအစဉ်အလာက သူမုန်းတီးတဲ့ဆွေမျိုးသေတာ ကြုံရသူတစ်ယောက်က စခဲ့တာဖြစ်ဖွယ်ရှိတယ်။ အလောင်းထားရာကြမ်းခင်းကလည်းရှိမယ်၊ ကြမ်းပြင်ကို ရေနှင့်ဆေးကြောပေလိမ့်မယ်။ အဲဒါကိုမြင်တဲ့သူများကလည်း အကြောင်းရင်းမသိဘဲ မျက်စေ့မှိတ်ပြီး နောင်အခါဆက်လုပ်ကြတာဖြစ်မှာပါ။

၆။ မသာတွင်းထဲ ခဲလောင်းထည့်ခြင်း

ဒီအစဉ်အလာ အကြောင်းကိုလည်း ဇာစ်မြစ်ဖော်တဲ့ ပုံပြင်တစ်ခုရှိပါတယ်။ သို့သော်လည်း အလွန်ကြီး ယုတ္တိ ယုတ္တာမဲ့နေပါတယ်။ ပရိသတ် အချိန်ဖြုန်းလောက်အောင် တန်ဖိုးမရှိပါဘူး။ ဒီအစား တချို့ မြန်မာလူကြီးများက ကျွန်တော့်ကို ပြောပြဖူးတဲ့ ဒီထုံးစံအကြောင်း ပြန်ပြောပါမယ်။ ဒါက 'ခွင့်လွှတ်လိုက် မေ့ပစ်လိုက်' အထိမ်းအမှတ်တစ်မျိုးပါပဲတဲ့။ တစ်ယောက်ယောက်က သင်္ချိုင်းတွင်းထဲ ခဲပစ်ထည့်သည့်အခါမှာ ပစ်သူက ဒီလိုဆိုသင့်သတဲ့။ 'မင်းနဲ့ငါကြားရန်ပွားခဲ့တာများရှိဖူးရင် အခု-ဒါနောက်ဆုံးပဲဟေ့'။ ဒါလူကြီးများက ပြောပြတာပါ။ မြေခဲလုံးက ကျွန်တော့်အထင် ငြိမ်းချမ်းရေးကမ်းလှမ်းချက်ပဲ ဖြစ်ပါလိမ့်မယ်။

## ၃၊ ၅ အဆုံးသတ်စကား

ကဲ- ပရိသတ်က ကျွန်တော်ရှစ်ကြိမ်ဟောပြောခဲ့တာကို အစအဆုံးဖြစ်စေ တစ်စိတ်တစ်ပိုင်းဖြစ်စေ စိတ်ဝင်တစားနားထောင်ခဲ့တာကို ကျွန်တော်ကျေးဇူးတင်ဝမ်းမြောက်စွာနဲ့ ကျွန်တော့် စကားပွဲရှည်ကြီးကို နိဂုံးချုပ်ပါတော့မယ်။ ပရိသတ်ကြီး မြန်မာဗုဒ္ဓဘာသာတစ်ယောက်ရဲ့ ဘဝဇာတ်ကွက်ကို တွေ့မြင်ခဲ့ပါပြီ။ ဒီပုဂ္ဂိုလ်က လူမျိုးဆက်နှစ်ဆက် ခွနေခဲ့သူပါ။ သူ့ဘဝအစမှ သေသည်အထိ ဖြစ်ပျက်စုံလင်ကို တွေ့မြင်ခဲ့ကြပါတယ်။ ဒီကနေပြီး မျိုးဆက်တစ်ခုရဲ့ ဘဝပုံစံက ရှေ့ကမျိုးဆက်အတိုင်း ပါပဲလားလို့ လူကြီးမင်းများ ကောက်ချက်ချချင် ချပေလိမ့်မယ်။ ဒါလုံးဝ မမှန်ပါဘူး။ အရာရာ ပြောင်းလဲနေပါတယ်။ သို့ပေမယ့် မြန်မာဗုဒ္ဓဘာသာရဲ့ အခြေခံ ယုံကြည်မှုနဲ့ ရိုးရာအစဉ်အလာများကတော့ လုံးဝမပြောင်းလဲသလောက်ပါပဲ။

မိသားစုကလည်း စည်းစည်းလုံးလုံး ရှိနေဆဲပါပဲ။ လူအသိုင်းအဝိုင်းကလည်း ညီညီညာညာ စုစုစည်းစည်းပါ။ ဗုဒ္ဓဘာသာကလည်း ထွန်းကားစည်ပင်နေပါတယ်။ လူတွေကလည်း ဒါန၊ သီလ၊ ဘာဝနာ အခြေခံတဲ့ ဘာသာရေးမှာ ပိုမိုကိုင်းရှိုင်းနေပါ တယ်။ ဘဝအဖန်ဖန်ဖြစ်တဲ့ သံသရာ ကံ ကံ၏အကျိုးနဲ့ နိဗ္ဗာန်ကို စွဲစွဲမြဲမြဲ ယုံကြည်တာကလည်း လျော့နည်းမသွားဘူး။ ဒီအတိုင်းပဲ သူတို့ရဲ့ဗေဒင်၊ နတ်၊ မှော်၊ အင်းအိုင်၊ အတိတ်တပေါင်၊ ဘိုးတော် မှော်ဆရာ ယုံကြည်မှုလည်း လျော့မသွားဘူး။ အကြောင်း မျိုးစုံကြောင့်လုပ်တဲ့ ပွဲတွေလည်း ဆက်လုပ်နေဆဲပါ။ ဒါကြောင့် ကျွန်တော့် ဟောပြောချက်မှာပါတဲ့ မြန်မာဗုဒ္ဓဘာသာ တစ်ယောက်ကို ဒီနေ့ မြန်မာပြည်တစ်လွှား နေရာတကာမှာ တွေ့နိုင် ဆုံနိုင်ပါသေးတယ်။

ပြင်သစ်ကောလိပ်ရဲ့ ပါမောက္ခများအဖွဲ့ကိုလည်း ကျွန်တော့်ကို ပါရီလာပြီး ရှစ်ကြိမ်ဟောပြောရန် ဖိတ်မန္တကပြုတဲ့အတွက် ကျေးဇူးအထူးတင်ရှိ ပါတယ်။ ဒီလိုဖိတ်ကြားလာတဲ့အတွက် ကျွန်တော်မိတ်ဟောင်းဆွေဟောင်းများနှင့်လည်းတွေ့ရ၊ မိတ်သစ်များလည်းရပါတယ်။ ယခုဟောပြောပွဲတက်တဲ့ မိတ်ဆွေများအနေနှင့် အချိန်ကုန်ရကျိုးနပ်မယ်လို့ မျှော်လင့်ပါတယ်။

အားလုံး မကြာမီ ပြန်လည်ဆုံတွေ့ကြပါစေသားလို့ နှုတ်ဆက် ဆုတောင်းပါတယ်။

Au revoir (လှဘေ)

(၁၉၈၄ ခု မတ်လ ၁၅ ရက်)

မှတ်ချက်။ ။ ဖေါ်ပြပါရှိသော စကားလုံးအသံဖလှယ်ပုံကို ချတ်(စ) ဒူရွိုက်စဲထွင်သော စနစ်အတိုင်း လိုက်ပါသည်။ (Epigraphia Birmanica I, i, pp6-12,Yangon, 1916) ရှုပါ။ ဤစနစ်ကိုပိုမိုပြီး ရှေ့နောက်လျော်ညီစေရန်နှင့် ခေတ်နှင့်တပြေးတည်းဖြစ်စေရန်အတွက် အချို့အပြောင်းအလဲများ လုပ်ထားပါသည်။ n အကြီးကို ññ နှင့်ရေးထားပါသည်။ သရ 'ʋ' ၏ သံပြေအစဉ်ကို 'ʋ' အဖြစ်ပြထားပါသည်။ အသံ သင်္ကေတများကို မြန်မာအက္ခရာတွင်အတိုင်းဖြစ်ပါသည်။ မြန်မာစကားလုံးများကို (အင်္ဂလိပ်အက္ခရာနှင့် ရေးသားရာတွင်) J.W. Okell ထောက်ခံအဆိုပြုသည့် စနစ်အတိုင်း လိုက်ပါသည်။ (A Guide to the Romanization of Burmese Language, London, 1971)ရှုပါ။

# APPENDIX

## The Auspicious and Inauspicious Days

In the cryptogram in mnemonics, by substituting 1 for Sunday, 2 for Monday, 3 for Tuesday, 4 for Wednesday, 5 for Thursday, 7 for Saturday and 8 for Rãhu ( Wednesday afternoon ) we get the following diagram showing the auspicious and inauspicious days for each of the twelve months.

You will notice that these twelve months are divided into three groups, each group containing four months, and that the pattern of the auspicious and inauspicious days of the first group repeat itself in the second and third groups.

| Months | Mnemonics | A- days | Mnemonics | U n A - days |
|---|---|---|---|---|
| Tankhû: | Sã-lha | 6-4 | ta-mã | 7-5 |
| Kachun | htwan:-pa | 7-5 | sak-raṅ: | 6-4 |
| Nayun | ññun.-ca | 3-3 | an-kraṅ: | 1-2 |
| Wàchui | oṅ -lha | 1-4 | chû:-rac | 3-8 |
| Wãkhon | sã-lui | 6-4 | do | do |
| Tosalaṅ: | nat-toṅ | 5-7 | do | do |
| Sitaṅ:kywat | chî-(chi) | 3-(3) | do | do |
| Tanchoṅmun | o-li | 1-4 | do | do |
| Natto | sã-luṁ: | 6-4 | do | do |
| Prãsui | ma-no | 5-7 | do | do |
| Tapui-twai | cî-ññui | 3-3 | do | do |
| Tapoṅ: | ai-waṅ | 1-4 | do | do |

## The Friendly and Unfriendly Days

The following are the compatible and incompatible days of the week on which the prospective bride and bridegroom were born.

U:-sa Sunday- Friday: 1-6
Cin-pan: Tuesday-Thursday: 3-5
dan:-lha Saturday-Wednesday: 7-4
rhã-kyaṅ Rãhu-Monday: 8-2

The unfriendly days are
dham-mã Saturday-Thursday: 7-5
So-ka Friday-Monday: 6-2
aṅ:wa Sunday-Wednesday: 1-4
rã-jã Rãhu-Tuesday: 8-3

## The Five Duties

**1. Parents**

(1) To guide their children away from evil
(2) To lead them to what is good
(3) To educate them
(4) To set them up financially
(5) To see that they are suitably married

**2. Children**

(1) To reciprocate their parents' favours
(2) To take responsibility for their parents' affairs
(3) To perpetuate the family
(4) To be worthy of one's inheritance
(5) To perform works of merit on their parents' behalf

**3. Husband**

(1) To love and adore his wife
(2) To esteem her
(3) To commit no adultery
(4) To endow her with worldly possessions
(5) To provide her with ornaments

**4.Wife**

(1) To manage efficiently all domestic obligations
(2) To look after the relatives
(3) To commit no adultery
(4) To protect the property
(5) To be industrious

**5. Teacher**

(1)To endow his pupils with knowledge
(2) To withold no knowledge from them
(3) To send them to other teachers ( to be better equipped )
(4) To admonish and exhort them
(5) To protect them from danger

**6. Pupil**

(1) To be assiduous
(2) To listen to the teacher's advice
(3) To learn what he teaches
(4) To greet him when he comes
(5) To administer to him by his side

TABLE

Days of the week with their corresponding letters of the alphabet and numbers.

| Days | Letters of the alphabet | Numbers |
|---|---|---|
| Sunday | a and other vowels | 1 |
| Monday | k, kh, g, gh, ṅ | 2 |
| Tuesday | c, ch, j, jh, ñ | 3 |
| Wednesday | l, w | 4 |
| Thursday | p, ph, b, bh, m | 5 |
| Friday | s, h | 6 |
| Saturday | t, th, d, dh, n | 7 |
| Rāhu | y, r | 8 |

Note: r sometimes – 4, and n–0 (zero)

# နောက်ဆက်တွဲ

## ၁။ ရက်ရာဇာနှင့် ပြဿဒါးနေ့များ

အက္ခရာမှတ်လက်ာများတွင် မြှုပ်ကွက်ဖော်ရန် တနင်္ဂနွေအတွက် ၁၊ တနင်္လာ ၂၊ အင်္ဂါ ၃၊ ဗုဒ္ဓဟူး ၄၊ ကြာသပတေး ၅၊ သောကြာ ၆၊ စနေ ၇ နှင့်ရာဟု ၈ (ဗုဒ္ဓဟူးမွန်းလွဲပိုင်း) ကိန်းများအစားသွင်းပါ။ တစ်ဆယ့်နှစ်လမှ တစ်လစီအတွက် အောက်ပါဇယားအတိုင်း ရက်ရာဇာနှင့် ပြဿဒါးရက်များရရှိမည်။

တစ်ဆယ့်နှစ်လသည် လေးလတစ်အုပ်စုနှင့် သုံးစုကွဲကြောင်းတွေ့လိမ့်မည်။ ရက်ရာဇာပြဿဒါးပေါ်ပုံသည် ပထမအုပ်စုတွင် ပေါ်သည့်အတိုင်းနောက်အစုများ တွင်ပြန်ကျော့သည်ကို သတိပြုပါ။

| လအမည် | အက္ခရာမှတ် | ရက်ရာဇာ | အက္ခရာမှတ် | ပြဿဒါး |
|---|---|---|---|---|
| တန်ခူး | သာ-လှ | ၆-၄ | တ-မာ | ၇-၅ |
| ကဆုန် | ထွန်း-ပ | ၇-၅ | သက်-ရင်း | ၆-၄ |
| နယုံ | ညွန့်-စ | ၃-၃ | အင်-ကြင်း | ၁-၂ |
| ဝါဆို | အောင်-လှ | ၁-၄ | ဆူး-ရစ် | ၃-၈ |
| ဝါခေါင် | သာ-လို | ၆-၄ | ။ | ။ |
| တော်သလင်း | မြ-တောင် | ၅-၇ | ။ | ။ |
| သီတင်းကျွတ် | ဆီ | ၃-(၃) | ။ | ။ |
| တန်ဆောင်မုန်း | သော-ရီ | ၁-၄ | ။ | ။ |
| နတ်တော် | ချမ်း-လုံး | ၆-၄ | ။ | ။ |
| ပြာသို | မိ-နော် | ၅-၇ | ။ | ။ |
| တပို့တွဲ | ညို | ၃-၃ | ။ | ။ |
| တပေါင်း | ထဲ-ဝင် | ၁-၄ | ။ | ။ |

၂။ (က) နေ့နံသင့်၊ မသင့် နေ့များ

သတို့သားနှင့် သတို့သမီးဖွားနေ့အလိုက် နေ့နံသင့်သောအတွဲနှင့် မသင့်သောအတွဲများမှာအောက်ပါအတိုင်း ဖြစ်သည်။

(က) နေ့နံသင့်များ

| | | |
|---|---|---|
| ဥ-သာ | တနင်္ဂနွေ-သောကြာ | ၁-၆ |
| စိန်-ပန်း | အင်္ဂါ-ကြာသပတေး | ၃-၅ |
| ဒါန်း-လှ | စနေ-ဗုဒ္ဓဟူး | ၇-၄ |
| ရှာ-ကုမ် | ရာဟု-တနင်္လာ | ၈-၂ |

(ခ) နေ့နံမသင့်များ

| | | |
|---|---|---|
| မဓ္မာ | စနေ-ကြာသပတေး | ၇-၅ |
| သောက | သောကြာ-တနင်္လာ | ၆-၂ |
| အင်းဝ | တနင်္ဂနွေ-ဗုဒ္ဓဟူး | ၁-၄ |
| ရာဇာ | ရာဟု-အင်္ဂါ | ၈-၃ |

၃။ ရက်သတ္တပတ်နေ့များနှင့် ဆိုင်ရာအက္ခရာများ၊ ဂဏန်းများ

| နေ့ | အက္ခရာများ | ဂဏန်း |
|---|---|---|
| တနင်္ဂနွေ | အနှင့်အခြားသရများ | ၁ |
| တနင်္လာ | က၊ ခ၊ ဂ၊ ဃ၊ င | ၂ |
| အင်္ဂါ | စ၊ ဆ၊ ဇ၊ ဈ၊ ည | ၃ |
| ဗုဒ္ဓဟူး | လ၊ ဝ | ၄ |
| ကြာသပတေး | ပ၊ ဖ၊ ဗ၊ ဘ၊ မ | ၅ |
| သောကြာ | သ၊ ဟ | ၆ |
| စနေ | တ၊ ထ၊ ဒ၊ ဓ၊ န | ၇ |
| ရာဟု | ယ၊ ရ | ၈ |

မှတ်ချက် ။ တစ်ခါတစ်ရံ ရ-၄ နှင့် န-၀ (သုည)

၄။ ဝတ်ငါးပါး

၁။ မိဘဝတ်

၁။ မကောင်းတာ မလုပ်အောင် တားမြစ်ခြင်း၊
၂။ ကောင်းမှုကောင်းရာကို ညွှန်ပြခြင်း၊
၃။ အတတ်ပညာ သင်ကြားပေးခြင်း၊
၄။ လုပ်ကိုင်စားရန် အရင်းအနှီးပေးခြင်း၊
၅။ လက်ထပ် ထိမ်းမြားပေးခြင်း။
(လင်္ကာ ။ ။ မကောင်းမြစ်တား၊ ကောင်းရာညွှန်လတ်၊ အတတ်သင်စေ၊ ပေးဝေ နှီးရင်း၊ ထိမ်းမြားခြင်း)

၂။ သားသမီးဝတ်

၁။ မိဘတို့ကို လုပ်ကျွေးခြင်း၊
၂။ မိဘတို့၏ အမှုကိစ္စကို ဆောင်ရွက်ပေးခြင်း၊
၃။ မိဘမျိုးနွယ်ကို စောင့်ထိန်းခြင်း၊
၄။ အမွေခံထိုက်အောင် ပြုကျင့်ခြင်း၊
၅။ မိဘအတွက် ကုသိုလ်ကောင်းမှုပြု၍ အမျှဝေခြင်း။
(လင်္ကာ ။ ။ ကျွေးမွေးမပျက်၊ ဆောင်ရွက်စီမံ၊ မွေခံထိုက်စေ၊ လှူမျှဝေ၍ စောင့်လေမျိုးနွယ်။)

၃။ လင့်ဝတ်

၁။ မယားကို တန်ဖိုးထား၍ မထီလေးစား မပြုခြင်း၊
၂။ မယားကို မြတ်နိုး ကြင်နာခြင်း၊
၃။ အိမ်ထောင်ရေး ဖောက်ပြား မှားယွင်းမပြုခြင်း၊
၄။ ရှာဖွေရသမျှ ပစ္စည်းကို အပ်နှံခြင်း၊
၅။ အဝတ်အစား လက်ဝတ်ရတနာ ဆင်မြန်းပေးခြင်း။
(လင်္ကာ ။ ။ မထီမဲ့ကင်း၊ အပ်နှင်းဥစ္စာ၊ မိစ္ဆာမမှား၊ ဝတ်စား ဆင်ယင်၊ မြတ်နိုးကြင်)

၄။ မယားဝတ်

၁။ အိမ်တွင်းမှုလုပ်ပြီး အဆင်ပြေအောင် စီမံခန့်ခွဲရမည်၊
၂။ ဆွေမျိုးများအား သင့်လျော်စွာ ဝေမျှပေးကမ်းခြင်း၊
၃။ အိမ်ထောင်ရေး ဖောက်ပြန် မှားယွင်းမပြုခြင်း၊
၄။ ပစ္စည်းဥစ္စာကို ထိန်းသိမ်းစောင့်ရှောက်ခြင်း၊
၅။ မပျင်းရိဘဲ အလုပ်လုပ်ဆောင်ခြင်း။
(လင်္ကာ ။ ။ အိမ်တွင်းမှုလုပ်၊ သိမ်းထုပ်သေချာ၊ မိတ္တာကြည်ရှောင်၊
လျော်အောင် ဖြန့်ချိ၊ ပျင်းရိမမူ။)

၅။ ဆရာဝတ်

၁။ တတ်သိစရာ အတတ်ပညာများ သင်ကြားပေးခြင်း၊
၂။ မိမိတတ်သမျှကို မချွင်းမချန်သင်ပေးခြင်း၊
၃။ ပိုမိုတတ်သိစေရန် သင့်တော်ရာ အခြားဆရာများထံ အပ်နှံပေးခြင်း၊
၄။ လိမ္မာအောင် ဆုံးမပြုပြင်ပေးခြင်း၊
၅။ ဘေးအန္တရာယ်မှ ကာကွယ်ပေးခြင်း။
(လင်္ကာ ။ ။ အတတ်လည်းသင်၊ ပဲပြင်ဆုံးမ၊ သိပ္ပမချန်၊ ဘေးရန်ဆီးကာ၊
သင့်ရာအပ်ဖို့။)

၆။ တပည့်ဝတ်

၁။ ထထကြွကြွ ကြိုးစားအားထုတ်ခြင်း၊
၂။ ဆရာ ဆုံးမသွန်သင်သည်ကို နာခံခြင်း၊
၃။ သင်ကြားပေးသမျှကို ကျက်မှတ်ခြင်း၊
၄။ ဆရာလာသောအခါ ကောင်းစွာကြိုဆိုနှုတ်ဆက်ခြင်း၊
၅။ ဆရာထံပါးဝယ် ပြုဖွယ် အလုပ်ကိစ္စများ လုပ်ပေးခြင်း။
(လင်္ကာ ။ ။ ညီညာထကြွ၊ ဆုံးမနာယူ၊ လာမူကြိုဆီး၊ ထံနီးလုပ်ကျွေး၊
သင်တွေးအံရွတ်။)

## BIBILOGRAPHY


1. Basham, A.L. **The Wonder That Was India**, London, 1977
2. Conze, E. **Buddhism**, Bruno Cassirer, Oxford, 1952
3. Duroiselle, Ch. 'Upagutta et Mara', **Extract du Bulletin L'ecole Francaise D'extreme-Orient** (Janvier-Juin 1904)
   **Epigraphia Birmanica I**, Rangoon, 1916
4. Hall, D.G.E. **A History of South-East Asia**, St Martin's Press, New York, 1968
5. Halliday, R. **The Talaings**, Rangoon(Yangon), 1917
6. Hla Pe, **Konmara Pya Zat**, I, Luzac & Co. Ltd, London, 1952
   **Burmese(Myanmar) Proverbs**, John Murray, London, 1962
   'Dawn Songs', **BSOAS**, 1957, XX
   'Abbreviations, Cryptograms and Chronograms in Burmese (Myanmar)', **JBRS**, XLVII, ii, Dec. 1964
   'Burmese(Myanmar) Attitudes to Plants and Animals' **'Natural Symbols in South-East Asia,'** ed. G.B.Milner, School of Oriental and African Studies, 1978
7. Houtman, G. **Burmese(Myanmar) Personal Names**, Department of Religious Affairs, Rangoon(Yangon), 1982
8. Htin Aung, Maung. **Folk Elements in Burmese(Myanmar) Buddhism**, London, 1962
9. Luce, G.H. 'Prayers of Ancient Burma(Myanmar)', **JBRS**, XXVI, iii, Dec. 1936
10. Luce, G.H. & Pe Maung Tin. 'Burma(Myanmar) Down to the Fall of Pagan', **JBRS**, XXIX, iii, Dec. 1939
11. Pe Maung Tin. **The Path of Purity**, Oxford University Press, Vol.1, 1923; Vol.II, 1929; Vol. III, 1931
12. Pe Maung Tin & Luce, G.H. **The Glass Palace Chronicle of the Kings of Burma**(Myanmar), Oxford University Press, London, 1923
13. Rahula, Walpola. **What the Buddha Taught**, Grove Press, Inc., New York, 1959
14. Shway Yoe. **The Burman(Myanmar):** his life and notions, Macmillan and Co. Ltd, London, 1910
15. Temple, Sir R.C. **The Thirty-seven Nats**, London, 1906

In (Myanmar)

1. Compiled by scholars : **Maha Ya-zawin-daw-gyi I**, (History of Myanmar), Upper Burma(Myanmar) Newspaper Press, Mandalay, 1908
2. Hsaya Thin. **Maung Ta-nàw Wut-htu**, I & II, Rangoon(Yangon), (?), 1906

